



စွယ်စုံကျော်ထင်ကျမ်းလာ

# အဘိဓမ္မာဆိုင်ရာ ပြဿနာများ


အရှင်ကက္ကန္ဒောဘာသ (ညောင်လေးပင်)

ယပါရဂူ၊ သာသနဓဇဓမ္မာစရိယ၊ သာသနတက္ကသီလမဟာဓမ္မာစရိယ(M.A)၊

ကထိက အဘိဓမ္မပိဋကမဟာဌာန

နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်)

၁၃၅၃-၁၃၅၄ ခု ပညာသင်နှစ်






ဒါနဟူသမျှ အဝဝတွင် တရားအလှူ အောင်လံထူ၏

## အမြတ်ဆုံး ဓမ္မလက်ဆောင်

သို့

---------------------------------------

---------------------------------------

---------------------------------------

ဤကောင်းမှုကံ ဗောဓိဉာဏ်
အမှန်ရကြောင်း ဖြစ်စေသော်

မှ

------------------------------------

------------------------------------

------------------------------------





# စွယ်စုံကျော်ထင်ကျမ်းလာ
# အဘိဓမ္မာဆိုင်ရာပြဿနာများ

အရှင်ကုဏ္ဍောဘာသ(ညောင်လေးပင်)




သာသနာရေးဝန်ကြီးဌာန
သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန
ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့

သာသနာ- ၂၅၄၇ ကောဇာ-၁၃၆၅ ခရစ်- ၂၀၀၃

ထုတ်ဝေသူ-




ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဝန်ကြီးဌာန
သာသနာတော်ထွန်းကားပြန့်ပွားရေးဦးစီးဌာန
ညွှန်ကြားရေးမှူး- ဦးထွန်းမြအောင်
ယာယီမှတ်ပုံတင်အမှတ်-(၅၄၉) မှထုတ်ဝေသည်။

# ကျေးဇူးတင်လွှာ

ဤကျမ်းကိုပြုစုရာ၌ ကျမ်းခေါင်းစဉ်ကိုရွေးချယ်ပေးပြီး အတည်ပြုပေးခဲ့ကြသော အဂ္ဂမဟာပဏ္ဍိတ ဘဒ္ဒန္တတိလောကာဘိဝံသ (အဘိဓမ္မပိဋကမဟာဌာန နာယကဆရာတော်)၊ ဆရာကြီးဦးမြင့်ကြည် (ညွှန်ကြားရေးမှူးမြန်မာစာ ဦးစီးဌာန)နှင့်ဆရာကြီး ဦးကျော်လွှင် (တွဲဖက် နာယကသုတ္တန္တပိဋကမဟာဌာန) တို့အား ကျေးဇူးတင်ရှိပါကြောင်း ဖော်ပြအပ်ပါသည်။

ထို့ပြင်ဤကျမ်းကိုပြီးမြောက်အောင်မြင်သည်အထိ ဂရုတစိုက် စေတနာထက်သန်စွာဖြင့် ကြီးကြပ်ညွှန်ကြားပြသပေးသော ဆရာကြီးဦးစံတင် (တွဲဖက်ဌာနမှူးပိဋကတ်ဆိုင်ရာ မြန်မာစာပေဌာန)အား အထူးကျေးဇူးတင်ရှိကြောင်း မှတ်တမ်းတင်အပ်ပါသည်။

၎င်းပြင်ဤကျမ်းရေးသားနိုင်ရန် ညွှန်ကြားပြသပို့ချပေးခဲ့ကြသည့် နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်)မှ သက်ဆိုင်ရာ နာယက ကထိကဆရာတော်များအားလည်းကောင်း၊ ငယ်စဉ်ကစ၍ယနေ့တိုင်အောင် သင်ကြားပြသပေးခဲ့ကြသော အမိ,အဖ၊ ဆရာ သမားများအားလည်းကောင်း၊ ကျမ်းပြုစုနိုင်ရေး အတွက် လိုအပ်သည့်စာအုပ်စာတမ်းများနှင့်အကြံဉာဏ်များကိုပါ ရှာဖွေပေးခဲ့ကြသည့် သီတင်းသုံးဖော်များအားလည်းကောင်း၊ ကျမ်းစာအုပ်ဖြစ်မြောက်ရေးအတွက် အကြံဉာဏ်များနှင့်တကွ တိုက်တွန်းနှိုးဆော်ပေးသော ပြင်ပဆရာကြီး ဦးစိန်ဝင်းအား လည်းကောင်း ကျေးဇူးတင်ရှိပါကြောင်းဖော်ပြအပ်ပါသည်။ ။

# မာတိကာ

# နိဒါန်း

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

## မာတိကာ

## နိဒါန်း

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
|---|---|---|

| စဉ် | အကြောင်းအရာ | စာမျက်နှာ |
| --- | --- | --- |

# နိဒါန်း

## ကျမ်းနယ်နိမိတ်

ဤကျမ်း၏အမည်မှာ **"စွယ်စုံကျော်ထင်ကျမ်းလာအဘိဓမ္မာဆိုင်ရာပြဿနာများ"**ဖြစ်ပါသည်။ အဘိဓမ္မာဟူသည် "ဓမ္မာတိရေက ဓမ္မဝိသေသဋ္ဌေန အဘိဓမ္မောတိ ဝုစ္စတိ-ဟူသောအဋ္ဌသာလိနီ အဋ္ဌကထာစကားအရ-သာလွန်သောတရား၊ ထူးခြားသောတရား"ဟု အဓိပ္ပါယ်ရပါသည်။

၎င်းအဘိဓမ္မာကျမ်းများသည် မူရင်းအားဖြင့် ဓမ္မသင်္ဂဏီ, ဝိဘင်း,ဓာတုကထာ,ပုဂ္ဂလပညတ်,ကထာဝတ္ထု,ယမိုက်,ပဋ္ဌာန်း-ဟူ၍ (၇)ကျမ်းသာရှိ၏။ သို့သော် ထိုမူရင်းမိခင်အဘိဓမ္မာ(၇)ကျမ်းတို့မှ ပေါက်ဖွားလာသော အဘိဓမ္မာဆိုင်ရာကျမ်းများကား ယနေ့ခေတ်၌ အများအပြားပင်ရှိနေပေပြီ။ သို့ဖြစ်၍"အဘိဓမ္မာဆိုင်ရာပြဿနာများ"ဟုဆိုလျှင် အလွန်ကျယ်ဝန်းသွားမည်စိုး၍"**စွယ်စုံကျော်ထင်ကျမ်းလာ**"ဟူသောစကားဖြင့် အဘိဓမ္မာဆိုင်ရာ ပြဿနာများ ရှာဖွေရာကျမ်းကို ဘောင်ခတ်ထားပါသည်။

ထို့ပြင် ပြဿနာ-ဟူသောစကားဖြင့် စွယ်စုံကျော်ထင်ကျမ်း၌ အဘိဓမ္မာဆိုင်ရာအကြောင်းအရာအားလုံးကို ရေးသားမည်မဟုတ်၊ ဖြစ်ပေါ်လာသည့်ကိစ္စရပ်၊ ထူးခြားသောအကြောင်းအရာ ဖြစ်သည့် အဆိုကွဲလွဲသည့်အရာမျိုး၊ မပြည့်စုံသည့်အရာမျိုး စသော စောဒကတက်ဖွယ်ရာရှိသည့် ပြဿနာမျိုးကိုသာ ရေးသား

မည်ဟူ၍ လေ့လာရေးသားမည့်အကြောင်းအရာမျိုးကိုလည်း ဘောင်ခတ်ထားပါသည်။

သို့ဖြစ်၍ **"စွယ်စုံကျော်ထင်ကျမ်းလာအဘိဓမ္မာ ဆိုင်ရာ ပြဿနာများ"**ဟူသောခေါင်းစဉ်စကားဖြင့် စွယ်စုံကျော်ထင်ကျမ်း၌ အဘိဓမ္မာဆိုင်ရာအဆိုကွဲလွဲသည့်အကြောင်းအရာမျိုး၊ မပြည့်စုံသည့် အကြောင်းအရာမျိုး စသည်ဖြင့် စောဒကတက်ဖွယ်ရာရှိသည့် အကြောင်းအရာပြဿနာများကိုသာ လေ့လာရေးသားမည်ဟူသော ကျမ်းနယ်နိမိတ်သတ်မှတ်ချက်အဓိပ္ပါယ်ကိုသိစေပါသည်။

## ကျမ်းစာရေးသားရခြင်းအကြောင်း

ကျမ်းပြုသူသည် ဤကျမ်းခေါင်းစဉ်ကို ကိုယ်တိုင်ရွေးချယ်ခဲ့ခြင်းမဟုတ်ပေ။ စွယ်စုံကျော်ထင်ကျမ်း၌အဘိဓမ္မာ ဆိုင်ရာပြဿနာများကို ကျမ်းပြုစု၍ ရလိမ့်မည်ဟူ၍လည်းမသိမြင်ခဲ့ပေ။ သို့သော် ကျမ်းပြုသူ၏ဆရာဖြစ်သည့် အဘိဓမ္မပိဋကမဟာဌာန နာယက **ဘဒ္ဒန္တတိလောကာဘိဝံသ** (အဂ္ဂမဟာပဏ္ဍိတ)အင်းစိန်ရွာမဆရာတော်ဘုရားကြီးက စွယ်စုံကျော်ထင်ကျမ်း၌ အဘိဓမ္မာဆိုင်ရာ အဖြေများတွင် အချို့သောအဖြေများသည် မူရင်းအဘိဓမ္မာကျမ်းများနှင့် မကိုက်ညီဘဲ အားနည်းလျက်ရှိသည်ကိုတွေ့ရ၏။ သို့ဖြစ်၍ ၎င်းပြဿနာဖြစ်သည့်အဖြေများကို မူရင်းကျမ်းတို့နှင့်အညီ ပြန်လည်ဖြည့်စွက်ပြီး **"စွယ်စုံကျော်ထင်ကျမ်းလာအဘိဓမ္မာ ဆိုင်ရာပြဿနာများ"**ဟူသောခေါင်းစဉ်ဖြင့် ကျမ်းတစ်စောင် ရေးသားလျှင်ဖြစ်နိုင်စရာရှိသည်ဟု ညွှန်ကြားလာပါသည်။

# နိဒါန်း

ယင်းညွှန်ကြားချက်အရ ကျမ်းပြုသူသည် ရေး၍ကောင်းမည် မကောင်းမည်ကို စဉ်းစားကြည့်သောအခါ ရေးပြီးသားရှိနေသည့် **စွယ်စုံကျော်ထင်ဝိသောဓနီကျမ်း**ကဲ့သို့သော အလွန်လိုအပ်သောကျမ်း မျိုးဖြစ်နေ၍ ရေးလျှင်ကောင်းမည်ဟုသုံးသပ်မိပါသည်။ ယင်း ညွှန်ကြားချက်, သုံးသပ်ချက်များအရကျမ်းပြုသူသည် ကျီးသဲလေး ထပ်ဆရာတော်ဘုရားကြီး၏ စွယ်စုံကျော်ထင်ကျမ်း၌ အဘိဓမ္မာ ဆိုင်ရာအကြောင်း အရာများမှ ပြဿနာဖြစ်သည့် အကြောင်းအရာ များကို ကျမ်းတစ်စောင် ရေး၍ ဖြစ်မည်မဖြစ်မည်ကို ဆက်လက်လေ့လာ စိစစ်ရပါသည်။

ယင်းသို့လေ့လာစိစစ်ယင်း စွယ်စုံကျော်ထင်ကျမ်းကြီးသည် အလွန်ထူးခြားကောင်းမွန်သည့် ကျမ်းကြီးတစ်ဆူဖြစ်ကြောင်း တွေ့ရှိလာပါသည်။ မြန်မာစာပေလောကတွင် "စွယ်စုံကျမ်း"ဟူသော ဝေါဟာရသည် ဤစွယ်စုံကျော်ထင်ကျမ်းကြီးမှထွက်ပေါ်လာသော ဝေါဟာရတစ်ခုဖြစ်ပါသည်။ ရှင်းပါဦးအံ့ ။ ကမ္ဘာပေါ်ရှိအထက်တန်း ကျသောနိုင်ငံတိုင်းတွင် တစ်ကမ္ဘာလုံး၏အကြောင်းအရာမျိုးစုံ၊ ပညာရပ်မျိုးစုံပါဝင်ရေးသားထားသော ဂန္ထဝင်မြောက်ကျမ်းကြီးများ ရှိကြ၏။ ၎င်းကျမ်းကြီးမျိုးကို အင်္ဂလိပ်ဘာသာဖြင့် ANENCY CLOPAEDIA.(အင်စိုင် ကလိုပီးဒီယား)ဟုခေါ်၏။ အဓိပ္ပါယ်မှာ- ဝိဇ္ဇာသိပ္ပံပညာရပ်များကို သင်ကြားပေးခြင်းဟု အဓိပ္ပါယ်ရပါသည်။ မူရင်းဂရိဘာသာမှ ဆင်းသက်လာသော စကားဖြစ်၏။

ကမ္ဘာ့တိုင်းပြည်များ၌ မိမိတို့ဘာသာစကားဖြင့် ယင်းကျမ်း ကြီးများရှိသည့်နည်းတူ မြန်မာနိုင်ငံ၌လည်း နိုင်ငံတော်အစိုးရက

# နိဒါန်း

ယင်းကျမ်းကြီးမျိုးကို အတွဲပေါင်းတစ်ဆယ့်ငါးတွဲဖြင့် ရေးသားပြုစုထုတ်ဝေခဲ့ပါသည်။ စာအုပ်အမည်ကိုလည်း မြန်မာအမည် စစ်စစ်ဖြစ်စေရန်အတွက် စွယ်စုံကျော်ထင်အမေးအဖြေကျမ်းကြီးမှ စွယ်စုံဟူသောစကားလုံးကိုယူ၍"မြန်မာ့စွယ်စုံကျမ်း"ဟုအမည်ပေးခဲ့ပါသည်။ ဤသို့မြန်မာ့စာပေလောက၌ စွယ်စုံကျော်ထင်ကျမ်းကြီးကိုအမှီပြု၍ "စွယ်စုံကျမ်း"ဟူသော စာပေဝေါဟာရသစ်တစ်ခုပေါ်ထွန်းလာ၍ မြန်မာ့စာပေသမိုင်းတွင် မော်ကွန်းတင်လောက်အောင်ထူးခြားကောင်းမွန်သည့် ကျမ်းကြီးဖြစ်ပေသည်။

စွယ်စုံကျော်ထင်ကျမ်း၌ စွယ်စုံဟူသည့်အမည်သည် မုချအားဖြင့်အစွယ်နှစ်ချောင်းရှိသည့် စွယ်စုံဆင်၏အမည်ဖြစ်၏။ ယင်းစွယ်စုံဆင်သည် အစွယ်မရှိသည်လည်းမဟုတ်၊ အစွယ်လိုနေသည်လည်းမဟုတ်၊ ရှိသင့်သည့်အစွယ်နှစ်ချောင်းလုံး အပြည့်အဝအစုံအလင်ရှိ၏။ ယင်းစွယ်စုံဆင်၏အမည်ကိုယူ၍ သတ်ပုံလည်းရ၊ အတတ်လည်းကုန် နှစ်ချက်စုံပြီး လောကရေး ဓမ္မရေးဗဟုသုတအပြည့်အဝ အစုံအလင်ရှိသောကျမ်း၌ တင်စားပြီးကျမ်းပြုပုဂ္ဂိုလ်ကစွယ်စုံကျော်ထင်ကျမ်းဟု အမည်ပေးခဲ့၏။

ယင်းကဲ့သို့စုံလင်သည့်အဓိပ္ပါယ်ဖြင့် အမည်ပေးခဲ့သည့်အားလျော်စွာ စွယ်စုံကျော်ထင်ကျမ်း၌ သိမှတ်ဖွယ်ရာဗဟုသုတများစုံလင်လှ၏။ ကြည့်ကန်ရှင်ကြီးရှင်နန္ဒဓဇသည် ပါဠိတော်၊အဋ္ဌကထာ၊ဋီကာနှင့် ဂန္ထန္တရကျမ်းမျိုးစုံတို့မှ"ဆူရာရွှေနုတ် သည်းခြေကို ထုတ်ပြီးလျှင်"ဆိုသကဲ့သို့ မှတ်သားဖွယ်ရာဗဟုသုတများကို ထုတ်နုတ်၍ သတ်ပုံသံပေါက်ကဗျာဖြင့် ဉာဏ်စမ်းပုစ္ဆာပြုလုပ်ထားခဲ့သည်မှာ

အံ့သြစရာဖြစ်သည်။ "အမေးနွားကျောင်းသားအဖြေဘုရားလောင်း" ဟူသောစကားပုံများအရ ပုစ္ဆာမေးရာတွင် စာပေဗဟုသုတ အထွေထွေတတ်ကျွမ်းစရာမလို စာပေပညာမတတ်သော နွားကျောင်းသား, ကျွဲကျောင်းသားများပင်ပြဿနာမေးနိုင်စွမ်းရှိ၏။ ဖြေဆိုရာ တွင်မူ ဘုရားလောင်းတမျှ ပညာဗဟုသုတရှိသူများသာ ဖြေဆိုနိုင် ကြ၏။ ဤသို့အမေးပုစ္ဆာပြုရာတွင်လွယ်ကူသလောက် ဖြေဆိုရာမှာ အလွန့်အလွန်ခက်ခဲကြောင်း ဆိုရိုးစကားရှိသော်ငြားလည်း သူလို ငါလို သာမညပုဂ္ဂိုလ်တိုင်း ပညာရှိများလက်ခံနိုင်၍ ခိုင်လုံကောင်း မွန်သည့် ကြောင်းကျိုးစုံလင် မော်ကွန်းဝင်သောပုစ္ဆာမျိုးကိုကား မေးနိုင် ကြမည်မဟုတ်ချေ။

ဤစွယ်စုံကျော်ထင်ကျမ်းမျိုးကိုကား နွားကျောင်းသား, ကျွဲကျောင်းသားများကိုမဆိုထားဘိ လောကီလောကုတ္တရာပညာကုံလုံပြည့်ဝတတ်ကျွမ်းသည့်ပုဂ္ဂိုလ်များပင် မေးနိုင်ဘို့ခဲယဉ်း ကြပေလိမ့်မည်။ ထိုကြောင့်ပင် ကုန်းဘောင်ခေတ်မှစ၍ ယနေ့ခေတ် တိုင်အောင် နှစ်ပေါင်း (၂၀၀)အတွင်းထိုကျမ်းပြုပုဂ္ဂိုလ်တစ်ဦးသာ ပေါ်ထွက်ခဲ့သည်က သက်သေခံနေသည်မဟုတ်ပါလော့။

ကြည့်ကန်ရှင်ကြီးရှင်နန္ဒဓဇသည် စွယ်စုံကျော်ထင်ဉာဏ်စမ်းပုစ္ဆာ သတ်ပုံသံပေါက်ကျမ်းကို သက္ကရာဇ် ၁၁၅၈-ခုနှစ်တွင်ပြုစုရေးသားခဲ့၏။[၁] ယင်းပုစ္ဆာကျမ်းရေးပြီးနောက် နှစ်ပေါင်း(၆၀)ဝန်းကျင်အတွင်း ထိုအမေးကျမ်းကိုပြည့်ပြည့်ဝဝ ဖြေဆိုနိုင်သူမပေါ်

---

၁။ ကြည့်ကန်ရှင်ကြီးမေတ္တာစာနှင့်ခက်ဆစ်အဖြေ၊ ရန်ကုန်မြို့၊ ပြည်ကြီးမဏ္ဍိုင်ပိဋကတ်ပုံနှိပ်တိုက်၊ ၁၉၅၇-ခုနှစ်၊ ကြည့်ကန်ရှင်ကြီးအတ္ထုပ္ပတ္တိအခန်း။

ထွန်းခဲ့ပေ။ သို့သော်ထိုအမေးပုစ္ဆာကျမ်းရေးပြီးနောက် နှစ်ပေါင်း (၆၈)နှစ်အကြာ ၁၂၂၆-ခုနှစ်သို့ရောက်သောအခါတွင်ကား နှစ်ပေါင်းတစ်ထောင်ကြာမှတစ်ကြိမ်သာပွင့်သော အာသာဝတီနွယ်နီ နတ်ပန်းကဲ့သို့ စွယ်စုံကျော်ထင်ပုစ္ဆာသံပေါက်ကျမ်းကို ဖြေဆိုနိုင်သူ ပညာရှိပုဂ္ဂိုလ်ကျော်တစ်ဦးထူးထူးခြားခြားပေါ်ပေါက်ခဲ့ပေ၏။ ယင်းပုဂ္ဂိုလ်ကားအခြားမဟုတ် ရွှေတောင်မြို့ ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီးပင်ဖြစ်ပါသည်။ ယင်းဆရာတော်ဘုရားကြီး သည် ကြည့်ကန်ရှင်ကြီးရှင်နန္ဒမေဓ ကဲ့သို့ပင် လောက,ဓမ္မ,ရာဇမလပ် ကြောင်းသုံးရပ်၌နှံ့စပ်သိမြင် ကျွမ်းကျင်လိမ္မာသော ဉာဏ်သူကြွယ် ဉာဏ်သူဌေးကြီးပင်ဖြစ်တော်မူ၏။ ထို့ကြောင့်ပင်စွယ်စုံကျော်ထင် အမေးကျမ်းကို ဖြေဆိုရာ၌ ဝန်မလေးဘဲ ပါဠိတော်,အဋ္ဌကထာ, ဋီကာနှင့် ဂန္ထန္တရခေါ် အထွေထွေကျမ်းမျိုးစုံတို့မှ ထုတ်နုတ်ပြီး ဉာဏ်စွမ်းရည်တူဖြေဆိုနိုင်ခဲ့ပါသည်။

ထိုသို့ဉာဏ်ရည်တူသူတို့မေးဖြေထားသော စွယ်စုံကျော်ထင် အမေးအဖြေကျမ်းကြီးကား အထူးထူးသောအကြားအမြင် မှတ်ချင် စရာတို့နှင့်ပြည့်စုံ၏။ ကျမ်းကျယ်ပြန့်ကြီးမားသလောက် ကြည့်ရှု၍ မငြောင်းအောင် နှစ်သက်စရာအလွန်ကောင်း၏။ သုတေသီတို့၏ စိတ်နှလုံးကို ရွှင်ပြုံးအောင်စွမ်းဆောင်နိုင်၏။ မြန်မာပြည်တွင် စံတင်လောက်သည့် ဂန္ထဝင်မြောက်ကျမ်းကြီးတစ်ဆူဖြစ်၏။ ဤ အကြောင်းများကြောင့် စွယ်စုံကျော်ထင်ကျမ်းကြီးကို အလွန် ထူးခြား ကောင်းမွန်သည့် ကျမ်းကြီးတစ်ဆူဖြစ်သည်ဟု ဆိုခြင်းဖြစ်ပါသည်။

ယင်းသို့ ဗဟုသုတလောက်ငကိုလုံ ပြည့်စုံသည့် စွယ်စုံ ကျော်ထင်ကျမ်းကြီးတွင် အဘိဓမ္မာဆိုင်ရာအချို့အဖြေတို့၌ ပမာဒ

ကြောင့်ချွတ်ချော်သည့်အရာ အနည်းငယ်ပါရှိနေသည်ကို လေ့လာတွေ့ရှိရ၏။ ယင်းအချက်ကြောင့်ကျမ်းပြုသူ၌ ဂုဏ်မလျော့နိုင်ပါ။ အဘယ့်ကြောင့်ဆိုသော် ဤကဲ့သို့ အနည်းငယ်မျှလောက်သော ချွတ်ချော်မှုမျိုးကား ကျမ်းပြုသူတို့ တစ်ခါတစ်ရံ တွေ့ကြုံရတတ်သော အမှုမျိုးပင်ဖြစ်သောကြောင့်တည်း။

ဥပမာအားဖြင့် သုံးကျွန်းလုံးကို တစ်ပြိုင်နက်ထွန်းလင်းစေနိုင်သော နေမင်းကြီးဖြစ်ပါလျက်လည်း ဝါးလုံးခေါင်း၊ ဝါးဆစ်အတွင်း၌ မထွန်းလင်းနိုင်။ ထိုသို့မထွန်းလင်း နိုင်ကာမျှဖြင့် သုံးကျွန်းလုံးကို တစ်ပြိုင်နက်ထွန်းလင်းနိုင်သော နေမင်းကြီးသည် အရောင်အဝါမရှိဟု မဆိုနိုင်ဘိသကဲ့သို့ ထို့အတူ အနည်းငယ်မျှလောက်သော ချွတ်ယွင်း တိမ်းပါးမှုကြောင့် နေမင်း တစ်ဆူနှင့်အလားတူသော ကျီးသဲလေးထပ် ဆရာတော်ဘုရားကြီး၏ ပညာဂုဏ်ရောင်သည် မှေးမှိန်မသွားနိုင်ဟု ဆိုလိုခြင်းပါသည်။

ကျမ်းပြုသူ၏ **"စွယ်စုံကျော်ထင်ကျမ်းလာအဘိဓမ္မာဆိုင်ရာပြဿနာများ"** ဟူသောဤကျမ်း၌လည်း ဖော်ပြပါအမှားအယွင်းမျိုး ကင်းသည်ဟုမဆိုနိုင်ပါ။ သို့သော်အမှားအယွင်းကင်းနိုင်သမျှကင်းအောင် ကြိုးစားထားပါသည်။

စွယ်စုံကျော်ထင်ကျမ်းကိုလေ့လာယင်း-၎င်းကျမ်း၌ အဘိဓမ္မာဆိုင်ရာ အချို့သောအဖြေများ၏ အားနည်းချက်များကို ဖြည့်စွက်ရေးသားရလျှင် အဘိဓမ္မပိဋကမဟာဌာနနာယက ဆရာတော်၏ ညွှန်ကြားချက် အတိုင်း ကျမ်းတစ်စောင်ပေတစ်ဖွဲ့ ရေး၍ ဖြစ်လိမ့်မည်ဟု ကိုယ်တိုင်သိရှိ သဘောကျလာ၏။ ယင်းသို့

## နိဒါန်း

ဖြည့်စွက်ရေးသားရလျှင် စွယ်စုံကျော်ထင်ကျမ်းကြီးသည် "တစ်ဆူဘုရားတံခွန်အလားသို့" ပိုမိုပြည့်စုံကောင်းမွန်ပေလိမ့်မည် ဟူ၍လည်း သုံးသပ်မိပါသည်။ ဤအကြောင်းများကြောင့် ဖော်ပြပါခေါင်းစဉ်ကိုပင် ရွေးချယ်ပြီး ကျမ်းရေးသားခဲ့ရခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက်**

စွယ်စုံကျော်ထင်ကျမ်း၌ အချို့သောအဘိဓမ္မာဆိုင်ရာ အကြောင်းအရာများသည် မူရင်းအဘိဓမ္မာကျမ်းများနှင့် ကိုက်ညီမှု မရှိဘဲ အဆိုကွဲလွဲနေသည့်အကြောင်းအရာများ၊ မပြည့်မစုံ ဖြစ်နေသည့် အကြောင်းအရာများ စသည်ဖြင့် စောဒကတက်ဖွယ်ရာ အားနည်းချက်များ အနည်းငယ်ပါရှိနေကြောင်းကို ဖော်ပြပြီးဖြစ်၏။ ယင်းအားနည်းချက်များကို မူရင်းအဘိဓမ္မာပိဋကတ်တော်နှင့်အညီ ပြင်ဆင်ဖြည့်စွက်နိုင်ရန် ရည်ရွယ်ပါသည်။

ထို့ပြင် ဗုဒ္ဓအဘိဓမ္မာသည် သိမ်မွေ့နက်နဲခက်ခဲပါသည်။ ယင်းသို့ သိမ်မွေ့နက်နဲခက်ခဲသည်အားလျော်စွာ အဘိဓမ္မာနှင့် ပတ်သက်ပြီးလူအများ မသိသေးသည့်အချက်အလက်များအများ အပြားပင်ရှိနေကြ၏။ အချို့အချက်အလက်များကို သိပင်သိငြား သော်လည်းအမှားသိများ၊ မပြည့်မစုံ တစ်ပိုင်းတစ်စသိမှုများ၊ အသိ အမြင်မရှင်းလင်းမှုများ အများအပြားပင်ရှိနေကြ၏။

ယင်းသို့ဗုဒ္ဓ၏အနှစ်သာရပိုင်းဆိုင်ရာ အဘိဓမ္မာအကြောင်း အရာများ၌ ဉာဏ်မသက်ဝင်နိုင်ဘဲ အမှန်မရဗေဝေဗဝါဖြစ်နေသူများ သည် အဘိဓမ္မာဆိုင်ရာပြဿနာများကို လေ့လာကြည့်ရှုမှတ်သား ရလျှင် အမှားသိမှုများ,မပြည့်မစုံသိမှုများ,ဉာဏ်အမြင်မရှင်းဘဲ ဗဝေ

ဇဝါဖြစ်နေမှုများ,တစ်နည်းမဟုတ်တစ်နည်း နည်းပါးပပျောက်ပြီး အဘိဓမ္မာ အသိဉာဏ်များ သန့်ရှင်းစင်ကြယ်၍အမှန်သိမှုများ ဖြစ်လာပေမည်၊ အမှန်သိရှိမှုသာဘဝ၏အနှစ်သာရကို ရနိုင်ပေမည်၊ ယင်းအမှန်သိဖြင့် ဘဝ၏အနှစ်သာရများကိုအရယူနိုင်ပြီး ဒုက္ခအားလုံးတို့၏ချုပ်ဆုံးရာ နိဗ္ဗာန်အထိ အကျိုးရှိရန် ရည်ရွယ်ပါသည်။

**ရေးသားပုံအစီအစဉ်**

၁။ ဤကျမ်းကိုရေးသားရာတွင် ပထမဦးစွာပြဿနာရှိသည့် အမေးအဖြေများကို မူရင်းစွယ်စုံကျော်ထင်ကျမ်း၌ လာရှိသည့်အတိုင်း အပြည့်အစုံဖော်ပြထားပါသည်။

၂။ ၎င်းနောက် ထိုအဖြေများထဲမှ ပြဿနာဖြစ်သည့် အချက်များကို ဖော်ထုတ်ပြထားပါသည်။

၃။ ထို့နောက်မူရင်းအဘိဓမ္မာကျမ်းတို့နှင့် ကိုက်ညီသည့် အဖြေကို သဘာဝယုတ္တိ,အာဂမယုတ္တိတို့ဖြင့် အထောက်အထား ခိုင်မာစွာဖော်ပြဖြေဆိုပါသည်။

ယင်းသို့ဖြေဆိုရာ၌ သတ်ပုံသံပေါက်နှင့်ဆက်စပ်နေသည့် အဘိဓမ္မာဆိုင်ရာအဓိပ္ပါယ်များကိုလည်း ဗဟုသုတဖြစ်စေရန်ဖော်ပြထားပါသည်။ ဥပမာ“ခြောက်ဆယ့်လေးသွယ်ခြေရိုးဝယ် ဘယ်သည့်ဘယ်သည့်အရိုးနည်း”ဟူသောအခန်း၌ အရိုးနှင့်စပ်၍ အရိုးစုကမ္မဋ္ဌာန်းအားထုတ်ပုံများ၊ အားထုတ်သဖြင့်ရရှိနိုင်သည့် အကျိုးများစသည်တို့ကို ဗဟုသုတဖြစ်ဖွယ်ရာ ဖော်ပြထားပါသည်။ “ပြိတ်မှာ သူ့အိမ်မငြိမ်ဆိမ်၊ ဖျင်းသိမ်ဘယ်အာရုံတို့နည်း ”ဟူသော အခန်း၌ ပြိတ်မှာဟူသောစကားနှင့်စပ်၍ မပြိတ်မှာသင့်သော မိန်းမများ၊

# နိဒါန်း

သီလစသောဂုဏ်ရှိသူ၌ ပြစ်မှားလျှင် ပို၍အပြစ်ကြီးလေးပုံများ စသည်တို့ကို သာဓကများဖြင့်ဖော်ပြထားပါသည်။

ထို့ပြင် အဓိပ္ပါယ်တူသတ်ပုံသံပေါက်များ၏ အဖြေများကို ဂန္ထဂရုဒေါသမှလွတ်စေရန် ထပ်မံမရေးသားတော့ဘဲ ရေးပြီးခဲ့သည့် အခန်းကို ပြန်ကြည့်ရန် အညွှန်းပြရုံမျှပြ၍ရေးသားထားပါသည်။

၄။ နိဂုံးချုပ်ရာ၌ ပြဿနာဖြစ်ရသည့်အကြောင်းရင်းကို အနှစ်ချုပ်ဖော်ပြပြီး သံပေါက်ကဗျာအဖြေကသိစေအပ်သောလောကီ လောကုတ္တရာ ဥပဒေသများကိုပါ အကျဉ်းချုပ်တင်ပြထားပါသည်။

**ရရှိနိုင်သောအကျိုးကျေးဇူး**

ကျမ်းကိုဖတ်ရှုလေ့လာသူတို့သည် စွယ်စုံကျော်ထင်ကျမ်း လာအဘိဓမ္မာဆိုင်ရာပြဿနာဖြစ်သည့်အကြောင်းအရာများကို တစ်နေရာတည်း တစ်ထိုင်တည်းဖြင့် ဖတ်ရှုလေ့လာနိုင်ခြင်း၊ ယင်းပြဿနာတို့နှင့်ပတ်သက်၍ အငြင်းပွားမှုများငြိမ်းစေနိုင်ခြင်း၊ မြတ်ဗုဒ္ဓ၏အနှစ်သာရပိုင်းဆိုင်ရာ ခက်ခဲသည့်အဘိဓမ္မာ အသိဉာဏ် များရင့်သန်တိုးပွားစေနိုင်ခြင်း၊ စွယ်စုံကျော်ထင်ကျမ်းလာပြဿနာ ဖြစ်သည့်အဘိဓမ္မာနှင့်ပတ်သက်၍ မှားယွင်းသိမှုမှ အမှန်သိမှု ဖြစ်နိုင်ခြင်း၊ မသိသေးသည့်အရာများကိုသိလာရခြင်း၊ ဇဝေဇဝါ ဖြစ်နေသူများ ဉာဏ်အမြင်သန့်ရှင်းစင်ကြယ်ပြီး အမှန်သိမှုများဖြစ် လာနိုင်ခြင်း၊ ယင်းအမှန်သိဖြင့် ဘဝ၏အနှစ်သာရ များကိုအရယူ နိုင်ပြီး ဒုက္ခအား လုံးတို့၏ချုပ်ဆုံးရာ နိဗ္ဗာန်အထိ အကျိုးရှိနိုင်ခြင်း၊ သံပေါက် အဖြေကသိစေအပ်သော နည်းယူကျင့်သုံးဖွယ်ရာ, ရှောင်ကြဉ်ဖွယ်ရာ သင်္ခန်းစာအဓိပ္ပါယ်များကို သဘောပေါက်နား

လည်နိုင်ခြင်း၊ သဘော ပေါက်နားလည်သည်အားလျော်စွာ လောကီ, လောကုတ္တရာ တရားများကို ပစ္စုပ္ပန်တမလွန်အကျိုးရှိအောင်ပွားများနိုင်ခြင်းစသော အကျိုးကျေးဇူးများရရှိနိုင်ပါသည်။

## ပန်ကြားလွှာ

ကျမ်းပြုသူသည် "စွယ်စုံကျော်ထင်ကျမ်းလာအဘိဓမ္မာဆိုင်ရာပြဿနာများ"ဟူသောခေါင်းစဉ်နှင့်အညီစွယ်စုံကျော်ထင်ကျမ်း၌ အဘိဓမ္မာနှင့်ပတ်သက်၍ ပြဿနာဖြစ်သည့်အကြောင်းအရာများကို အဘိဓမ္မာမျက်စိဖြင့် မီးမောင်းထိုးပြီးရှာဖွေရ၏။ ယင်းသို့ရှာဖွေရင်း ပြဿနာမဖြစ်သည့်အကြောင်းအရာများကို ချန်လှပ်ထားပြီး၊ ပြဿနာဖြစ်သည့်အကြောင်းအရာများကိုသာထုတ်နုတ်ရေးသားရပါသည်။ ထိုသို့ရှာဖွေရေးသားရာ၌ ပြဿနာဖြစ်သည့်အကြောင်းအရာများ မကျန်ရအောင် သတိ,ဝီရိယကြီးစွာဖြင့် ကြိုးစားရှာဖွေရေးသားထားပါသည်။ ယင်းသို့ ကြိုးစားရှာဖွေရေးသားထားသည့်အားလျော်စွာ ပြဿနာဖြစ်သည့်အကြောင်းအရာများ ကုန်စင်ပြီဟုယူမှတ်၍ ဤကျမ်းစာရေးသားမှုကို နိဂုံးသတ်ခဲ့ပါသည်။ သို့သော် ယင်းသို့ကြိုးစားထားသည့်ကြားမှပြဿနာဖြစ်သည့်အကြောင်းအရာများ အကယ်၍ကျန်ရှိခဲ့လျှင် ကျမ်းပြုသူ၏တာဝန်ဖြစ်၍ ခွင့်လွှတ်ကြပါရန် အထူးမေတ္တာရပ်ခံပန်ကြားအပ်ပါသည်။ ။

အရှင်ကုန္တာဘာသ (ညောင်လေးပင်)
(ဝိနယပါရဂူ၊သာသနဓဇမမ္မာစရိယ၊သာသနတက္ကသီလမဟာဓမ္မာစရိယ M.A)
ကထိက-အဘိဓမ္မမဟာဌာန၊ နိုင်ငံတော်ပရိယတ္တိသာသနာ့ တက္ကသိုလ်၊ ရန်ကုန်။

စွယ်စုံကျော်ထင်ကျမ်းလာ အဘိဓမ္မာဆိုင်ရာ ပြဿနာများ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

ပဏာမနှင့် ပဋိညာဉ်

၁။ မနောပဉ္စံ ဝိသဇ္ဇေတိ၊ ဝစီပဉ္စေ ကထာဝကာ။
ဗုဒ္ဓံ ဝန္ဒာမိ တံ ရူပံ၊ ဓမ္မံ သံဃဉ္စ သာဒရံ။ (ပထျာဝတ္တ)

၂။ ဂန္ထေ အကိလမတ္ထာယ၊ ဂဝေသီနံ ယထာဗလံ။
သုဒ္ဓေ ဂန္ထံ လိခိဿာမိ၊ ပဥှသစ္စဝိသဇ္ဇနံ။ (ပထျာဝတ္တ)

၁။ (ဗုဒ္ဓေါ - သစ္စာလေးရပ်တရားမြတ်ကို ဆတ်ဆတ်သိမြင် ဘုရားရှင်သည်) ၊ မနောပဉ္စံ - စိတ်ဖြင့်မေးသည်ကို၊ ဝိသဇ္ဇေတိ - ဖြေရှင်းတော်မူနိုင်ပါပေ၏။ ဝစီပဉ္စေ-နှုတ်ဖြင့်မေးရာ၌၊ ကာ ကထာ-အဘယ်မှာလျှင် မဖြေနိုင်ပါ ဆိုဖွယ်ရာရှိပါတော့အံ့နည်း၊ တံ ရူပံ-ထိုသို့စိတ်ဖြင့် မေးသည်ကိုပင် ဖြေဆိုနိုင်ခြင်းသဘောရှိသော၊ ဗုဒ္ဓဥ-ဂုဏ်တော်ထူးလတ် ဘုရားရှင်ကိုယ်တော်မြတ်ကြီးကိုလည်းကောင်း၊ ဓမ္မဉ္စ- မဂ်လေးတန်ဖိုလ်လေးတန် နိဗ္ဗာန်ပရိယတ္တိဟုဆိုအပ်သော ဆယ်တန်သော တရားတော်မြတ်ကို လည်းကောင်း၊ သံဃဉ္စ-အရိယာရှစ်ဖော် သံဃာတော်နှင့်ဆက်စပ်ယခုရှိ သမုတိမည်ခေါ် သံဃာတော်အရှင်မြတ်အပေါင်းကိုလည်းကောင်း၊ သာဒရံ - ကျိုးနွံ

မသွေ ရိုသေလေးစားလျှစွာ၊ (အဟံ -ဘုရားတပည့်တော်သည်)၊ ဝန္ဒာမိ - ကိုယ်နှုတ်နှလုံး သုံးပါးပျောင်းပျော့ မာန်ကိုလျှော့၍ ရှိခိုးကန်တော့ပါ၏ဘုရား။

၂။ (ဝန္ဒိတွာ -ရှိခိုးပြီး၍) ဂန္ထေ - လောကီလောကုတ် ဗဟုသုတ ပြည့်ဝကုံလုံ စုံလင်ပေသည့် စွယ်စုံကျော်ထင်ကျမ်းတော်ကြီး၌၊ ပဥ္စသစ္စဝိသဇ္ဇနံ - အဘိဓမ္မာဆိုင်ရာ ပြဿနာတို့၏ မှန်ကန်သော အဖြေကို၊ ဂဝေသိနံ - ရှာမှီးကြကုန်သော သုတေသီအပေါင်းတို့အား (ဝါ) ရှာမှီးကြကုန်သော သုတေသီအပေါင်းတို့ကို၊ အကိလမတ္ထာယ- အလွယ်တကူ ရှာဖွေယူ၍ အပူမရှိ ပကတိရွှင်လန်း မပင်ပန်းစိမ့်သောငှာ၊ သုဋ္ဌုဂန္ထံ-"စွယ်စုံကျော်ထင်ကျမ်းလာ အဘိဓမ္မာဆိုင်ရာ ပြဿနာများ"အမည်ရှိသည့် ကောင်းမြတ်သည့်ကျမ်းကို၊ ယထာဗလံ - ကိုယ်အားဉာဏ်အား စွမ်းပကားရှိသမျှသာ၊ လိခိဿာမိ -လုံ့လကြိုးကုတ် စွမ်းအားထုတ်၍ ရေးသားတီထွင် စီရင်ပေအံ့။ ။



# အခန်း (၁)

## မိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ်ဝီထိ ဘယ်မျှနည်း။ (၆၈)

### စွယ်စုံကျော်ထင်ကျမ်းလာ မှုရင်းအဖြေ

"မိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ်ဝီထိဘယ်မျှနည်း"
ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

"အန္တောကုစ္ဆိဂတာ မာတုပက္ကာသယံ အတ္ထရိတွာ အာမာသယံ ဥက္ခိပိတွာ ဥဒရပဋလံ ပိဋ္ဌိတော ကတွာ ပိဋ္ဌိကဏ္ဍကံ နိဿာယ ဒ္ဒီသု မုဋ္ဌိသုဟနုကံ ဌပေတွာ ဒေဝေ ဝဿန္တေ ရုက္ခသုသိရေ မက္ကဋာ ဝိယ ဥက္ကုဋိကံ နိသီဒန္တိ"

အစရှိသည်ဖြင့် သာရတ္ထသင်္ဂဟ၌လာသည်။

အဓိပ္ပါယ်ကား - အမိဝမ်း၌ သန္ဓေယူကုန်သော သူငယ်တို့သည် အမိ၏အစာဟောင်းအိမ်ကိုခင်းလျက် အစာသစ်အိမ်ကို ထိပ်၌ရွက်၍ အမိဝမ်းရေပြားကို နောက်မှီပြုလျက် အမိ၏ ကျောက်ကုန်းရိုးကို မျက်နှာမူ၍ မိုးသည်းထန်စွာရွာသောအခါ သစ်ခေါင်း၌ ဆောင့်ကြောင့်ထိုင်လျက် လက်ဆုပ်နှစ်ခုဖျား၌ မေးထား၍ ကုတ်ခွေကာနေသော မျောက်ငယ်၏အသွင်ကဲ့သို့ မိခင်ဝမ်း၌ နေရကုန်၏ဟူလိုသည်။

ဝီထိစိတ်ဖြစ်ဟန်ကိုကား "န ဟိ အန္တောကုဋ္ဌိယံ စက္ခုဝိညာဏံ ဥပ္ပဇ္ဇတိ"စသည်ဖြင့် အမိဝမ်းတွင်း၌ စက္ခုဝိညာဏ်စိတ်မဖြစ်ကြောင်း ဆိုသည်။ အမိဝမ်း၌ ကိန်းရသောသတ္တဝါအား "အဿသ ပဿာသ"ဟူသော ကာယသင်္ခါရမရှိကြောင်းကို သင်္ခါရယမိုက်ပါဠိတော်၊ ၎င်းအဋ္ဌကထာတို့၌လာသည်။ ထွက်သက်၊ဝင်သက်ရှိမှ သဒ္ဒါရုံကို နားတွင်းသို့ရောက်အောင်ဆောင်၍ ကြားစေနိုင်သည်။ ထွက်သက်,ဝင်သက်ရှိမှ ဂန္ဓာရုံကို နှာခေါင်းတွင်းသို့ရောက်အောင် ဆောင်၍ အနံ့ကိုသိစေနိုင်သည်။ ထွက်သက်,ဝင်သက်ရှိမှ ရသာရုံကို ဇိဝှါသို့ ဆောင်၍ အချိုအခါးစသော အရသာကိုသိနိုင်သည်။ ထွက်သက်,ဝင်သက်မရှိခဲ့သော် ထိုသို့သောကိစ္စကို မဆောင်နိုင်။ မဆောင်နိုင်သော် ထိုဝိညာဏ်သည်မဖြစ်။ မဖြစ်သည်ရှိသော် ထိုဝိညာဏ်လျှင် ပုဗ္ဗင်္ဂမရှိသော တစ်ဆယ့်ငါးဝီထိတို့သည် မကျပေရာ၊ အပ္ပနာဝီထိစသည်တို့ မူကား အလွန်ဝေးစွ။

ထွက်သက်,ဝင်သက်ရှိလျက် နားမကြားသောသူ, အနံ့ကို မသိသောသူတို့ကား အသို့နည်း မေးငြားအံ့ - ထိုပသာဒရုပ်ပျက်စီးအောင် ဝါယောဓာတ်လွန်ခြင်းစသည်ဖြင့် နှိပ်စက်၍သာ ဖြစ်လေကုန်သည်ဟု မှတ်ရမည်။

ကာယဒွါရ၌ဖြစ်သော တစ်ဆယ့်ငါးဝီထိ။ တဒနုဝတ္တကမနောဒွါရဝီထိ၊ ဝိဘူတာရုံငါးဝီထိ၊ အဝိဘူတာရုံနှစ်ဝီထိအားဖြင့် ခုနစ်ပါးသော သုဒ္ဓမနောဒွါရဝီထိတို့မူကား ယထာရဟကျ၏။ ဘုရားအလောင်း ပစ္စေကဗုဒ္ဓါတို့၏အလောင်း၊ အဂ္ဂသာဝကတို့၏အလောင်းတော်များလည်း ဝမ်းတွင်းနေသောအဖြစ် , ဆင်းရဲစွာနေရသောအဖြစ်

များကို သိကြောင်းနှင့် ကျမ်းဂန်လာသည်။ ထိုသို့သိသော ပုဂ္ဂိုလ်အား ယခင်ဆိုခဲ့ပြီးသော ကာယဒွါရဝီထိ မနောဒွါရဝီထိတို့သည် ဖြစ်သင့်သည်ဟု သိရာသည်။

## ပြဿနာဖြစ်ရသည့်အချက်

အထက်ပါအဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်း၌ လာသော အဖြေဖြစ်ပါသည်။ ယင်းအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်များမှာ "အမိဝမ်း၌ ကိန်းရသောသတ္တဝါအားထွက်သက်၊ ဝင်သက်လေမရှိ၍ သောတဝိညာဏ်စိတ်(သောတဒွါရဝီထိ)နှင့် ဃာနဝိညာဏ်စိတ် (ဃာနဒွါရဝီထိ)တို့ မဖြစ်နိုင်ဟူသော အချက်များပင် ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

"မိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ်ဝီထိ ဘယ်မျှနည်း" ဟူသော သတ်ပုံသံပေါက်လင်္ကာ၏မေးလိုရင်းမှာ - အမိဝမ်းထဲရှိ သားသူငယ်အား (၀) သားသူငယ်၌ ဝီထိပေါင်း အဘယ်မျှကျနိုင်သနည်း (၀) ဝီထိပေါင်း အဘယ်မျှဖြစ်နိုင်သနည်းဟု မေးလိုရင်းဖြစ်ပါသည်။

ဤတွင် အမိဝမ်းတွင်းအောင်း သူငယ်၌ဖြစ်နိုင်သော ဝီထိအရေအတွက်များကို မဖော်ပြမီ ၎င်းသူငယ်၌ ပဉ္စဒွါရဝီထိကျနိုင် မကျနိုင်၊ ကျနိုင်လျှင် မည်သည့်ပဉ္စဒွါရဝီထိများ ကျနိုင်သည်ဟူသော အချက်ကို ရှေးဦးစွာ စိစစ်သင့်၏။ ပြီးမှ၎င်းသူငယ်အား ဝီထိပေါင်း အဘယ်မျှ ဖြစ်နိုင်သည်ကို ရေတွက်ဖော်ပြသင့်၏။ သို့မှသာ အစဉ်ကျပေမည်။ ပဉ္စဒွါရဝီထိကျ,မကျနှင့်စပ်လျဉ်း၍ "ဝမ်းတွင်းအောင်းစဉ်

ဝီထိယှဉ်၊ ပဋ္ဌဒွါရကျလိမ့်နည်း”ဟူသည့်မေးထားချက်များလည်း ရှိနေ၍ ဖြေလည်း ဖြေဆိုသင့်ပါသည်။ မိဝမ်းထဲလွယ် စသည့်မေးခွန်းနှင့် ဝမ်းတွင်းအောင်းစဉ်စသည့် မေးခွန်းနှစ်ခုသည် အများအားဖြင့် အဓိပ္ပါယ်သဘောသွားချင်းလည်း တူညီမှုရှိနေကြ၏။ သို့ဖြစ်၍ အစဉ်ကျစေရန် ဝမ်းတွင်းအောင်းသူငယ်၌ ပဋ္ဌဒွါရဝီထိ ကျနိုင်, မကျနိုင်ဟူသောအချက်ကို ရှေးဦးစွာ စီစစ်ဖော်ပြရပေမည်။

**ဝမ်းတွင်းအောင်းသူငယ် ပဋ္ဌဒွါရဝီထိဖြစ်နိုင်မှု**

“ဝမ်းတွင်းအောင်းစဉ်၊ ဝီထိယှဉ်၊ ပဋ္ဌဒွါရကျလိမ့်နည်း”ဟူသော သတ်ပုံသံပေါက်လင်္ကာ၏ မေးလိုရင်းမှာ အမိဝမ်းတွင်း၌ ကိန်းအောင်းနေသော သတ္တဝါတို့သည် ကိန်းအောင်းနေစဉ်အတွင်း စက္ခုဒွါရဝီထိစသော ပဋ္ဌဒွါရဝီထိစိတ်များနှင့် ယှဉ်သလား၊ ပဋ္ဌဒွါရ ဝီထိကျသလားဟုမေးလိုရင်း ဖြစ်ပါသည်။ ဤမေးခွန်းသည် အဘိဓမ္မာလာ ဝီထိဆိုင်ရာကိုကြည့်၍မေးသော မေးခွန်းဖြစ်၏။ သို့ဖြစ်၍ ၎င်းမေးခွန်းကို ဖြေဆိုရာတွင်လည်း အဘိဓမ္မာလာ ဝီထိဆိုင်ရာကိုကြည့်၍ ဖြေဆိုရပေမည်။ သို့မှသာ အမေးအဖြေကိုက်ညီမှုရှိပြီး သဘာဝကျပေမည်။

အဘိဓမ္မာဝီထိဆိုင်ရာအရ ဖြေဆိုရလျှင် အမိဝမ်းတွင်း ကိန်းအောင်းသောသတ္တဝါတို့သည် ပဋ္ဌဒွါရဝီထိများ ထိုက်သည်အားလျော်စွာကျနိုင်၏-ဟု ဖြေဆိုရပေမည်။

**စိတ္တနိယာမသဘော**

မှန်ပါသည်။ သတ္တဝါတို့၌ ရုပ်ခန္ဓာအစဉ်နှင့်နာမ်ခန္ဓာအစဉ်ဟူ၍ အစဉ်နှစ်မျိုးရှိ၏။ ထိုတွင် ရုပ်ခန္ဓာအစဉ်ဟူသော ကိုယ်ကောင်သဏ္ဍာန်ကြီးသည် တစ်ဘဝ, တစ်ဘဝလျှင် သေဆုံးရာ၌ တစ်ခါ,တစ်

ခါ အစဉ်ပြတ်၏။ နာမ်ခန္ဓာအစဉ်ကား သံသရာကျင်လည်နေသမျှ အစဉ်ပြတ်သည်ဟူ၍မရှိ။ အနမတဂ္ဂသံသရာ၌ အနန္တရပစ္စည်းဖြင့် ကျေးဇူးပြု၍ စိတ်တို့ရှေ့နောက်စီတန်း၍ဖြစ်နေသော ဖြစ်စဉ်ကြီးသည် တစ်ဆက်တည်း ဆက်လျက်ရှိ၏။[၁]

ထိုနာမ်ခန္ဓာစိတ်အစဉ်၌ဖြစ်နိုင်သော ဝီထိများမှာ - (၁) စက္ခုဒွါရဝီထိ၊ (၂) သောတဒွါရဝီထိ၊ (၃) ဃာနဒွါရဝီထိ၊ (၄) ဇိဝှါဒွါရဝီထိ၊ (၅) ကာယဒွါရဝီထိ၊ (၆) မနောဒွါရဝီထိဟူ၍ အချုပ်အားဖြင့် ဝီထိ၆-မျိုးရှိပါသည်။ သတ္တဝါတို့သန္တာန်၌ ထိုစိတ်အစဉ်(၆)မျိုး မဖြစ်သည့် အခါ ဘဝင်စိတ်များ ဖြစ်နေပါသည်။ ထိုဘဝင်စိတ်ကို ဝီထိစိတ်မှ အလွတ်ဖြစ်သောကြောင့် ဝီထိမုတ်စိတ်ဟုခေါ်၏။ ၎င်းဘဝင်စိတ် သည် စုတိအခါ၌ဖြစ်လျှင် စုတိစိတ်၊ ပဋိသန္ဓေအခါ၌ ဖြစ်လျှင် ပဋိသန္ဓေ စိတ်အမည်များကိုလည်း ရပါသည်။

ထိုတွင် (အတိမဟန္တာရုံ)စက္ခုဒွါရဝီထိဖြစ်ပုံမှာ -

ရူပါရုံနှင့် စက္ခုပသာဒတို့ ရှေးရှုအတူဥပါဒ်ကြသည်မှစ၍ အတီတဘဝင်တစ်ကြိမ်အလွန်တွင် (စက္ခုပသာဒ၌ရူပါရုံ)ထင်ခြင်းသို့ ရောက်သဖြင့် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ (စက္ခုဝိညာဏ်)၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇောခုနစ်ကြိမ်၊ တဒါရုံ နှစ်ကြိမ် ဖြစ်ပြီးသည့်အခါ ရူပါရုံနှင့်စက္ခုပသာဒတို့တစ်ဆယ့်ခုနစ်ချက် ရုပ်သက်စေ့ရကား ဒုတိယတဒါရုံ၏ ဘင်နှင့်ပြိုင်၍ချုပ်ခြင်းရှိသော ဝီထိသည်တဒါရမ္မဏဝါရ အတိမဟန္တာရုံ စက္ခုဒွါရဝီထိဖြစ်ပါသည်။

ဝီထိပုံစံကို အတိုကောက်နည်းဖြင့် ထုတ်ပြရလျှင် -

---

၁။ နိယာမဒီပနီ၊ ၄၅။

ဘ တီ န ဒ ပ စ သံ ဏ ဝု ဇ ဇ ဇ ဇ ဇ ဇ ဇ ရုံ ရုံ “ ဘ ဟူ၍ဖြစ်ပါသည်။[၁]

ဝင်းဝီထိဖြစ်ပုံကို ဥပမာအားဖြင့် ထင်ရှားအောင်ပြဆိုရလျှင် အသီးမှည့်သည့် သရက်ပင်အောက်၌လူတစ်ယောက်သည် ခေါင်းမြီးခြုံ၍ အိပ်နေ၏။ ထိုစဉ်သရက်သီးကြွေကျလာ၏။ ယင်းသရက်သီးကြွေသံကြောင့် နိုးလာပြီး ခေါင်းမြီးခြုံကို ဖွင့်၍ကြည့်၏။ ထို့နောက် သရက်သီးကို ကောက်ယူ၍ လက်ဖြင့်နှိပ်ကာ၊ နှာခေါင်းဖြင့်နမ်းကာ စမ်းသပ်၏။ မှည့်မှန်းသိသော် ပျော်ရွှင်စွာအရသာခံစားလျက် စားသုံးမျိုချလေ၏။

သတ္တဝါတိုင်း၌ ဝီထိစိတ်မဖြစ်မီ ရှေးဦးစွာ ဘဝင်ကျနေခြင်းသည် လူတစ်ယောက်သရက်ပင်အောက်၌ အိပ်ပျော်နေခြင်းနှင့်တူ၏။ ဝီထိစိတ်ဖြစ်ပေါ်နိုင်ရန် ပသာဒ၌အာရုံထိခိုက်ခြင်းသည် အနီးအပါး၌ သရက်သီးကြွေကျပုံနှင့်တူ၏။ ဘဝင်အစဉ်ကိုဖြတ်၍ အာဝဇ္ဇန်းစိတ် ရှေးဦးစွာပေါ်လာခြင်းသည် သရက်သီးကြွေကျသံကြောင့် နိုးလာသည်နှင့်တူ၏။ စက္ခုဝိညာဏ်စိတ်ဖြစ်၍ ရူပါရုံကိုမြင်ခြင်းသည် ခေါင်းမြီးခြုံကိုဖွင့်၍ ကြည့်ခြင်းနှင့်တူ၏။ သမ္ပဋိစ္ဆိုင်းစိတ်၏ခံယူသကဲ့သို့ ဖြစ်ခြင်းသည် သရက်သီးကို လှမ်း၍ယူငင်ခြင်းနှင့်တူ၏။ သန္တီရဏစိတ်၏ ထိုခံယူပြီးသောအာရုံကို စုံစမ်းသကဲ့သို့ဖြစ်ခြင်းသည် သရက်သီးကို မှည့်မှန်း မမှည့်မှန်း နှိပ်စမ်းခြင်းနှင့်တူ၏။ ဝုဋ္ဌောစိတ်၏ ပိုင်းခြားသတ်မှတ်ဆုံးဖြတ်သကဲ့သို့ ဖြစ်ခြင်းသည် နမ်းရှုကြည့်၍မှည့်မှန်းသိခြင်းနှင့်တူ၏။ ဇောစိတ်၏အာရုံ၏အရသာကို ခံစားခြင်းသည်

---
[၁]။ အဘိ။ - ၁ - ၃၁၁။

မှည့်မှန်းသိ၍ အရသာခံလျက်စားနေခြင်းနှင့်တူ၏။ တဒါရုံစိတ်၏ ဇောနောက်လိုက်ကာ ဇော၏အာရုံကိုယူခြင်းသည် မျိုချလိုက်ခြင်းနှင့်တူ၏။ ထို့နောက် ဘဝင်ကျမြဲကျပြန်ခြင်းသည် ယခင်လူ၏တစ်ဖန်ထပ်၍ အိပ်မြဲအိပ်ပြန်ခြင်းနှင့်တူ၏။ ၁

သောတ , ဃာန , ဇိဝှါ , ကာယဒွါရဝီထိတို့၌လည်း စက္ခုဒွါရဝီထိနည်းတူပင်ဖြစ်၏။ စက္ခုပသာဒ , ရူပါရုံ , စက္ခုဝိညာဏ်နေရာတို့၌ သောတပသာဒ , သဒ္ဒါရုံ , သောတဝိညာဏ်စသည်တို့ကို ပြောင်းထည့်ရုံပင် ဖြစ်ပါသည်။

ဤစက္ခုဒွါရဝီထိဖြင့် "ငါသည် ဤမည်သော ဝတ္ထုကိုမြင်၏။ အနီပဲ၊ အဖြူပဲ၊ မည်သူမည်ဝါပဲ"စသည်ဖြင့် ကွဲကွဲပြားပြားမသိနိုင်သေးပါ။ ရူပါရုံသာမန်လောက်ကိုသာ မြင်ရသိရသေး၏။ အဘယ်အခါမှသိသနည်းဟုဆိုလျှင် စက္ခုဒွါရဝီထိနောင် တဒနုဝတ္တက မနောဒွါရဝီထိများ ဆက်ဖြစ်မှ သိနိုင်ပါသည်။

မှန်ပါသည်။ ရှေးဦးစွာ စက္ခုဒွါရဝီထိဖြစ်၏။ ထိုနောက် တဒနုဝတ္တက မနောဒွါရဝီထိ၊ ထို့နောက် သမုဒါယဂါဟိကဝီထိ၊ ထိုနောင် ဝဏ္ဏသလ္လက္ခဏဝီထိ၊ ထို့နောင် ဝတ္ထုဂါဟိကဝီထိ၊ ထို့နောင် ဝတ္ထုသလ္လက္ခဏဝီထိ၊ ထို့နောင် နာမဂါဟိကဝီထိ၊ ထို့နောင် နာမသလ္လက္ခဏဝီထိများဖြစ်၍ ဤသလ္လက္ခဏဝီထိများဖြစ်သောအခါမှ ဖြူနီကြောင်ကျား စသည်တို့ကို ခွဲခြား၍ သိနိုင်ပါသည်။ ၂

ပဉ္စဒွါရဝီထိဖြစ်တိုင်းလည်း ဤမနောဒွါရဝီထိများအပြည့်အစုံ အမြဲလိုက်သည်ဟု မဆိုနိုင်ပါ။ တစ်ခါတစ်ရံ တဒနုဝတ္တက

၁။ ဘိ၊ ၄ ၊ ၁၊ ၃၁၁။ ၂။ သုံးချက်စု၊ ၅၊ပရမတ္ထဒီပနီ၊ ၁၃၆။

မနောဒွါရဝီထိတစ်မျိုးမျှဖြင့်ပင် ဝီထိစဉ်ပြတ်သောအရာလည်း ရှိပေလိမ့်မည်။[၁] ထိုအခါမျိုးတွင် ပဉ္စဒွါရဝီထိဖြစ်သော်လည်း အာရုံကို ကွဲကွဲပြားပြားမသိသောအခါဟုပင် ဆိုရပေမည်။ ထို့ကြောင့် ပဉ္စဒွါရဝီထိများဖြစ်တိုင်းလည်း အာရုံကို ကွဲကွဲပြားပြားသိနိုင်သည်မဟုတ်ကြောင်းမှာ ထင်ရှားပါသည်။

မနောဒွါရ(ဝိဘူတာရုံ)ဝီထိဖြစ်ပုံမှာ -

ထင်ရှားသောအာရုံတစ်ပါးပါးသည် မနောဒွါရ၌ထင်လာသည်ရှိသော် ဘဝင်္ဂစလန , ဘဝင်္ဂုပစ္ဆေဒ , မနောဒွါရာဝဇ္ဇန်း , ဇော (၇) , တဒါရုံ(၂)ကြိမ်ဖြစ်ပြီးလျှင် ဘဝင်ဖြစ်ထိုက်သမျှ ဖြစ်၏။

ဝီထိပုံမှာ = "န ဒ မ ဇ ဇ ဇ ဇ ဇ ဇ ဇ တ တ"ဟူ၍ ဖြစ် ပါသည်။

သတ္တဝါတို့၌ ဤမနောဒွါရဝီထိစိတ်သည် အတွင်ကျယ်ဆုံးဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် သတ္တဝါတို့၏ နှလုံးအိမ်အတွင်း၌ ဤမနောဒွါရဝီထိများ ဖြစ်ပေါ်လာသောအခါမှသာ မြင်လျှင် မြင်မှန်း ကြားလျှင် ကြားမှန်း၊ နံလျှင် နံမှန်း၊ လျက်လျှင် လျက်မှန်း၊ တွေ့လျှင် တွေ့မှန်းသိကြပါသည်။ သို့ဖြစ်၍ မနောဒွါရဝီထိတို့သည် ပဉ္စဒွါရဝီထိတို့၏နောက်မှာလည်း ဖြစ်ကြကုန်၏။ ပဉ္စဒွါရဝီထိမဖက်သက်သက်သော ကြံစည်မှု၌လည်း များစွာဖြစ်ကြကုန်၏။ ကြံစည်မှုသက်သက် မနောဒွါရ၌ဖြစ်သည်ကား သာ၍များပါသည်။

ဤသို့ဖြင့် သတ္တဝါတို့သည် ဘဝအဆက်ဆက်တွင် ဘဝင်စိတ်များဖြစ်လိုက်၊ ပဉ္စဒွါရဝီထိစိတ်များဖြစ်လိုက်၊ မနောဒွါရဝီထိစိတ်

၁။ သုံးချက်စု၊ ၃၄။

များဖြစ်လိုက်၊ စုတိစိတ်ဖြစ်လိုက်၊ ပဋိသန္ဓေစိတ်ဖြစ်လိုက်နှင့် အဆက်မပြတ် ဒလစပ်ဖြစ်ပျက်နေကြ၏။ ဤသည်ကိုပင် နာမ်သံသရာလည်သည်ဟုဆိုပါသည်။

ဤသို့ဖြစ်ကြရာ၌ သင်က ဘဝင်မည်သောစိတ်၊ သင်က အာဝဇ္ဇန်းမည်သောစိတ်၊ သင်က စက္ခုဝိညာဏ်မည်သောစိတ်၊ သင်က သမ္ပဋိစ္ဆိုင်းမည်သောစိတ်စသည်ဖြင့် ဖြစ်ကြလော့ဟူ၍ မည်သူတစ်ဦးတစ်ယောက်ကမျှ စီမံဖန်ဆင်းပြုလုပ်ရသည်မဟုတ်ပါ။ ဝတ္ထု, အာရုံ, မနသိကာရ, ပဉ္စဝိညာဏ်ဟူသော ဆိုင်ရာအကြောင်းတို့ပေါင်းဆုံမိသောအခါမှ ရုတ်ခနဲဖြစ်ပေါ်လာကြသောသဘောတရားများ ဖြစ်ပါသည်။ ဤသို့ဖြစ်သည်ကိုပင် စိတ္တနိယာမဟု ဆိုကြပါသည်။ [၁]

**ပဉ္စဒွါရဝီထိဖြစ်ကြောင်းအင်္ဂါများ**

ထိုတွင် ပဉ္စဒွါရဝီထိဖြစ်ကြောင်းအင်္ဂါများကို ရှာဖွေကြည့်လျှင် အဋ္ဌသာလိနီ အဋ္ဌကထာ၌ -

"တတ္ထ အသမ္ဘိန္နတ္တာ စက္ခုဿ, အာပါထဂတတ္တာ ရူပါနံ, အာလောကသန္နိဿိတံ , မနသိကာရဟေတုကံ စတူဟိ ပစ္စယေဟိ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ။ ပ ၊ အသမ္ဘိန္နတ္တာ ကာယဿ၊ အာပါထဂတတ္တာ ဖောဋ္ဌဗ္ဗာနံ ပထဝီသန္နိဿိတံ၊ မနသိကာရဟေတုကံ စတူဟိ ပစ္စယေဟိ ဥပ္ပဇ္ဇတိ ကာယဝိညာဏံ။" [၂] ဟု မိန့်ဆိုထားသည်ကို တွေ့ရ၏။

အဓိပ္ပါယ်မှာ - စက္ခုဝိညာဏ်စိတ်ခေါ် စက္ခုဒွါရဝီထိစိတ်ဖြစ်ကြောင်း အင်္ဂါ ၄-ပါးရှိ၏။ ၎င်းတို့မှာ -

---

၁။ ဘိ ၊ ဋ ၊ ၁ ၊ ၃၁၂-၃၁၄။ ၂။ ဘိ ၊ ဋ ၊ ၁ ၊ ၃၂၁ - ၃၂၂။

(၁) စက္ခုပသာဒ မျက်စိအကြည်၊

(၂) ရူပါရုံ၊

(၃) အာလောက - အလင်းရောင်၊

(၄) မနသိကာရ-ဤအင်္ဂါလေးပါးစုံမှ စက္ခုဝိညာဏ်ခေါ် သောစက္ခုဒွါရဝီထိ စိတ်ဖြစ်၏။ တစ်ပါးပါးချွတ်ယွင်းလျှင်မဖြစ်နိုင်ပေ။

ထို့အတူ သော တဒွါရဝီထိစိတ်ဖြစ်ကြောင်းလည်း ၄-ပါးပင် ရှိ၏။ ယင်းတို့မှာ-

(၁) သောတပသာဒ၊

(၂) သဒ္ဒါရုံ၊

(၃) အာကာသ၊

(၄) မနသိကာရ-ဤ၄-ပါးစုံညီလျှင် သောတဒွါရဝီထိ စိတ်ဖြစ်နိုင်၏။ တစ်ပါးပါးချွတ်ယွင်းလျှင် မဖြစ်နိုင်။

ဃာနဒွါရဝီထိစိတ်ဖြစ်ကြောင်းအင်္ဂါ၄-ပါး -

(၁) ဃာနပသာဒ၊

(၂) ဂန္ဓာရုံ၊

(၃) ရှိုက်ရှူသောလေဟုဆိုအပ်သော ဝါယောဓာတ်၊

(၄) မနသိကာရ-ဤ၄-ပါးစုံညီလျှင် ဃာနဒွါရဝီထိဖြစ်၏။ တစ်ပါးပါးချွတ်ယွင်းလျှင် မဖြစ်နိုင်။

ဇိဝှါဒွါရဝီထိစိတ်ဖြစ်ကြောင်း အင်္ဂါ၄-ပါး -

(၁) ဇိဝှါပသာဒ၊

(၂) ရသာရုံ၊

(၃) စွတ်စိုမှုအာပေါဓာတ်၊

(၄) မနသိကာရ -ဤ ၄-ပါးစုံညီလျှင် ဇိဝှါဒွါရဝီထိစိတ်ဖြစ်၏။ တစ်ပါးပါးချွတ် ယွင်းလျှင် မဖြစ်နိုင်။

ကာယဒွါရဝီထိစိတ်ဖြစ်ကြောင်းအင်္ဂါ၄-ပါး -

(၁) ကာယပသာဒ၊

(၂) ဖောဋ္ဌဗ္ဗာရုံ၊

(၃) တွေ့ထိနိုင်လောက်သော ခက်မာသောပထဝီဓာတ် ၊

(၄) မနသိကာရ -ဤအင်္ဂါ၄-ပါး စုံညီလျှင် ကာယဒွါရဝီထိ စိတ် ဖြစ်နိုင်၏။ တစ်ပါးပါးချွတ်ယွင်းလျှင် မဖြစ်နိုင်။

ဤအင်္ဂါများကို ရည်ရွယ်၍ ရှေးဆရာတော်များက ဆောင် ယူလွယ်စေရန် သံခိပ်လင်္ကာများ စပ်ဆိုခဲ့ကြသည်မှာ -

စက္ခာလောက၊ ရူပထင်ပြီ၊ မနသိ၊ လေးလီစက္ခုဖို့။

သောတာကာသ၊ သဒ္ဒထင်ပြီ၊ မနသိ ၊ လေးလီသောတဖို့။

ဃာနဝါတ၊ ဂန္ဓထင်ပြီ၊ မနသိ၊ လေးလီဃာနဖို့။

ဇိဝှါအာပ၊ ရသထင်ပြီ၊ မနသိ၊ လေးလီဇိဝှါဖို့။

ကာယထဒ္ဓ၊ ဖောဋ္ဌထင်ပြီ၊ မနသိ၊ လေးလီကာယဖို့။

ဟူသော သံခိပ်လင်္ကာများ စပ်ဆိုတော်မူခဲ့ကြပါသည်။ [၁]

**စိစစ်ချက်**

အမိဝမ်းထဲရှိ သူငယ်ကို ဤအကြောင်းအင်္ဂါရပ်တို့ဖြင့် စိစစ် ကြည့်လျှင် မည်သည့်ပဉ္စဒွါရဝီထိစိတ်များဖြစ်နိုင်၍ မည်သည့်ပဉ္စဒွါရ ဝီထိစိတ်များ မဖြစ်နိုင်ဟူသောအဖြေသည် လယ်ပြင်၌ ဆင်သွား သကဲ့သို့ ထင်ရှားစွာပေါ်လာပေမည်။

၁။ ပရမတ္ထသံခိပ်ဋီကာ ၊ ပ ၊ ၂၄၂။

ယင်းအင်္ဂါများတွင် - **စက္ခုပသာဒ , သောတပသာဒ** စသော ပသာဒရုပ်(၅)ခုအင်္ဂါများသည် ဝမ်းတွင်းအောင်း သူငယ်၌ပြည့်စုံပြီးဖြစ်၏။ မှန်ပါသည်။ ထိုအကြောင်းကိုဗဟုသုတအဖြစ်ဖော်ပြရလျှင် အမိဝမ်းတွင်းကိန်းအောင်းနေသူသည် -

ရေမြှုပ်ခဲတစ်၊ ခက်မဖြစ်၊ ရင့်လစ်ငါးသတ္တာ -

ဟူသောပရမတ္ထသံခိပ်လင်္ကာအရ "ပဋိသန္ဓေစိတ်နှင့်အတူဖြစ်သော ကာယ၊ ဘာဝ၊ ဝတ္ထုဒသကဟူသော ကလလရေကြည်သည်(၇)ရက် ဖြစ်၏။ ထို့နောင် အမြှုပ်(၇)ရက်၊ အစိုင်အခဲ(၇)ရက်၊ သားတစ် (၇)ရက်၊ ခြေနှစ်ဖက် လက်နှစ်ဖက်၊ ဦးခေါင်းဟုဆိုအပ်သော ခက်မ ငါးဖြာ(၇)ရက် ဖြစ်၏။ ဤငါးသတ္တာဟ ရက်ပေါင်း(၃၅)ရက်အလွန် (၁၁)သတ္တာဟ၊ ရက်ပေါင်း (၇၇)ရက်စေ့သောအခါ၌ စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါဟုဆိုအပ်သော ပသာဒအကြည်ရုပ် ၄-ခုတို့တစ်ပြိုင်တည်း ဖြစ်ပေါ်လာကြသည်" ဟုအဋ္ဌကထာ[၁] ဆရာ မူလဋီကာဆရာနှင့် တကွဆရာမြတ်တို့ယူတော်မူကြသည်။

ဋီကာကျော်၌ကား။ "ပဝတ္တိကာလေတိ သတ္တမေ သတ္တာဟေ, ဋီကာကာရမတေန ဧကာဒသမေ သတ္တာဟေ ဝါ" ဟုဖွင့်၏။ သက္ခု, သောတ,ဃာန,ဇိဝှါ ပသာဒတို့သည်(၄၉)ရက်မှစ၍ တစ်သတ္တာဟစီ ခြားပြီး အစဉ်အတိုင်း ဖြစ်လာကြသည်ဟုဆိုပါသည်။ ဤသို့မူလ ဋီကာ စသောဆရာတို့နှင့်ဋီကာကျော်ဆရာ အယူမတူရခြင်း၏ အကြောင်းရင်းမှာ။ "ဂဗ္ဘသေယျကသတ္တာနံ အဋ္ဌတ္တိကာယတနေသု မနာယတန ကာယာယတနာနေဝ ပဋိသန္ဓိက္ခဏေ ဥပ္ပဇ္ဇန္တိ၊ သေသာနိ စတ္တာရိ သတ္တ သတ္တတိ ရတ္တိမှိ" ဟူသော ကထာဝတ္ထု သဋ္ဌာယတနုပ္ပတ္တိ

---

၁။ ဘိ ၊ ဌ ၊ ၃ ၊ ၂၄၀။

ကထာကိုဖွင့်သော အဋ္ဌကထာပါဌ်ပင်ဖြစ်ပါသည်။

ထိုပါဌ်၏အဓိပ္ပါယ်ကား-"ဂဗ္ဘသေယျကတို့ ပဋိသန္ဓေခဏ၌ အနွတ္တိကာယတန(၆)ပါးတွင် ကာယာယတနနှင့်မနာယတန သာဖြစ်ကြသေး၏၊ ကြွင်းသောစက္ခု, သောတ, ဃာန, ဇိဝှါ ဟူသော (၄)ခုသောအာယတနတို့မှာ သတ္တ သတ္တတိ ရတ္တိမှို (၇၇)ရက်ကြာမှ ဖြစ်ကြသည်"ဟုဆိုလိုပါသည်။

ဤအဋ္ဌကထာပါဌ်၌"သတ္တ သတ္တတိ ရတ္တိမှို"ဟုဆိုလျှင် (၇၇)ညဉ့်ဖြစ်၍ (၁၁)သတ္တာဟရ၏။ တိအက္ခရာမပါဘဲ "သတ္တ သတ္တ ရတ္တိမှို"ဟုဆိုလျှင် "၇+၇လီ"(၄၉)ညဉ့်ဖြစ်၍ (၇)သတ္တာဟ သာရသည်။ ဤသို့အဋ္ဌကထာပါယ်ပျက်ကိုတွေ့၍"သတ္တာမေ သတ္တာဟေ"ဟု ဋီကာကျော်ဆရာအဖွင့်မှားဟန်တူသည်ဟု ဆရာ မြတ်တို့ယူဆတော်မူကြသည်။[၁]

**ယုတ္တိစစ်တမ်း**

ယုတ္တိရှိမရှိကိုစဉ်းစားစစ်ဆေးကြည့်လျှင် သတ္တမသတ္တာဟ (၄၉)ရက်ဝယ် စက္ခုဒသကဖြစ်နိုင်ဖွယ်မရှိ၊ ပဉ္စမသတ္တာဟ၌ဦးခေါင်း ပေါက်တို့ရာလည်ပင်း အရာမျှပေါ်ခါစသာရှိသေး၏၊ ရှေ့ကတဖြည်းဖြည်း ကြီးပွားခဲ့သောအစဉ်ကိုကြည့်လျှင် သတ္တမ သတ္တာဟ(၄၉)ရက်၌လည် ပင်း ပုံသဏ္ဌာန်သည်ပင် ဟန်ဟန်ပန်ပန်ရှိဦးမည်မထင်၊ ဧကာဒသမ သတ္တာဟ (၇၇)ရက်လောက်ရောက်မှသာ မျက်လုံး, နား, နှာခေါင်းနှင့် လျှာဖြစ်သောအခါ စက္ခုပသာဒရုပ်စသည်တို့ အဆင်သင့်ပါဝင် လာဖွယ် ရှိသည်။

---

၁။ သဒ္ဒိဟ်ဘာသာဋီကာ၊ ၅၃၀။

သို့ဖြစ်၍ဋီကာကျော်ဆရာ၏အယူသည်မသင့်၊ အဘိဓမ္မာအဋ္ဌကထာနှင့်မူလဋီကာ စသောဆရာမြတ်တို့အလို ရက်ပေါင်း(၇၇)ရက် အချိန်မှ စ၍ဝမ်းတွင်း အောင်း သူငယ်သည် စက္ခုပသာဒ စသောပသာဒရုပ် ၅-ခုလုံးတစ်ပြိုင်နက်အစုံအလင် ဖြစ်ပေါ်နေပြီဟူသောအယူကိုသာ သင့်မြတ်သောအယူဟုမှတ်ယူသင့်ပါသည်။ ထိုမှနောက်ပသာဒရုပ် များ တစ်စထက်တစ်စ ရင့်သထက်ရင့်အောင် ဆက်လက်တိုးတက် ဖြစ်ပေါ်နေကြ၏။ ဖွားခါနီး အချိန်၌ကား ထိုပသာဒရုပ်များရင့်သည်ထက်ရင့်ပြီး ပြည့်စုံသည်ထက် ပြည့်စုံနေသည်မှာယုံမှားဖွယ် မရှိပေ။

**မနသိကာရသဘော**

ဖော်ပြပါ ပဉ္စဒွါရဝီထိဖြစ်ကြောင်းအင်္ဂါများတွင် မနသိကာရအင်္ဂါသည် ငါးဝီထိလုံး၌ပါဝင်နေသည်ကို တွေ့ရပေမည်။ ဤသည်မှာမနသိကာရမရှိလျှင် မည်သည့်ပဉ္စဒွါရဝီထိစိတ်မျှ မဖြစ်နိုင်ဟူသောအဓိပ္ပါယ်ကိုဖော်ပြနေခြင်းပင် ဖြစ်ပါသည်။ ဤမျှအရာကျယ်သောမနသိကာရသဘောကို ဖော်ပြရလျှင် -

မနသိကာရဟူသည် မနသိ - စိတ်၌၊ ကာရ - ပြုခြင်း = မနသိကာရ -စိတ်၌ပြုခြင်း၊ (ဝါ)နှလုံးသွင်းခြင်းဟု အဓိပ္ပါယ်ရပါသည်။

**မနသိကာရ (၃)မျိုး**

၎င်းမနသိကာရသည် -

(၁) ဝီထိပဋိပါဒကမနသိကာရ (ပဉ္စဒွါရာဝဇ္ဇန်းစိတ်)

(၂) ဇဝနပဋိပါဒကမနသိကာရ (မနောဒွါရာဝဇ္ဇန်းစိတ်)

(၃) အာရမ္မဏပဋိပါဒကမနသိကာရ (မနသိကာရစေတ

သိက်)ဟူ၍ မနသိကာရ ၃-မျိုးရှိ၏။[၁]

(၁) ဝီထိပဋိပါဒကမနသိကာရဆိုသည်မှာ= ဘဝင်စိတ်ချည်းဖြစ်နေရာမှ ဝီထိစိတ်အစဉ်ကို ဖြစ်ပေါ်လာစေနိုင်သော နှလုံးသွင်းဆင်ခြင်မှုမျိုးကို ဝီထိပဋိပါဒကမနသိကာရဟု ဆိုပါသည်။ တရားကိုယ်မှာ ပဉ္စဒွါရာ ဝဇ္ဇန်းစိတ်ဖြစ်၏။

(၂) ဇဝနပဋိပါဒကမနသိကာရဆိုသည်မှာ=ဝီထိစိတ်အစဉ်၌ ဇောစိတ်အစဉ်ကိုဖြစ်စေတတ်သော ပေါ်လာစေတတ်သောနှလုံးသွင်းဆင်ခြင်မှုကို ဇဝနပဋိပါဒကမနသိ ကာရဟု ခေါ်၏။ တရားကိုယ်မှာ မနောဒွါရာဝဇ္ဇန်း စိတ်ဖြစ်သည်။ ၎င်းစိတ်ကို ပဉ္စဒွါရဝီထိစိတ်အစဉ်၌ ဝုဋ္ဌောဟူသောနာမည်ဖြင့်လည်းကောင်း၊ မနောဒွါရ ဝီထိစိတ်အစဉ်၌ မနောဒွါရာဝဇ္ဇန်းဟူသောနာမည်ဖြင့်လည်းကောင်း ခေါ်ဝေါ်သုံးစွဲပါသည်။ ယင်းစိတ်သည် အာရုံခံစားတတ်သည့် ဇောစိတ်အစဉ်ကို ဣဋ္ဌာရုံ ဣဋ္ဌ အခြင်းအရာကို ခံစားစေခြင်းဖြင့်လည်းကောင်း၊ အနိ ဋ္ဌာရုံ အနိဋ္ဌအခြင်းအရာကို ခံစားစေခြင်းဖြင့်လည်း ကောင်း ပိုင်းခြားဆုံးဖြတ်ခြင်းနှင့် နှလုံးသွင်းစီမံခြင်းများ ကိုပြုလေ၏။ ထို့ကြောင့် မနောဒွါရာဝဇ္ဇန်းစိတ်ကို ဇဝနပဋိပါဒကမနသိကာရဟု ခေါ်ပါသည်။

(၃) အာရမ္မဏပဋိပါဒကမနသိကာရဆိုသည်မှာ=အဆင်းရူပါရုံအစရှိသည့် အာရုံကိုဖြစ်စေတတ်သော နှလုံးသွင်း ဆင်ခြင်မှုကို အာရမ္မဏပဋိပါဒကမနသိကာရဟု ခေါ် ပါသည်။ တရားကိုယ်မှာ မနသိကာရစေတသိက်ပင် ဖြစ်ပါသည်။

---

၁။ ဘိ၊ ဋ္ဌ၊ ၁၊ ၁၇၇။

## မနသိကာရသုံးမျိုးခြားနားချက်

ယင်းမနသိကာရသုံးမျိုးခြားနားချက်ကို ထင်ရှားအောင် ရှင်းပြရသော် သတ္တဝါတို့သန္တာန်၌ဖြစ်ပေါ်နေသည့် စိတ်ကိုလေ့လာကြည့်လျှင် အာရုံသစ်ထင်လာမှုမရှိသည့်အခါ (ဝါ) အိပ်ပျော်၍ဘဝင်ကျနေသည့်အခါ ရှေးကပြုခဲ့၊ ပြောဆိုခဲ့၊ လုပ်ခဲ့ဖူးသည့် အတိတ်အာရုံများထင်မြင်နေပြီး၊ သိမှုသဘောကင်းမဲ့နေသည့်အလား ဖြစ်နေရာမှ ရုတ်တရက်တစ်စုံတစ်ခု ကျယ်လောင်သောအသံကိုကြားရသောအခါ လန့်နိုးပြီးဘဝင်စိတ်များ ပြတ်သွားကာ အသစ်ပေါ်လာသည့်အသံသဒ္ဒါရုံကို နှလုံးသွင်းဆင်ခြင်ခြင်း၊ ပဉ္စဒွါရာဝဇ္ဇန်းစိတ်၊ ထို့နောင်သောတဝိညာဏ်၊ သမ္ပဋိစ္ဆိုန်း၊ သန္တီရဏဖြစ်၏။ ထို့နောင် အလိုရှိအပ်သော ဣဋ္ဌအသံ သို့မဟုတ် အလိုမရှိအပ်သော အနိဋ္ဌအသံဟု ပိုင်းခြားမှတ်သားခြင်း ဝုဋ္ဌောခေါ် မနောဒွါရာဝဇ္ဇန်းစိတ်ဖြစ်၏။ ယင်းနောက်သဒ္ဒါရုံ၏အရသာကို အကြိမ်ကြိမ်ခံစားခြင်း ဇောစိတ်အစရှိသည့်စိတ်အစဉ် ဝီထိများ ဖြစ်ပျက်သဘောဖြင့် ဖြစ်လျက်ရှိ၏။

ဤစိတ်အစဉ်ဝီထိ၌ သဒ္ဒါရုံကို နှလုံးသွင်းဆင်ခြင်သည့် ပဉ္စဒွါရာဝဇ္ဇန်းစိတ်သည် အထက်တွင်ဆိုခဲ့သည့်အတိုင်း ဖော်ပြပါဝီထိစိတ်အစဉ်ကို ဖြစ်ပေါ်စေနိုင်သော နှလုံးသွင်းစိတ်ဖြစ်သည်။ ထို့ကြောင့် ယင်းစိတ်ကို ဝီထိပဋိပါဒက မနသိကာရဟု ကျမ်းဂန်များကမိန့်ဆိုသည်။ ဖော်ပြပါဝီထိစိတ်အစဉ်၌ ဣဋ္ဌအနိဋ္ဌကို ပိုင်းခြားဆင်ခြင်တတ်သည့် ဝုဋ္ဌောခေါ် မနောဒွါရာဝဇ္ဇန်းစိတ်သည်လည်း ယင်း၏နောက်တွင်ဖြစ်ပေါ်သည့် ဇောစိတ်အစဉ်ကို ပေါ်လာစေတတ်သော နှလုံးသွင်းတစ်မျိုးပင်ဖြစ်၏။ ထို့ကြောင့် ၎င်းစိတ်ကို ဇဝနပဋိပါဒက

မနသိကာရဟု ခေါ်ပါသည်။

ဆိုခဲ့သည့်ဝီထိစိတ်အစဉ်၌ အာရုံသစ်မထင်မီ (ဝါ) အိပ်ပျော်နေစဉ်ဖြစ်ပေါ်လျက်ရှိသည့် ဘဝင်စိတ်များသည် သိမ္မသဘောကင်းနေသည့်အလား ဖြစ်နေ၏။ စိတ်တို့မည်သည်မှာလည်း မည်သည့်စိတ်မျှ အာရုံနှင့်ကင်း၍မဖြစ်နိုင်သောကြောင့် ဘဝင်စိတ်များဖြစ်သည်နှင့် တစ်ပြိုင်နက် အတူယှဉ်တွဲဖြစ်ပေါ်လာသည့်မနသိကာရစေတသိက်က နှလုံးသွင်းဆင်ခြင်ခြင်းဖြင့် ရှေးကပြောဆိုပြုလုပ်ခဲ့ဖူးသော အတိတ် အာရုံများကို ပေါ်လာစေပါသည်။

မှန်ပေသည်။ အိပ်ပျော်နေစဉ် ဖြစ်ပေါ်နေသည့် ဘဝင်စိတ်များအာရုံမှဆိတ်သုဉ်းခြင်းမရှိအောင် မနသိကာရစေတသိက်က အတိတ်အာရုံများကို ထင်လာအောင် နှလုံးသွင်းစီရင်တတ်ပါသည်။ ဤသို့အိပ်စက်နေစဉ်အခါများတွင် ဝီထိအစဉ်များဖြစ်ပေါ်မှုမရှိသောကြောင့် ပဥ္စဒွါရာဝဇ္ဇန်း၊ မနောဒွါရာဝဇ္ဇန်းဟုဆိုအပ်သော အာဝဇ္ဇန်းနှစ်မျိုးဖြင့် နှလုံးသွင်းဆင်ခြင်မှုများဖြစ်ပေါ်ခြင်းမရှိဘဲ ဘဝင်စိတ်များအတွက် မနသိကာရစေတသိက်၏ နှလုံးသွင်းဖြင့်သာ အတိတ်အာရုံများ ဖြစ်ပေါ်လာခြင်းဖြစ်သည်။ ထို့ကြောင့် ယင်းနှလုံးသွင်းမနသိကာရစေတသိတ်ကို အာရမ္မဏပဋိပါဒက မနသိကာရဟုခေါ်သည်။

ၚင်းမနသိကာရစေတသိက်သည် အိပ်ပျော်နေချိန်မဟုတ်သောဝီထိစိတ်များဖြစ်နေချိန်၌လည်း စိတ်၌အာရုံကို ပေါ်လာအောင် ပြုပေးနိုင်စွမ်းရှိ၏။ ဥပမာ - လမ်းလျှောက်သွားသူတစ်ယောက်သည် သူသွားသည့်လမ်း၌ ကြည့်စရာရူပါရုံများ၊ ကြားစရာသဒ္ဒါရုံများ၊ နံစရာဂန္ဓာရုံများစသည်တို့နှင့် တွေ့ကြုံရ၏။ သို့သော် ၚင်းအာရုံများ

ကို ဝီထိစိတ်တို့နှင့် အတူတွဲ၍ဖြစ်သော မနသိကာရစေတသိက်က စိတ်၌အာရုံပေါ်လာအောင် နှလုံးသွင်းဆင်ခြင်မှုမပြုလျှင် ဘယ်သူ ဘယ်ဝါ ဖြူငမဲစသည်ဖြင့် ကွဲကွဲပြားပြားသိမည်မဟုတ်ပေ။ မနသိ ကာရစေတသိက်က စိတ်၌ အာရုံကို ပေါ်လာအောင် (ဝါ)အာရုံကို စိတ်သို့ ရောက်အောင် နှလုံးသွင်းဆင်ခြင်မှုပြုမှသာလျှင် ဖြူငမဲ စသည်ဖြင့် ကွဲကွဲပြားပြား သိနိုင်ပေ၏။ ဤသို့အိပ်ပျော်ချိန်မဟုတ် သော ဝီထိစိတ်များဖြစ်ရာအချိန်၌လည်း စိတ်၌အာရုံကိုပေါ်လာ အောင် ပြုတတ်သောကြောင့် ၎င်းမနသိကာရစေတသိက်ကို အာရမ္မဏပဋိပါဒက မနသိကာရဟုခေါ်သည်။

**အမိဝမ်းတွင်းဌ် မနသိကာရရှိပုံ**

ပဋ္ဌဒွါရဝီထိဖြစ်ကြောင်းအင်္ဂါ၄-ပါးတွင်ပါဝင်သော မနသိ ကာရဟူသည် "ကိရိယမနောဓာတုယာ ဘဝင်္ဂ အနာဝဋ္ဋိတေ နုပ္ပဇ္ဇ တိ အာဝဋ္ဋိတေယေဝ ဥပ္ပဇ္ဇတိ"[၁] ဟူသော အဋ္ဌကထာစကားအရ ပဋ္ဌဒွါရာဝဇ္ဇန်းစိတ်ကို အရကောက်ရသော ဝီထိပဋိပါဒကမနသိကာရ ပင် ဖြစ်ပါသည်။ ကျန် မနသိကာရ(၂)ပါး မဟုတ်ပါ။

ယင်းမနသိကာရ(၃)ပါးတွင် ဇဝနပဋိပါဒက မနသိကာရနှင့် အာရမ္မဏပဋိပါဒက မနသိကာရ(၂)ပါးသည် ပဋိသန္ဓေနေစဉ် ဘဝ နိကန္တိက လောဘဇောဖြစ်ရာအခါနှင့်ဘဝင်ဖြစ်ရာအခါများ၌ပင် ဖြစ် နိုင်ကြ၍ အမိဝမ်းတွင်းအောင်းသူငယ်၌ ဖြစ်သည်မှာထင်ရှား၏။ ဝီထိ ပဋိပါဒကမနသိကာရမှာ အဘယ်သို့ဖြစ်နိုင်ပါသနည်း။ အမိဝမ်းတွင်း သူငယ်၌ ဝီထိပဋိပါဒက မနသိကာရ ဖြစ်နိုင်ပါသလားဟုဆိုလျှင်

---

၁။ အဘိ၊ ဋ္ဌ၊ ၁၊ ၃၂၁။

ဖြစ်နိုင်သည်ဟု ဖြေဆိုရပေမည်။ အဘယ့်ကြောင့်ဆိုသော် အမိဝမ်းတွင်းသူငယ်၌ ပဥ္စဒွါရာဝဇ္ဇန်းစိတ်ခေါ် ဝိထိပဋိပါဒက မနသိကာရဖြစ်ကြောင်းအင်္ဂါများနှင့် ပြည့်စုံနိုင်သောကြောင့်ပင် ဖြစ်ပါသည်။

မှန်ပါသည်။ မနသိကာရအမည်ရသည့် ပဥ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ကြောင်းအင်္ဂါများကို စိစစ်ကြည့်လျှင် စက္ခုဒွါရဝိထိဖြစ်ပုံ၌ စက္ခုပသာဒနှင့်အဆင်းရူပါရုံတို့ တိုက်ဆိုင်သည့်အခါ ဘဝင်အစဉ်ဖြစ်ပြီး ပဥ္စဒွါရာဝဇ္ဇန်း၊ စက္ခုဝိညာဉ်၊ သမ္ပဋိစ္ဆိုင်းစသည့်စိတ်အစဉ် ဝိထိဖြစ်ပေါ်၏။ ဤဝိထိ၌ ပဥ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ကြောင်းကိုရှာလျှင် (၁) စက္ခုပသာဒနှင့် (၂)အဆင်းရူပါရုံတိုက်ဆိုင်မှုဖြစ်သည်ကိုတွေ့ရ၏။ ယင်း စက္ခုပသာဒနှင့် ရူပါရုံတို့သည်လည်း အလင်းရောင်မရှိလျှင် တိုက်ဆိုင်မှုမဖြစ်နိုင်၊ အလင်းရောင်ရှိမှသာ တိုက်ဆိုင်မှုဖြစ်နိုင်၏။ သို့ဖြစ်၍ စက္ခုဒွါရ၌ ပဥ္စဒွါရာဝဇ္ဇာန်းစိတ်ဖြစ်ကြောင်းအင်္ဂါများမှာ-

(၁) စက္ခုပသာဒ၊

(၂) ရူပါရုံနှင့်

(၃) အာလောက - အလင်းရောင်တို့ပင်ဖြစ်ကြောင်း ထင်ရှား၏။

သောတဒွါရဝိထိ၌လည်း ပဥ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ကြောင်းအင်္ဂါများမှာ-သောတပသာဒနှင့် အသံသဒ္ဒါရုံ တိုက်ဆိုင်မှုတို့ပင် ဖြစ်ပါသည်။ ၎င်းတိုက်ဆိုင်မှုသည်လည်း အာကာသခေါ် အပေါက်အကြားမရှိလျှင် မဖြစ်နိုင်။ (အသံလုံးခန်း၌ မည်သည့်အသံမျှ မကြားရသည်ကို သတိပြုပါ။) အပေါက်အကြား အာကာသရှိမှသာ ဖြစ်နိုင်၏။ သို့ဖြစ်၍ - ၂၃၆၅၅

(၁) သောတပသာဒ၊

(၂) သဒ္ဒါရုံ၊

(၃) အာကာသတို့သည် ပဉ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ကြောင်း အင်္ဂါများပင် ဖြစ်ပါသည်။

ထို့အတူ ဃာနဒွါရဝီထိ၌ -

(၁) ဃာနပသာဒ၊

(၂) ဂန္ဓာရုံ၊

(၃) ရှိုက်ရှူသောလေဟူသော အင်္ဂါသုံးပါးသည်လည်း ကောင်း၊

ဇိဝှါဒွါရဝီထိ၌ -

(၁) ဇိဝှါပသာဒ၊

(၂) ရသာရုံ၊

(၃) စွတ်စိုမှု အာပေါဓာတ်သုံးပါးသည်လည်းကောင်း၊

ကာယဒွါရဝီထိ၌

(၁) ကာယပသာဒ၊

(၂) ဖောဋ္ဌဗ္ဗာရုံ၊

(၃) ခက်မာသောပထဝီဓာတ် သုံးပါးတို့သည်လည်းကောင်း ပဉ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ကြောင်း အင်္ဂါများပင်ဖြစ်ကြပါသည်။ ဤအကြောင်းအင်္ဂါများစုံညီလျှင် ပဉ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ပါသည်။ မစုံညီလျှင် မဖြစ်နိုင်ပါ။

အမိဝမ်းတွင်းအောင်းသူငယ်၌ ပဉ္စဒွါရာဝဇ္ဇန်းစိတ်ဖြစ်ပုံကို ထင်ရှားစွာပြဆိုရလျှင် ဝမ်းတွင်းသူငယ်၌ -

(၁) ကာယပသာဒလည်းအထင်အရှားရှိ၏။
(၂) အပူအအေး အတွေ့အထိစသော ဖောဋ္ဌဗ္ဗာရုံလည်းရှိ၏။
(၃) ထိုတွေ့ထိမှု ဖောဋ္ဌဗ္ဗာရုံကို ခံယူနိုင်သည့်ခက်မာသော ပထဝီဓာတ်လည်းရှိ၏။ ဤအင်္ဂါများစုံညီနေ၍ အမိဝမ်းတွင်းအောင်းသူငယ်၌ ပဋ္ဌဗ္ဗါရာဝဇ္ဇန်းခေါ်သော ဝီထိပဋိပါဒကမနသိကာရဖြစ်နိုင်၊ ရှိနိုင်သည်မှာ ယုံမှားဖွယ်ပင် မရှိချေ။

အမိဝမ်းတွင်းအောင်းသူငယ်သည် ထိုသို့ပသာဒမနသိကာရစသည်တို့နှင့်ပြည့်စုံနိုင်သော်လည်း အမိဝမ်းတွင်း၌ အာလောကအလင်းရောင်ကို မရနိုင်သောကြောင့် စက္ခုဒွါရဝီထိဖြစ်ကြောင်းအင်္ဂါများချွတ်ယွင်းနေ၏။ ထို့ကြောင့် စက္ခုဒွါရဝီထိစိတ် မဖြစ်နိုင်ပါ။

အမိဝမ်းတွင်းအောင်းသူငယ်သည် -

(၁) သောတပသာဒလည်းရှိ၏။
(၂) အမိဝမ်းတွင်း၌ ဝမ်းရုတ်သံ ၊ ဝမ်းဗိုက်ကို ထိခိုက်ပုတ်ခတ်သည့်အသံ သဒ္ဒါရုံများလည်းရှိ၏။
(၃) ထိုအသံများကိုကြားနိုင်သော အာကာသအပေါက်အကြားလည်း ရှိ၏။
(၄) ယင်းအင်္ဂါသုံးပါးနှင့်ပြည့်စုံ၍ ပဋ္ဌဗ္ဗါရာဝဇ္ဇန်းစိတ်ခေါ် မနသိကာရလည်း ဖြစ်လျက်ရှိ၏။

ဤသို့သောတဒွါရ ဝီထိဖြစ်ကြောင်း အင်္ဂါလေးပါးလုံးနှင့်ပြည့်စုံနေ၍ သောတဝိညာဏ်ခေါ် သောတဒွါရဝီထိဖြစ်နိုင်ပါသည်။

အမိဝမ်းတွင်း၌ ကိန်းအောင်းနေသောသူငယ်သည် ဝင်လေထွက်လေ မရှိနိုင်ပါ။ အဘယ့်ကြောင့်ဆိုသော် ကျမ်းဂန်တို့၌ ဝင်လေ

ထွက်လေ (အဿာသ ပဿာသ)မဖြစ်နိုင်သော ပုဂ္ဂိုလ်(၈)မျိုးရှိကြောင်း ပြဆိုထား၏။ ၎င်းတို့မှာ -

(၁) အမိဝမ်းတွင်း၌ ကိန်းသောပုဂ္ဂိုလ်၊

(၂) ရေနစ်သောပုဂ္ဂိုလ်၊

(၃) တွေဝေမိန်းမောသောပုဂ္ဂိုလ်၊

(၄) သေသောပုဂ္ဂိုလ်၊

(၅) စတုတ္ထစျာန်ဝင်စားခိုက်သောပုဂ္ဂိုလ်၊

(၆) ရူပပုဂ္ဂိုလ်၊

(၇) အရူပပုဂ္ဂိုလ်၊

(၈) နိရောဓသမာပတ်ဝင်စားဆဲဖြစ်သောပုဂ္ဂိုလ်တို့ ဖြစ်ပါသည်။ [၁] ဤသို့အမိဝမ်း၌ ကိန်းသောပုဂ္ဂိုလ်သည် ဝင်လေထွက်လေမဖြစ်နိုင်သောကြောင့် ဃာနဒွါရဝီထိဖြစ်ကြောင်းအင်္ဂါများ ချွတ်ယွင်းနေ၏။ ထို့ကြောင့် ဃာနဒွါရဝီထိစိတ်မဖြစ်နိုင်ပါ။

အမိဝမ်းတွင်အောင်းသူငယ်သည် လျှာ၌အရည်အာပေါဓာတ် ရရှိနိုင်ပါသည်။ ထိုအာပေါဓာတ်အရည်၌ ရသာရုံခေါ် ရသဓာတ်လည်း ပါဝင်နိုင်၏။ ဇိဝှါပသာဒလည်းရှိ၏။ ဤအချက်များကြောင့် မနသိကာရလည်း ဖြစ်လျက်ရှိ၏။ ယင်းသို့အင်္ဂါ၄-ပါးလုံးနှင့် ပြည့်စုံနေသောကြောင့် ဇိဝှါဒွါရဝီထိဖြစ်နိုင်ပါသည်။

အမိဝမ်းတွင်း၌ ကိန်းအောင်းသောသူငယ်သည် ပဋိသန္ဓေနေစအခါကပင် ကလလရေကြည်၌ ကာယပသာဒပါဝင်ပြီး ဖြစ်၏။ သို့ဖြစ်၍ ပသာဒရုပ်၅-ခုအနက် ကာယပသာဒသည် ပဌမဦးစွာဖြစ်

၁။ တိပိဋကပါဠိမြန်မာအဘိဓာန်အတွဲ ၊ ၃ ၊ ၁၁၃၃။

ပေါ်လာသော ပသာဒဖြစ်၏။ ၎င်းပသာဒသည်ဖြစ်စဉ် အလွန်နူးညံ့သိမ်မွေ့ပြီး ထိခိုက်ခြင်း၄ှာတတ်ကောင်းသော ခက်မာသောပထဝီအခံဓာတ် မဖြစ်နိုင်သေးပါ။ သို့သော် တဖြည်းဖြည်း ရက်ကြာလာသောအခါ ယနခေါ်သော မာမာခက်ခက် တစ်ခဲနက်အသားတစ်ကြီးဖြစ်ပြီး ထိခိုက်ခြင်း၄ှာ တတ်ကောင်းသောပထဝီအခံဓာတ် ဖြစ်လာပါသည်။

ထို့ပြင် ဝမ်းတွင်းအောင်းသူငယ်သည် ကြမ်းတမ်းသည့်အတွေ့ နူးညံ့သည့်အတွေ့ဟူသော ပထဝီဖောဋ္ဌဗ္ဗာရုံ၊ ပူခြင်းအေးခြင်းဟူသော တေဇောဖောဋ္ဌဗ္ဗာရုံတို့ကိုလည်း တွေ့ကြုံရရှိနိုင်လေ၏။

မှန်ပါသည်။ ထိုအကြောင်းကို အဘိဓမ္မာအဋ္ဌကထာကြီးတို့၌ "အယဥ္စ သတ္တော မာတုကုစ္ဆိမှိ နိဗ္ဗတ္တမာနော"စသည်ဖြင့် ပြဆိုထားပါသည်။ အဓိပ္ပါယ်မှာ - အမိဝမ်း၌ကိန်းသူ ကိုယ်ဝန်သူငယ်သည် အစာကျက်အိမ်ပေါ်ထိုင်ကာ အစာသစ်အိမ်ကို ရွက်လျက်အမိကျောရိုးကို မျက်နှာမူပြီး ဆောင့်ကြောင့်ထိုင်နေရ၏။ လက်နှစ်ဖက်ဆုပ်ကာ မေးကိုထောက်လျက် မိုးရွာသည့်အခါ သစ်ခေါင်းတွင်းရှိမျောက်ကဲ့သို့ ကျပ်တည်းကျဉ်းမြောင်းစွာ ကုပ်ကုပ်လေး နေရ၏။ ထို့ပြင် (၁၀)လပတ်လုံး အမိကိုယ်ငွေ့ကြောင့် ရေနွေးဖြင့်ပြုတ်ဖျောအပ်သကဲ့သို့ ခံစားရ၏။ ကွေးခြင်းဆန့်ခြင်းမရှိသည့်အတွက် လွန်စွာဆင်းရဲ၏။ တဲ့တဲ့ဆွဲလိုက် နောက်ကဆွဲလိုက်၊ အထက်မြောက်လိုက်၊ အောက်နှိပ်လိုက်စသည်ဖြင့် လွန်ကဲသောဆင်းရဲကို ခံစားရ၏။ မိခင်က အေးသောရေကို သောက်သည့်အခါ သူငယ်သည် အလွန်အေးသော ငရဲ၌ကျသကဲ့သို့၊ ပူသောအာဟာရကို စားသောအခါ သူငယ်

သည် မီးကျီးထဲ ပစ်ချခံရသကဲ့သို့၊ အငန်အချဉ်စသည်တို့ကို စားသောအခါ သူငယ်သည် အရေခွါ၍ ဆားငန်ရည်လောင်းခံရသကဲ့သို့ လွန်ကဲသော ဆင်းရဲကို ခံစားရ၏ဟု ဆိုလိုပါသည်။ [၁]

ဤသည်ကိုရည်၍ မဟာဝိသုဒ္ဓါရုံဆရာတော်ဘုရားကြီးက-

"စာသစ်စာကျက်၊ အောက်ထက်ဝန်းရံ၊ ပုပ်နံ့ညှိလှောင်း၊
ကျဉ်းမြောင်းမဲမိုက်၊ မိဝမ်းတိုက်ဝယ်၊ ဘင်၌လောက်လို၊
ကျောက်ကိုဝမ်းပြု၊ ဒူးနှစ်ခုကြား၊ ဦးခေါင်းထားလျက်၊
မေးကြားလက်ဆုပ်၊ သစ်ငုတ်တို့မှာ၊ မျောက်အိုကုပ်သည့်
နှယ်၊ မလှုပ်မယှက်၊ သေသောက်လက်ဝယ်၊ ဆိတ်သူ
ငယ်လို၊ အလမွာယ်မိ၊ မြွေငယ်ချိသို့၊ အမိစပ်ခါး၊ ပူအေး
စားလည်း၊ ကိုယ်သားဆတ်ဆတ်၊ သက်ပြတ်တစေ၊
ဆယ်လနေ၍၊ လေကမ္မဇ ဦးဆောက်ချသား၊ မင်္ဂဝသို့
ရောက်၊ သံကောက်ပေါက်မှ၊ ဆွဲမြောက်ဆင်ပြောင်၊
သံတောင်ကြိတ်ချေ၊ ပုံနေရယိက၊ ပြင်သို့ကျလည်း၊
အပ်ဆွသည့်ဟန်၊ ကြီးပြန်ဒုက္ခ၊ များပြားလှသည်၊ လက်စ
ဇာတိမူရင်းတည်း။ [၂]

ဟူ၍ စပ်ဆိုတော်မူခဲ့ပါသည်။ လွန်စွာသံဝေဂရဖွယ်ရာ ဖြစ်၏။ ဤသို့သောအမိဝမ်းတွင်း ဖောဋ္ဌဗ္ဗာရုံနှင့်တွေ့ကြုံမှု ဆင်းရဲကိုကိုယ်ဝန်သူငယ်ခံစားရသည်ဟု အဘိဓမ္မာအဋ္ဌကထာကြီးတို့၌ ဆိုပါသည်။

တစ်ချို့သုတ္တန်ကျမ်းတို့၌ကား -

"လောကီလူသာမန်တို့သည် အမိဝမ်းတွင်း၌ သန္ဓေယူသည်

---

၁။ ဘိ ၊ ဋ ၊ ၂ ၊ ၉၀။ ၂။ ပရမတ္ထသရူပဘေဒနီကျမ်း ၊ ပ ၊ ၂၉၇။

ကိုလည်းကောင်း၊ နေရသည်ကိုလည်းကောင်း၊ ဖွားသည် ကိုလည်းကောင်းမသိကြကုန်။ ဘုရားလောင်းတို့သည်သာ အမိဝမ်းတွင်းသို့ဝင်သည်ကိုလည်းကောင်း၊ နေရသည်ကိုလည်းကောင်း သိကုန်၏။ ရှစ်ကျိပ်သော မဟာသာဝကတို့သည် ဝင်သည်ကိုသာ သိကုန်၏။ နေရသည်ကိုလည်းကောင်း၊ ဖွားသည်ကိုလည်းကောင်း မသိကုန်။ အဂ္ဂသာဝကနှစ်ဦး နှင့် ပစ္စေကဗုဒ္ဓါအလောင်းတို့သည် ဝင်သည်ကိုလည်းကောင်း ၊ နေရသည်ကိုလည်းကောင်း သိကုန်၏။ ဖွားသည်ကို မသိကြ။"ဟု ဆိုပါသည်။[၁]

မည်သို့ပင်ဆိုစေ၊ အမိဝမ်းတွင်းသူငယ်သည် ဖောဋ္ဌဗ္ဗာရုံနှင့်တွေ့ရမည်မှာ ဧကန်ပင်ဖြစ်၏။ ထို့ကြောင့် အမိဝမ်းတွင်း သူငယ်၌ ကာယပသာဒ၊ ဖောဋ္ဌဗ္ဗာရုံပထဝီဓာတ်စသော အင်္ဂါလေးပါးလုံးနှင့် ပြည့်စုံနေ၍ ကာယဝိညာဏ်စိတ်၊ ကာယဒွါရဝီထိစိတ်ဖြစ်သည်မှာ သေချာသည်။

အမိဝမ်းတွင်းသူငယ်သည် ပဥ္စဒွါရဝီထိတို့တွင် စက္ခုဒွါရဝီထိနှင့်ဃာနဒွါရဝီထိနှစ်ပါး မဖြစ်ကောင်း၊ ကြွင်းသော သောတဒွါရဝီထိ၊ ဇိဝှါဒွါရဝီထိနှင့် ကာယဒွါရဝီထိစိတ်များ ဖြစ်ကောင်း၏ဟု မှတ်ယူသင့်ပါသည်။

**အဘိဓမ္မာအရာ လိမ္မာကျွမ်းကျင်သည့် ရှေးဆရာများ အမြေ**

အဘိဓမ္မာအရာ လိမ္မာကျွမ်းကျင်သည့် ကျမ်းပြုအကျော် ရှေးဆရာတော်တို့သည်လည်း အထက်ပါနည်းအတိုင်း စီစစ်ဖြေဆိုထားသည်ကို တွေ့ရပါသည်။ ယင်းဆရာတော်များအနက် သင်္ဂြိုဟ်

---

၁။ ဒီ ၊ ၃ ၊ ၈၅။ ဒီ ၊ ၄ ၊ ၃ ၊ ၆၉။

ဘာသာဋီကာကျမ်းပြုဆရာတော်၏ ဖြေဆိုထားပုံကို ရှေးဦးစွာဖော်ပြရလျှင် -

"အမိဝမ်း၌ ဤပဉ္စဒွါရဝီထိများဖြစ်ထိုက်၊ မဖြစ်ထိုက်ဟု စိစစ်လေ့ရှိကြ၏။ ထို့ကြောင့် ဝဇီရာရာမဆရာတော်၏ မေးမြန်းချက်အရ ပရမတ္ထသရူပဘောဒနီကျမ်း၏ အဆုံးအဖြတ်ကိုအကျဉ်းမျှရေးသားပေအံ့။ စက္ခုပသာဒ ရူပါရုံ အာလောက မနသိကာရ ဤအကြောင်းလေးပါးစုံမှ စက္ခုဝိညာဏ်ဖြစ်နိုင်၏။ ထိုတွင် အမိဝမ်း၌ အာလောက(အလင်းရောင်)မရှိ၍ စက္ခုဒွါရိက ဝီထိမဖြစ်နိုင်။ ["အန္ဓောကာ္ဆိယံ ဟိ စက္ခုဝိညာဏံ န ဥပ္ပဇ္ဇတိ"သုတ်မဟာဝဂ္ဂ မဟာပဒါနသုတ်အဋ္ဌကထာ] အတောင်တစ်ရာ နှစ်ရာရှိသော သစ်တုံးကြီး၏အရင်း၌ နားကို ကပ်၍ တစ်စပ်တည်းထားလျှင် သစ်တုံးဖျားက တိုးတိုးသာသာ ခေါက်သည့်အသံကို ကြားနိုင်သောကြောင့် အမိဝမ်းတွင်း၌နေသော သူငယ်၏ သောတပသာဒရုပ်များ ပြည့်စုံလုံလောက်သောအခါ သူငယ်၏နားနှင့် နီးကပ်လျက်ရှိသော အူတွင်းအူမက ဝမ်းရုတ်သံ ဝမ်းဗိုက်၌ ထိခိုက်ရိုက်နှက်သံများကို အာရုံပြု၍ သောတဒွါရိကဝီထိကား ဖြစ်သင့်ပေသည်။ အမိဝမ်းတွင်းမှာ နေခိုက် အသက်မရှူနိုင်၊ အသက်မရှူက ဂန္ဓာရုံသည် နှာခေါင်းတွင်းသို့ မရောက်နိုင်သောကြောင့် ဃာနဒွါရဝီထိဖြစ်ဖွယ်မရှိ။ ဇိဝှါပသာဒပြည့်စုံလုံလောက်သည့်အခါ သူငယ်၏ခံတွင်း၌ အဆင်သင့်ရှိကြသော အာရည်လျှာရည်တို့အတွက်ကြောင့်၊ ဇိဝှါဒွါရိကစိတ်များဖြစ်နိုင်ရန် ရှိသည်။ ကာယဒွါရိကဝီထိဖြစ်ဘို့ရာ ထိခိုက်ဖွယ်ဖောဋ္ဌဗ္ဗာရုံတွေ အမိဝမ်းတွင်းမှာပင် အပြည့်အစုံရှိသောကြောင့် ယုံမှားဖွယ်မရှိပြီ" [၁] ဟူ၍ ဖြေဆိုထားပါသည်။

---

၁။ သင်္ဂြိုဟ်ဘာသာဋီကာ ၊၂၃၇။

ထို့ပြင် အဘိဓမ္မတ္ထဒီပကကျမ်း၌လည်း ၎င်းသဘောတရား အတိုင်းပင် ဖြေဆိုထားသည်ကို တွေ့ရပြန်ပါသည်။ ယင်းအဖြေကို ဖော်ပြရလျှင် -

**အမိဝမ်းတွင်းကိန်းအောင်းရှိသည့်ဝီထိဖြစ်ပုံပြချက်**

စက္ခုဝိညာဏ်ဖြစ်ကြောင်းလေးပါးတို့တွင် အာ လောကကိုမရ သောကြောင့် သူငယ်သန္တာန်၌ စက္ခုဒွါရိက ဝီထိမဖြစ်။ သောတဒွါရိက ဝီထိမှာ အမိဝမ်းတွင်း၌နေစဉ် ပင် သူငယ်နားနှင့် တစ်စပ်တည်း နီးကပ် သော အူတွင်းအူမ စသည်၌ ဖြစ်သောဝမ်း ရုတ်သံ၊ ဝမ်းဗိုက်ကို ထိခိုက်ရိုက်နှက်သံများကိုပြု၍ သောတဒွါရဝီထိ ဖြစ်သင့်၏ဟုမှတ်။

ဃာနဒွါရဝီထိမှာ -

“မိဝမ်းတွင်းလူ၊ သက်မရှူ၊ ရေပူနစ်မြုပ်ပါ။
စတုတ္ထစျာန်၊ ဝင်စားပြန်၊ မှတ်ရန်အသညာ။
ရူပါရူပစျာန်၊ ပြဟ္မာမှန်၊ မှတ်ရန်နိရောဓာ။
တွေဝေသောသူ၊ သေသောသူ၊ မှတ်ယူအဋ္ဌမာ။

ဟူသော ထွက်သက်ဝင်သက်မဖြစ်ကောင်းသော သတ္တဝါရှစ်ယောက် တွင် အမိဝမ်းတွင်းသတ္တဝါ ပါဝင်သောကြောင့် အမိဝမ်းဗိုက်၌ ဃာန ဒွါရဝီထိမဖြစ်သင့်ဟုမှတ်။ မွေးဖွား၍ရှေးဦးစွာသိမ်မွေ့စွာသော ထွက် သက်၊ ထို့နောက် ငြိမ်သက်သိမ်မွေ့စွာသော ဝင်သက်၊ ဤသို့စသည် ဖြင့် အလှည့်အလှည့်စီဖြစ်ကြ၍ ထွက်သက်ဝင်သက်လေဖြစ်သော အခါတို့မှာသာ ဃာနဒွါရဝီထိဖြစ်သည်အမြဲမှတ်။ ဇိဝှါဒွါရဝီထိမှာ ခံတွင်းအာစောက်၊ လျှာတစ်လျှောက်တို့၌၊ လျှာရည်၊ တံတွေးရည် တည်လျက်ရှိနေသည်ဖြစ်၍ ဝမ်းတွင်းကပင် ဇိဝှါဒွါရဝီထိဖြစ်၏ဟု

မှတ်။ ကာယဒွါရဝီထိမှာ ဝမ်းတွင်း,ဝမ်းပဒ္မပင် အမှန်စင်စစ်ဖြစ်သည် ၏အဖြစ်ကြောင့် ဆိုဖွယ်ရာမရှိပြီ။ ထို့ကြောင့် စက္ခုဒွါရဝီထိ၊ ဃာန ဒွါရဝီထိဤနှစ်ပါးမဖြစ်ကြောင်း၊ ကြွင်းသုံးပါးကား အမိဝမ်းတွင်း၌ ဖြစ်ကောင်း၏ဟု အသေအချာမှတ်။" [၁] ဟူ၍ဖြစ်ပါသည်။

ဤသို့ အဘိဓမ္မာကျမ်းတတ်ပုဂ္ဂိုလ်မြတ်တို့ အဘိဓမ္မာလာ ဝီထိဆိုင်ရာပုစ္ဆာကို အဘိဓမ္မာဆိုင်ရာဝီထိစဉ်၏ဖြစ်ကြောင်းအင်္ဂါများ ကို ကြည့်၍အဖြေမှန်ကို ရှာဖွေဖော်ထုတ်ဖြေဆိုခဲ့ကြောင်း တွေ့ရ၏။ ထို့ကြောင့် "အမိဝမ်းတွင်းသူငယ်သည် ပဥ္စဒွါရဝီထိကျ၏"ဟူ၍သာ ဖြေဆိုသင့်ပါသည်။

ဤသို့ သဘာဝယုတ္တိ အာဂမယုတ္တိများအပြင် လောကယုတ္တိ သာဓကကိုပါ ထုတ်ပြရလျှင် - လောက၌မြွေပွေးနပင်းပိတ်ခေါ် အဆိပ်ပြင်းသော မြွေမျိုးရှိ၏။ ၎င်းမြွေသည် အခြားမြွေများကဲ့သို့ မြွေဥမှတစ်ဆင့် ပေါက်ဖွားရိုးမဟုတ်ဘဲ ဖွားချိန်တန်က အမိဝမ်းဗိုက် နံရံကို ကိုက်ဖောက်ကာ အကောင်လိုက်မွေးဖွားလာမြဲဖြစ်ပါသည်။ ဤအကြောင်းကို ရှေးစာဆိုတော်တို့က -

"ဖွားအောင်မခံ၊ အမိနံကို၊ ထရံနှယ်ဖက်၊
ရက်စက်စိမ်းကား၊ မြွေပွေးသားသို့။" [၂]

ဟူ၍ စပ်ဆိုခဲ့၏။ ဤသို့ အမိဝမ်းဗိုက်ကို ဖောက်၍ မွေးဖွားလာခြင်း မှာ လှုပ်ရှားမှုစသော ပဥ္စဒွါရဝီထိများကြောင့်ပင် ဖြစ်ပါသည်။ ဘဝင် စိတ်သက်သက်ဖြင့်ဆိုလျှင် ထိုသို့ခက်ခက်ခဲခဲ မွေးဖွားရန်မဆိုထားနှင့်

၁။ အဘိဓမ္မတ္ထဒီပကကျမ်း ၊ ပ၊ ၂၀၈။
၂။ဘေးရန်လေးခုအလေးပြု(မာဂဓီ)သာသနာ့ရောင်ခြည်၊အတွဲ-၁၁၊အမှတ်-၂။

လှုပ်ရှားမှုပင်ရှိမည်မဟုတ်ပေ။ ပဥ္စဒွါရစသောဝီထိများရှိခြင်းကြောင့်သာ ဤသို့လှုပ်ရှားခြင်း၊ ခက်ခက်ခဲခဲကိုက်ဖောက်ခြင်းစသော ကိစ္စတို့ကို ပြုနိုင်ခြင်းဖြစ်ပါသည်။ ဤဖော်ပြပြီးသော သာဓကေယုတ္တိ၊ အာဂမယုတ္တိများကို ထောက်ဆ၍ "အမိဝမ်းတွင်း၌ ကိန်းအောင်းနေသော သတ္တဝါတို့သည်ပဥ္စဒွါရဝီထိများကျနိုင်၏"ဟူ၍ဖြေဆိုခဲ့ခြင်းဖြစ်ပါသည်။

ဤဆိုခဲ့ပြီးသော စကားအစဉ်ဖြင့် ဝမ်းတွင်းအောင်းသူငယ်၌ ပဥ္စဒွါရဝီထိဖြစ်ကြောင်း သိရပေပြီ။ သို့ဖြစ်လျှင် ၎င်းသူငယ်၌ ဝီထိအရေအတွက်ပေါင်း မည်မျှဖြစ်နိုင်သနည်း-ဟူသော မေးခွန်းကို ဆက်လက်ဖြေဆိုရပေဦးမည်။

**အမိဝမ်းတွင်းသူငယ်၌ ဖြစ်နိုင်သောဝီထိများ**

ကျီးသဲလေးထပ်ဆရာတော်သည် "မိဝမ်းထဲလွယ်၊ သားသူငယ်၊ ကျဖွယ်ဝီထိဘယ်မျှနည်း"ဟူသော သတ်ပုံသံပေါက်ပုစ္ဆာကို မှုရင်းကျမ်း၌ ဖြေဆိုထားသည်မှာ - "အမိဝမ်းထဲကိန်းရသော သတ္တဝါအား ထွက်သက်ဝင်သက် လေမရှိ၍ သောတဝိညာဏ်စိတ် ဃာနဝိညာဏ်စိတ်နှင့် ဇိဝှါဝိညာဏ်စိတ်တို့ မဖြစ်နိုင်"ဟု ဖြေဆိုထား၏။

ယင်းအဖြေကို စိစစ်ရသော် ထွက်သက်,ဝင်သက်လေသည် ဃာနဝိညာဏ်စိတ်၏သာ ဖြစ်ကြောင်းဖြစ်၏။ သောတဝိညာဏ်စိတ်နှင့် ဇိဝှါဝိညာဏ်စိတ်တို့၏ဖြစ်ကြောင်း မဟုတ်။ ဃာနဝိညာဏ်စိတ်ဖြစ်ကြောင်းအင်္ဂါတို့တွင်သာ ထွက်လေ,ဝင်လေပါဝင်နေ၏။ ထိုသို့ပါဝင်နေ၍ ထွက်လေ , ဝင်လေမရှိလျှင် ဃာနဝိညာဏ်စိတ်ခေါ် ဃာနဒွါရဝီထိစိတ် မဖြစ်နိုင်ဟု ဆိုခြင်းသည် သင့်သောဆိုခြင်း၊ သဘာဝကျသော စိစစ်ခြင်းဖြစ်ပါသည်။ သို့သော် သောတဝိညာဏ်

စိတ်နှင့် ဇိဝှါဝိညာဏ်တို့၏ဖြစ်ကြောင်းအင်္ဂါတို့တွင် ထွက်လေ,ဝင်လေမပါဝင်ပဲလျက် ထွက်လေ,ဝင်လေမရှိသောကြောင့် အမိဝမ်းတွင်းသူငယ်သည် သောတဝိညာဏ်စိတ်ဟူသော သောတဒွါရ ဝီထိ ၊ ဇိဝှါဝိညာဏ်စိတ်ဟူသော ဇိဝှါဒွါရဝီထိစိတ်များ မကျနိုင်၊ မဖြစ်နိုင်ဟု စီစစ်ခြင်း ဖြေဆိုခြင်းမှာ မသင့်သော စီစစ်ခြင်း ၊ မသင့် သောဖြေဆိုခြင်းပင် ဖြစ်ပါသည်။ ထို့ကြောင့် ထွက်လေ,ဝင်လေ မရှိကာမျှဖြင့် သောတဝိညာဏ်စိတ် ၊ ဇိဝှါဝိညာဏ်စိတ်တို့ မဖြစ်နိုင်ဟု မဆိုသင့်ပေ။

ပဉ္စဒွါရဝီထိစိတ်တစ်ခု ဖြစ်သည် မဖြစ်သည်ကို သိရှိရန်အတွက် ထွက်လေ,ဝင်လေ တစ်ခုတည်းကိုသာ ကြည့်ပြီး ဆုံးဖြတ်၍မရနိုင်ပေ။ ၎င်းစိတ်တို့ဖြစ်ကြောင်း သက်ဆိုင်ရာအင်္ဂါရပ်များကို ပဓာနထားကြည့်ရှုပြီး ဆုံးဖြတ်ရပေမည်။ အင်္ဂါရပ်များညီညွတ်နေလျှင် သက်ဆိုင်ရာစိတ်များ ကျိန်းသေဖြစ်ပေလိမ့်မည်။ မည်သည့်တန်ခိုးရှင်မှ တားဆီး၍ရမည်မဟုတ်ပေ။ အင်္ဂါရပ်များ မညီညွတ်ဘဲ ချွတ်ယွင်းမှုတစ်ခုခုရှိနေလျှင်လည်း သက်ဆိုင်ရာစိတ်များ မည်သို့မျှ ဖြစ်ပေါ်လာမည်မဟုတ်ပေ။ ဤသို့ စိတ်ဖြစ်ကြောင်းအင်္ဂါရပ်များကို ပဓာနထားကြည့်ရှုပြီး ဆုံးဖြတ်မှသာ ပုစ္ဆကအာဘော်လည်းကျ၊ သဘာဝယုတ္တိလည်းရှိသည့် အဖြေကို ရရှိပေမည်။

ပဉ္စဒွါရဝီထိစိတ်ဖြစ်ကြောင်း အင်္ဂါရပ်များကို အထက်၌ အကျယ်တဝင့် စီစစ်ခဲ့ပေပြီ။ ယင်းစီစစ်ချက်အရ အမိဝမ်းတွင်းအောင်းသူငယ်သည် ပဉ္စဒွါရဝီထိတို့တွင် စက္ခုဒွါရဝီထိနှင့်ဃာနဒွါရဝီထိ ၂-ခု မရနိုင်။ ကျန် သောတဒွါရဝီထိ၊ ဇိဝှါဒွါရဝီထိနှင့် ကာယဒွါရဝီထိများကို ရရှိနိုင်ကြောင်း တွေ့ရှိရပါသည်။

ထို့ပြင် အမိဝမ်းတွင်းအောင်းသူငယ်သည် အမိဝမ်းတွင်း၌ ပဋိသန္ဓေစိတ်ဖြစ်ပြီးသည်၏အခြားမဲ့၌ပင် ဘဝင် ၁၅-ကြိမ် (သို့မဟုတ်) ဘဝင် ၁၆-ကြိမ်၊ မနောဒွါရာဝဇ္ဇန်း၊ ဘဝနိကန္တိကလောဘဇော ၇-ကြိမ်၊ ထို့နောက် ဘဝင်ဖြစ်ထိုက်သမျှ ဖြစ်၏။ [၁] ဤသို့ ဘဝနိကန္တိကလောဘဇောဖြစ်ရသည်မှာ ဓမ္မတာပင်ဖြစ်၏။ ၎င်းဘဝနိကန္တိကလောဘဇော(ပဋိသန္ဓေဝီထိ)သည် မနောဒွါရဝီထိစိတ် ဧကန်ဖြစ်၏။ ထို့ကြောင့် အမိဝမ်းတွင်းအောင်း သူငယ်သည် မနောဒွါရဝီထိစိတ်များလည်း ဖြစ်နိုင်ကြောင်း သိရ၏။ သို့သော် အမိဝမ်းတွင်း သူငယ်သည် ဈာန် ,မဂ် , ဖိုလ် , အဘိညာဏ်ရသူမဟုတ်၍ အပ္ပနာဇောဝါရ မနောဒွါရဝီထိကား မဖြစ်နိုင်ပါ။ ကာမဇောဝါရ မနောဒွါရဝီထိသာ ဖြစ်နိုင်ပါသည်။

၎င်းအပြင် အမိဝမ်းတွင်းသူငယ်သည် -

(၁) လေကြောင့်သော်လည်းကောင်း၊

(၂) ပိုးတို့ကြောင့်သော်လည်းကောင်း၊

(၃) ဥပစ္ဆေဒကကံကြောင့်သော်လည်းကောင်း သေဆုံးပြီး ကိုယ်ဝန်ပျက်စီးနိုင်၏။ [၂] ဤသို့ အမိဝမ်းတွင်းသေဆုံးရာ၌လည်း မရဏာသန္နဝီထိကျပြီးမှ သေဆုံးရမည်မှာ ဓမ္မတာဖြစ်၏။ ယင်းမရဏာသန္နဝီထိသည် စက္ခုဒွါရမရဏာသန္နဝီထိ၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယနှင့် မနောဒွါရမရဏာသန္နဝီထိဟူ၍ အချုပ်အားဖြင့် ၆-မျိုးရှိ၏။ ထို(၆)မျိုးတွင်ပဥ္စဒွါရမရဏာသန္နဝီထိဖြင့်လည်းသေဆုံးနိုင်၏။ မနောဒွါရမရဏာသန္နဝီထိဖြင့်လည်း သေဆုံးနိုင်၏။

၁။ ဝီထိနှင့်သုံးချက်စု -၇၈။ ၂။ ပရမတ္ထသံခိပ်ဋီကာ ၊ ဒု ၊ ၁၅၆။

ထို့ကြောင့် အမိဝမ်းတွင်းအောင်းသူငယ်သည် ပဋိသန္ဓေ ဒွါရဝိထိကျနိုင်သကဲ့သို့ မနောဒွါရဝီထိလည်းကျနိုင်ကြောင်း ထင်ရှားစွာ သိရပေသည်။

သို့ဖြစ်၍ အမိဝမ်းတွင်းအောင်း သူငယ်သည် -

(၁) သောတဒွါရဝီထိ၊

(၂) ဇိဝှါဒွါရဝီထိ၊

(၃) ကာယဒွါရဝီထိ၊

(၄) ကာမဇောဝါရ မနောဒွါရဝီထိနှင့်

(၅) မရဏာသန္နဝီထိစိတ်များ ဖြစ်နိုင်၊ ကျနိုင်သည်ဟု အချုပ်အားဖြင့် ဖြေဆိုရပေမည်။

၎င်းကိုခွဲ၍ ရေတွက်ရသော် သောတဒွါရဝီထိသည် -

(၁) အတိမဟန္တာရုံ ၁-ဝီထိ၊

(၂) မဟန္တာရုံ ၂-ဝီထိ၊

(၃) ပရိတ္တာရုံ ၆-ဝီထိ၊

(၄) အတိပရိတ္တာရုံ ၆-ဝီထိပေါင်း ၁၅-ဝီထိရှိ၏။ ဇိဝှါဒွါရဝီထိနှင့်ကာယဒွါရဝီထိတို့လည်းထို့ အတူ ၁၅-ဝီထိစီရှိကြ၏။ ထို့ကြောင့် ပဋိသန္ဓေ ဒွါရဝီထိပေါင်း ၄၅-ဝီထိဖြစ် နိုင်ပါသည်။

ကာမဇောဝါရ မနောဒွါရဝီထိသည် ဝိညတ်ဒွေ၊ လက္ခဏာရုပ်လေးခုကြဉ်သော သတ္တရသယုက (စိတ္တက္ခဏကြီး ၁၇-ချက်) ရကောင်းသော ပစ္စုပ္ပန်ရုပ် (၂၂)ပါးကိုအာရုံပြု၍ ဝိဘူတာရုံ(၅)ဝီထိ၊ အဝိဘူတာရုံ(၂)ဝီထိ၊ သတ္တရသယုကမရကောင်းသော ကြွင်း ရုပ်နာမ်ပညတ်တို့ကို အာရုံပြု၍ ဝိဘူတာရုံ(၁)ဝီထိ၊ အဝိဘူတာရုံ(၁) ဝီထိအားဖြင့် (၉)ဝီထိရှိ၏။[၁]

---

၁။ ပရမတ္ထသရူပဘေဒနီကျမ်း ၊ ပတွဲ ၊ ၅၈။

အမိဝမ်းတွင်း သေဆုံးရသူ၏ မရဏာသန္နဝီထိသည်လည်း သောတဒွါရဝီထိ၊ ဇိဝှါ၊ ကာယ၊ မနောဒွါရဝီထိအားဖြင့် လေးပါး အပြားရှိ၏။ ထိုတွင် သောတဒွါရမရဏာသန္နဝီထိသည် ဇောနောင် စုတိ(၁)ဝီထိ၊ ဇောဘဝင်နောင်စုတိ (၁)ဝီထိ၊ တဒါရုံနောင်စုတိ(၁) ဝီထိ ၊ တဒါရုံဘဝင်နောင် စုတိ(၁)ဝီထိအားဖြင့် (၄)ဝီထိရှိ၏။ ဇိဝှါ၊ ကာယ၊ မနောဒွါရမရဏာသန္နဝီထိတို့လည်း သောတဒွါရဝီထိနည်း တူ (၄)ဝီထိစီရှိ၍ ပေါင်း(၁၆)ဝီထိရှိပါသည်။[1] အားလုံးပေါင်းဝီထိ (၇၀)ဖြစ်၏။ သို့ဖြစ်၍ "အမိဝမ်းထဲရှိ သားသူငယ်သည် -

(၁) ပဉ္စဒွါရဝီထိ - ၄၅ ဝီထိ၊
(၂) မနောဒွါရဝီထိ - ၉ ဝီထိ၊
(၃) မရဏာသန္နဝီထိ - ၁၆ ဝီထိ-အားလုံးပေါင်း

(၇၀)သောဝီထိတို့ ထိုက်သင့်သလို ကျနိုင်၏။"ဟု ဖြေဆိုရ ပေမည်။ သို့မှသာ ကျမ်းဂန်နှင့်ညီ၍ သဘာဝကျသောအဖြေ ဖြစ်ပေမည်။

**နိဂုံး**

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် ကျီးသဲလေးထပ် ဆရာ တော်၏အဖြေနှင့် ဤအဖြေမတူညီသည်ကို တွေ့ရပေမည်။ ကျီးသဲ လေးထပ်ဆရာတော်သည် "အမိဝမ်းတွင်းသူငယ်သည် သောတဒွါရဝီထိ နှင့်ဇိဝှါဒွါရဝီထိတို့ မဖြစ်နိုင်၊ မကျနိုင်"ဟု ဖြေဆို၏။ ဤအဖြေ၌ရင်း ဝီထိတို့ဖြစ်နိုင်,ကျနိုင်သည်ဟုဖြေဆိုထား၏။ ယင်းသို့ အဖြေမတူညီ ခြင်းမှာ ကျီးသဲလေးထပ်ဆရာတော်သည် ဆိုင်ရာဝီထိစိတ်တို့၏ ဖြစ်ကြောင်းအင်္ဂါရပ်တို့ဖြင့် မစီစစ်ဘဲ ထွက်လေ,ဝင်လေမရှိ ခြင်းဟူ

---
၁။ ပရမတ္ထသရူပဘေဒနီကျမ်း၊ ပတွဲ၊ ၆၁။

သော တစ်ခုတည်းသောအကြောင်းဖြင့်သာ စီစစ်ပြီး မိန့်ဆို ထားခြင်း ကြောင့် ဖြစ်ပါသည်။ အမှန်စင်စစ် ဝီထိစိတ်ဖြစ်, မဖြစ်ကို စီစစ် လိုလျှင် ဆိုင်ရာဝီထိစိတ်တို့၏ ဖြစ်ကြောင်းအင်္ဂါရပ်များဖြင့် စီစစ် ဝေဖန်ပြီး ဖော်ထုတ်ဖြေဆိုသင့်၏။ သို့မှသာ ကျမ်းဂန်နှင့်လည်းညီ ညွတ်၊ သဘာဝလည်းကျ၊ ပုစ္ဆကအာဘော်လည်းကျသော အဖြေကို ရရှိမည်ဖြစ်ပါသည်။

သို့ဖြစ်၍ "အမိဝမ်းထဲရှိသားသူငယ်သည် သောတဒွါရ (၁၅)ဝီထိ၊ ဃာနဒွါရ (၁၅)ဝီထိ၊ ကာယဒွါရ (၁၅)ဝီထိ၊ ကာမဇော ဝါရမနောဒွါရ(၉)ဝီထိ၊ သောတဒွါရမရဏာသန္န(၄)ဝီထိ၊ ဃာနဒွါရ မရဏာသန္န(၄)ဝီထိ၊ ကာယဒွါရမရဏာသန္န(၄)ဝီထိနှင့် မနော ဒွါရမရဏာသန္န(၄)ဝီထိပေါင်း ဝီထိ (၇၀)တို့ ထိုက်သင့်သလိုကျနိုင် သည်" ဟူသော အဖြေသည် ဆိုင်ရာဝီထိစိတ်တို့၏ ဖြစ်ကြောင်းအင်္ဂါ များကိုကြည့်၍ စီစစ်ဖော်ထုတ်ဖြေဆိုထားသော အဖြေဖြစ်၍ ကျမ်း ဂန်နှင့်လည်းညီ၊ သဘာဝလည်းကျ၊ ပုစ္ဆကအာဘော်လည်းကျသော အဖြေဖြစ်ကြောင်း၊ ထို့ပြင် ပြဿနာကိုဖြေရှင်းရာ၌ဖြစ်စေ၊ အခြား အရာ၌ဖြစ်စေ၊ မဆိုင်ရာအကြောင်းတို့ဖြင့် ဖြေရှင်းလျှင် (ဝါ)ပြုလုပ် လျှင် အကျိုးမဲ့ဖြစ်တတ်သည် ဟူသော ဥပဒေသကိုလည်း သိရှိမှတ် သားနိုင်ကြောင်း ဖော်ပြအပ်ပါသည်။ ။



# အခန်း (၂)

## ခြောက်ဆယ့်လေးသွယ်၊ ခြေရိုးဝယ်၊ ဘယ်သည့်ဘယ်သည့်အရိုးနည်း။ (၇၈)

### စွယ်စုံကျော်ထင်ကျမ်းလာ မူရင်းအဖြေ

"ခြောက်ဆယ့်လေးသွယ်၊ ခြေရိုးဝယ်၊ ဘယ်သည့် ဘယ်သည့် အရိုးနည်း" ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

"အင်္ဂုတိ ဌပေတွာ ဒွတ္တိံသ ဒန္တဋ္ဌိနိ အဝသေသာနိ စတုသဋ္ဌိ ဟတ္ထဋ္ဌိနိ၊ စတုသဋ္ဌိ ပါဒဋ္ဌိနိ၊ စတုသဋ္ဌိ မံသနိဿိတာနိ မုဒုအဋ္ဌိနိ၊ ဒွေ ပဏှိကဋ္ဌိနိ၊ ဧကေကသ္မိံ ပါဒေ ဒွေ ဒွေ ဂေါပ္ဖကဋ္ဌိနိ၊ ဒွေ ဒွေ ဇင်္ဃဋ္ဌိနိ၊ ဒွေ ဇဏ္ဏုကဋ္ဌိနိ၊ ဒွေ ဦရုဋ္ဌိနိ၊ ဒွေ ကဋိဋ္ဌိ၊ အဋ္ဌာရသ ပိဋ္ဌိကဏ္ဍကဋ္ဌိနိ၊ စတုဝီသတိ ဖာသုကဋ္ဌိနိ၊ စုဒ္ဒသ ဥရဋ္ဌိနိ၊ ဧကံ ဟဒယဋ္ဌိ၊ ဒွေ အက္ခကဋ္ဌိနိ၊ ဒွေ ကောဋ္ဌဋ္ဌိနိ၊ ဒွေ ဗာဟုဋ္ဌိနိ၊ ဒွေ ဒွေ အဂ္ဂဗာဟုဋ္ဌိနိ၊ သတ္တ ဂီဝဋ္ဌိနိ၊ ဒွေ ဟနုကဋ္ဌိနိ၊ ဧကံ နာသိကဋ္ဌိ၊ ဒွေအက္ခိဋ္ဌိနိ၊ ဒွေ ကဏ္ဏဋ္ဌိနိ၊ ဧကံ နလာဋဋ္ဌိ၊ ဧကံ မုဒ္ဓဋ္ဌိ၊ နဝ သီသက ပါလဋ္ဌိနိတိ ဧဝံမတ္တာနိ အဋ္ဌိသတာနိ တာနိ သဗ္ဗာနိပိ ဝဏ္ဏတော သေတာနိ၊ သဏ္ဌာနတော နာနာ သဏ္ဌာနာနိ။"

ဟူ၍အရိုး ၃၀၀-ကို ရေတွက်ပြရာ သမ္မောဟဝိနောဒနီအဋ္ဌကထာ သတိပဋ္ဌာနဝိဘင်း အဖွင့်၌ လာသည်။

အဓိပ္ပါယ်ကား ။ ။ ၃၂-ချောင်းသော သွားအရိုးကို ထား၍ ထိုမှကြွင်းသော ၆၄-ချောင်းသော လက်ရိုး၊ ၆၄-ချောင်းသော ခြေရိုး၊ ၆၄-ချောင်းသော အသားကိုမှီသော နုငယ်သော အရိုး၊ ၂-ခုသော ဖနောင့်ရိုး၊ တစ်ဘက်တစ်ဘက်သော ခြေ၌ ၂-ခု ၂-ခု စီသော ဖမျက်ရိုး၊ ၂-ခု ၂-ခုစီသော မြင်းခေါင်းရိုး၊ ၂-ခု, ၂-ခုသော ပုဆစ်ရိုး၊ ၂-ခုသော ပေါင်ရိုး၊ ၂-ခုသော ခါးရိုး၊ ၁၈-ခုသော ကျောက်ကုန်းရိုး၊ ၂၄-ခုသော နံရိုး၊ ၁၄-ခုသော ရင်ဖုံးရိုး၊ ၁-ခု သော ဟဒယဝတ္ထုရိုး၊ ၂-ခုသော ညှပ်ရိုး၊ ၂-ခုသော လက်ပြင်ရိုး၊ ၂-ခုသော မောင်းရင်းရိုး ၂-ခု ၂-ခုစီသော မောင်းဖျားလက်ဖျံရိုး၊ ၇-ခုသော လည်ကုပ်ရိုး၊ ၂-ခုသော မေးရိုး၊ ၁-ခုသော နှာခေါင်းရိုး၊ ၂-ခုသော မျက်ကွင်းရိုး၊ ၂-ခုသော နားရိုး၊ ၁-ခုသော နဖူးရိုး၊ ၁-ခုသော ထိပ်ရိုး၊ ၉-ခုသော ခေါင်းခွံရိုး ဤသို့အဆင်းအားဖြင့်ဖြူကုန်သော သဏ္ဌာန်အားဖြင့် အထူးထူးသော သဏ္ဌာန်ရှိကုန်သော အရိုးတို့သည် ၃၀၀-မျှလောက် ရှိကုန်၏ဟူ၍ လာသည်။

ဤစကားအစဉ်၌ ခြေရိုး ၆၄-ချောင်းဟူ၍ အပေါင်းသချ်ာကိုသာပြသည်။ ခွဲခြမ်းစိတ်ဖြာ၍ မည်သည့် မည်သည့်အရိုးဟုမပြချေ။ မူလကမ္မဋ္ဌာန်း၌လည်း "ကတိ အဋ္ဌီနိ၊ နဝသီသဋ္ဌိကာနိ ။ ပ ။ သဏ္ဌာနတော နာနာသဏ္ဌာနာနိ ဟောန္တိ"ဟူ၍ အပေါင်းသချ်ာကိုသာ ပြသည်။ အစိတ်ထုတ်၍မပြ။ ထို့ကြောင့် ခြေဖဝါးရိုး ၆၄-ချောင်းဟု အပေါင်းကိုသာ မှတ်သင့်တော့သည်။

## ပြဿနာဖြစ်ရသည့်အချက်

အထက်ပါ အဖြေကား စွယ်စုံကျော်ထင်ကျမ်း၌ လာသော မူရင်းအဖြေဖြစ်၏။ ယင်းအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်မှာ - "ခြောက်ဆယ့်လေးသွယ်၊ ခြေရိုးဝယ်၊ ဘယ်သည့်ဘယ်သည့် အရိုးနည်း"ဟူသော သတ်ပုံသံပေါက်ကဗျာပုစ္ဆာ၌ ပုစ္ဆက၏မေးလိုရင်းအဓိပ္ပါယ်မှာ-"ခြေရိုး ၆၄-ချောင်းဟူသည် မည်သည့်အရိုးများဖြစ်သနည်း"ဟုခြေရိုး ၆၄-ချောင်း၏ အသေးစိတ်သရုပ်ကို မေးလိုရင်းဖြစ်ပါသည်။

ဤသို့မေးသည်ကို အဖြေဆရာတော်က ခြေရိုး၆၄-ချောင်း၏ အသေးစိတ်သရုပ်ကို ထုတ်မပြနိုင်ဘဲ ခြေရိုး၆၄-ချောင်းအပေါင်းသရုပ်ကိုသာ မှတ်သားသင့်ကြောင်း ဖြေဆိုထားပါသည်။

ဤအဖြေ၌ပြဿနာဖြစ်ရသည့်အချက်မှာ-အဓိကကျသည့် ခြေရိုး ၆၄-ချောင်း၏ အသေးစိတ်သရုပ်မပါရှိခြင်းပင် ဖြစ်ပါသည်။ ယင်းအချက်မပါလျှင် ပုစ္ဆကအာဘော်နှင့်လည်း မကိုက်ညီ၊ ပြည့်စုံမှုလည်း မရှိနိုင်သည်မှာ ထင်ရှားပါသည်။ ထို့ပြင် ပိဋကတ်တော်များ၌ ခြေရိုး ၆၄-ချောင်း၏ အသေးစိတ်သရုပ်ကို ရေတွက်၍ ရနိုင်သည်၊ ရေတွက်၍မရနိုင် စသည်ဖြင့် အငြင်းပွားဖွယ်ရာ ပြဿနာများလည်း ဖြစ်လာနိုင်ပါသည်။

## ပြဿနာရှင်းလင်းချက်

ပုစ္ဆကအာဘော်ကျ ခြေရိုး ၆၄-ချောင်း၏ အသေးစိတ်သရုပ်ကို ထုတ်ပြနိုင်လျှင် ပြဿနာပြေလည်သွားပေမည်။ သို့အတွက်ကြောင့် ခြေရိုး ၆၄-ချောင်း၏ သရုပ်ကို မူရင်းအဋ္ဌကထာ ဋီကာ

များမှ ထုတ်ပြရန် လိုအပ်နေပေသည်။ ခြေရိုး ၆၄-ချောင်း၏ သရုပ်ကိုမူရင်းအဋ္ဌကထာ ဋီကာများတွင် တစ်နေရာတည်း၌ အသေးစိတ် ပြည့် ပြည့်စုံစုံ ဖော်ပြမထားသော်လည်း အဋ္ဌကထာဋီကာများနှင့် ရှေးစာဆိုဆရာတို့၏ ကျမ်းဂန်များကို ပေါင်းစပ်ဖော်ထုတ်လျှင်ကား လိုအပ်သောအဖြေမှန်ကို ရရှိနိုင်ပေမည်။

အဋ္ဌကထာများတွင် အရိုး၏ပုံသဏ္ဌာန်ကို ဖော်ပြရာ၌ - "အဂ္ဂပါဒင်္ဂုလိဋ္ဌီနိ ကတကဗီဇသဏ္ဌာနာနိ - ခြေချောင်းအဆစ်အဖျား အရိုးတို့သည် ခပေါင်းစေ့သဏ္ဌာန် ရှိကုန်၏။ မဇ္ဈပဗ္ဗဋ္ဌီနိ ပနသဋ္ဌိသဏ္ဌာနာနိ - ခြေချောင်းအလယ်ဆစ်အရိုးတို့သည် ပိန္နဲစေ့သဏ္ဌာန် ရှိကုန်၏။ မူလပဗ္ဗဋ္ဌီနိ ပဏဝသဏ္ဌာနာနိ - ခြေချောင်းအရင်းဆစ်အရိုးတို့သည် ထက်စည်သဏ္ဌာန် ရှိကုန်၏။ ပိဋ္ဌိပါဒဋ္ဌီနိ ကောဋ္ဌိတကဏ္ဍလကဏ္ဍရရာသိသဏ္ဌာနာနိ - ခြေဖမိုးအရိုးတို့သည် နုပ်နုပ်စဉ်းအပ်သော ကြာစွယ်ကြာရင်းတို့၏ အစုသဏ္ဌာန် ရှိကုန်၏။"[၁] ဟူသော စကားတို့ကို ထောက်၍ ခြေရိုးတို့ကို ရေတွက်လျှင် (၁) ခြေချောင်းဖျားဆစ်အရိုး၊ (၂) ခြေချောင်းအလယ်ဆစ်အရိုး၊ (၃) ခြေချောင်းအရင်းဆစ်အရိုးနှင့် (၄) ခြေဖမိုးရိုးတို့ကိုပါ ထည့်သွင်းရေတွက် ရမည် ဟု သိရပါသည်။

"ဇင်္ဃဋ္ဌိမတ္တာနိ ဇင်္ဃ မတ္တသဒ္ဒေဟိ ဂေါပ္ဖကဋ္ဌိကာဒိနိ အဝုတ္တာနိပိ ဒဿေတီတိ ဝေဒိတဗ္ဗံ - ဇင်္ဃသဒ္ဒါ မတ္တသဒ္ဒါတို့ဖြင့် ဖမျက်ရိုး၊ ခြေမျက်စိရိုး ၊ ခြေကျင်းဝတ်ရိုးအစရှိကုန်သော တိုက်ရိုက်မဆိုအပ်သော အရိုးတို့ကိုလည်း ပြ၏"[၂] ဟူသော မူလဋီကာ စကားကို ထောက်ဆ

---

၁။ ဘိ ၊ ဋ္ဌ ၊ ၂ ၊ ၂၂၆။ ၂။ ဘိ ၊ ဋီ ၊ ၂ ၊ ၁၅၂။

၍လည်းကောင်း၊ "မဏိဗန္ဓင်္ဂုနိ ဧကတော အလ္လီယာပေတွာ ဌပိတ သီသက ပဋ္ဋဝေဌကသဏ္ဌာနာနိ - လက်ကောက်ဝတ်အရိုးတို့သည် တစ်ဘက်၌ ငြိကပ်စေ၍ ရစ်ပတ်၍ထားအပ်သော သလွဲမည်းအပြား သဏ္ဌာန်ရှိကုန်၏"[၁] ဟူသော အဋ္ဌကထာစကားအရ လက်ကောက်ဝတ်ရိုးရှိလျှင် ခြေကျဉ်းဝတ်ရိုးလည်း ရှိသင့်သောကြောင့်လည်းကောင်း ခြေရိုးတို့ကိုရေတွက်ရာ၌ တိုက်ရိုက်မဆိုအပ်သော ခြေကျင်းဝတ်အရိုးတို့ကိုပါ ထည့်သွင်းရေတွက်ရမည်ဟု သိရပါသည်။

"အဋ္ဌိတိ ဌပေတွာ ဒွတ္တိံသဒန္တဋ္ဌိနိ အဝသေသာနိ-ဒန္တာအရဋ္ဌိ ပါဝင်ပြီးဖြစ်သော သွားအရိုးတို့ကို ကြဉ်ထား၍ ကြွင်းသောအရိုးတို့ကို အဋ္ဌိအရယူရမည်"[၂] ဟု အဋ္ဌကထာဆိုသောကြောင့် ခြေရိုးတို့ကို ရေတွက်ရာတွင် ခြေသည်းရိုးတို့ကိုပါ ထည့်သွင်းရေတွက်ရမည် ဖြစ်ကြောင်းလည်း သိရပါသည်။ ယောအတွင်းဝန်၏ ကာယာနုပဿနာ ကျမ်း၌လည်း ဤသဘောအတိုင်းပင် ထုတ်နှုတ်ယူဆ၍ ရေတွက်ဖော်ပြထားပါသည်။[၃]

## ခြေရိုး ၆၄-ချောင်း

အထက်ပါ အကြောင်းအရာအချက်အလက် ကျမ်းဂန်များကို ထောက်ဆ၍ ခြေရိုး၆၄-ချောင်း၏ အသေးစိတ်သရုပ်အဖြေမှန်ကို ဖော်ထုတ်ဖြေဆိုရလျှင် -

(၁) ခြေချောင်းဖျားဆစ်ရိုး ၅-ခု၊
(၂) ခြေချောင်းအလယ်ဆစ်ရိုး ၄-ခု၊

---

၁။ ဘိ၊ ၄၊ ၂၊ ၂၂၇။ ၂။ ဘိ၊ ၄၊ ၂၊ ၂၂၆။ ၃။ ကာယာနုပဿနာ၊ ၁၇၇။

(ခြေမတွင်အလယ်ဆစ်မရှိ၍ ၄-ခုသာရ၏။)

(၃) ခြေချောင်းအရင်းဆစ်ရိုး ၅-ခု၊
(၄) ခြေဖမိုးရိုး ၅-ခု၊
(၅) ခြေသည်းရိုး ၅-ခု၊
(၆) ခြေကျဉ်းဝတ်ရိုး ၇-ခု၊
(၇) ဖနောင့်ရိုး ၁-ခု၊

စုစုပေါင်း ခြေတစ်ဘက်၌ အရိုး ၃၂-ချောင်းရှိ၍ ခြေနှစ်ဘက်တွင် အရိုး၆၄-ချောင်း ရှိပါသည်။ ဤကားမူရင်း* အဋ္ဌကထာ ဋီကာကျမ်းများအရ ရေတွက်ခြင်းဖြစ်သည်။

### အခြားကျမ်းများအလို

အခြားကျမ်းများ၌လည်း ခြေရိုး၏ အသေးစိတ်သရုပ်ကို အမျိုးမျိုးရေတွက်ထားကြသည်ကို တွေ့ရပါသည်။ ထိုတွင် အဋ္ဌကကမ္မဋ္ဌာန်းကျမ်း၌ ရေတွက်ပုံကို ရှေးဦးစွာ ဖော်ပြရလျှင် -

၁။ ခြေဖမိုး၏ အတွင်း၌ ဝင်၍တည်သော အရင်းအဆစ် အရိုးနှင့်တကွ ခြေသန်းအရိုး ၅၊

၂။ ခြေမရိုး ၆၊

၃။ အလယ်ခြေချောင်းသုံးခုရိုး ၇-ခုစီအားဖြင့် လက်ဝဲခြေရိုး ၃၂၊ လကျာခြေရိုး ၃၂၊ ပေါင်း ခြေရိုး ၆၄-ခုတို့သည်လည်း ရှိကုန်ဖြစ်ကုန်၏။ [၁]

---

* မူရင်းကျမ်းဟူသည် သင်္ဂါယနာတင်၍ အသိအမှတ်ပြုထားသော ပါဠိတော်၊ အဋ္ဌကထာ၊ဋီကာများကို ဆိုလိုသည်။ ၁။ အဋ္ဌကကမ္မဋ္ဌာန်းကျမ်း၊ ၈။

ဟူ၍ ရေတွက်ဖော်ပြထားပါသည်။ လောကဟိတဂမ္ဘီရကျမ်း၌ ရေတွက်ပုံမှာလည်း ဤနည်းတူပင် ဖြစ်ပါသည်။[၁]

အနာမိတကျမ်း၌ ရေတွက်ပုံမှာ -

၁။ ခြေချောင်းဖျားဆစ်ရိုး ၅၊

၂။ ဝှင်းအလယ်ဆစ်ရိုး ၄၊

၃။ ဝှင်းအရင်းအဆစ်ရိုး ၅၊

၄။ ဘမိုးရိုး ၅၊

၅။ ဘနောင့်ရိုး တစ်၊

၆။ မြင်းခေါင်းရိုး ဘမိုးရိုး ဘနောင့်ရိုးတို့အထက်အကြား၌ ခြေကျဉ်းဝတ်ရိုး ၆၊

၇။ ခြေသည်း ၅၊

ခြေတစ်ဘက်သင့် ပေါင်း သုံးဆယ့်တစ်၊ ခြေနှစ်ဘက်သင့် ခြောက်ဆယ့်နှစ်[၂]ဟူ၍ ရေတွက်ဖော်ပြထားပါသည်။

သုဿုတဆေးကျမ်း၌ ရေတွက်ပုံမှာ -

၁။ ခြေချောင်းငယ်ငါးခုတွင် တစ်ခုလျှင် အရိုးသုံးခုစီ တစ်ဆယ့်ငါး၊

၂။ ခြေဘမိုးနှင့်ခြေမျက်စိတို့ကို မှီသောအရိုး တစ်ဆယ်၊

၃။ ဘနောင့်ရိုး တစ်၊

၄။ မြင်းခေါင်းရိုးနှစ်၊

၅။ ဒူးခွက်ရိုး တစ်၊

ခြေတစ်ဘက်သင့် ပေါင်း သုံးဆယ်၊ နှစ်ဘက်သင့် ခြောက်ဆယ်ဟု

---

၁။ လောကဟိတဂမ္ဘီရကျမ်း ၊ ၃၁။ ၂။ ကာယာနုပဿနာကျမ်း ၊ ၁၇၈။

ဆိုကုန်၏။[၁]

မြန်မာ့စွယ်စုံကျမ်း၌ ရေတွက်ပုံမှာ -

၁။ ခြေမျက်ရိုးကလေး ၇-ခု၊

၂။ ခြေမျက်လွှန်ရိုး ၅-ခုရှိသည့်အပြင်

၃။ ကောင်းမွန်လှပစွာလမ်းလျှောက်နိုင်ရန် ခြေချောင်းရိုး ၁၄-ခုရှိပါသည်။[၂]

ဟု ရေတွက်ထားပါသည်။ ယင်းအဆိုအရ ခြေတစ်ဘက်တွင် ခြေရိုး ၂၆-ခုရှိပြီး ခြေနှစ်ဘက်တွင် ခြေရိုး ၅၂-ခု၊ ဝဲယာခြေသည်း၁၀-ခု ပါထည့်လျှင် ခြေရိုး ၆၂-ခုရှိကြောင်း သိနိုင်ပါသည်။

နောက်ဆုံးအနေအားဖြင့် ခြေရိုးပုံစံပါရှိသော ပရယ်တီကယ် အနဲယ်တမီ [၃]ကျမ်းအရ ပုံစံကို ကြည့်၍ ရေတွက်ရလျှင် -

| | |
|---|---|
| ၁။ ခြေချောင်းဖျားဆစ်ရိုး | ၅-ခု၊ |
| ၂။ ခြေချောင်းအလယ်ဆစ်ရိုး | ၃-ခု၊ |
| ၃။ ခြေချောင်းအရင်းဆစ်ရိုး | ၅-ခု၊ |
| ၄။ ဖမိုးရိုး | ၅-ခု၊ |
| ၅။ ဖနောင့်ရိုး | ၁-ခု၊ |
| ၆။ ကျန်(ခြေကျင်းဝတ်)အရိုး | ၆-ခု |

ပေါင်းခြေတစ်ဘက်တွင် ခြေရိုး ၂၅-ခုရှိပြီး ခြေနှစ်ဘက်တွင် ၅၀-ခု ရှိပါသည်။ ထိုတွင်ရသင့်သော (ဝဲ - ယာ)ခြေသည်းရိုး ၁၀-ခုကို ထည့်လျှင် ခြေရိုး ၆၀-ခုရှိသည်ကို လေ့လာတွေ့ရှိနိုင်ပါသည်။

---

၁။ ကာယာနုပဿနာကျမ်း၊၁၇၉။ ၂။ မြန်မာ့စွယ်စုံကျမ်း၊ အတွဲ-၁၄-၂၄၃။

၃။ CUNNING HAM'S MANUL OF PRATICAL ANATOMY 13th EDITION OXFORD UNIVERSITY 1966 . PAGE-241, FICER-170 .

ဤကျမ်းအဆို ခိုင်လုံပါလျှင် ဤဆိုခဲ့ပြီးသော ကျမ်းအမျိုးမျိုးတို့၌ ခြေရိုးသရုပ်ရေတွက်ပုံတို့တွင် ဤပရယ်တီကယ်အနဲယ်တမီကျမ်း၌ ဆိုသော ခြေရိုးသရုပ်သည်သာ ယခုအခါ လူတို့၌ရှိသော ခြေရိုးသရုပ်နှင့် ညီညွတ်သည်ဟု မှတ်ယူသင့်ပါသည်။[၁] ဤကားအခြားကျမ်းများအလို ခြေရိုးသရုပ်အမျိုးမျိုး ရေတွက်ထားပုံတို့ကို ဖော်ပြခြင်းဖြစ်ပါသည်။

**အရိုးသုံးရာ**

ဤနေရာ၌ ခန္ဓာကိုယ် တစ်ကိုယ်လုံးရှိ အရိုးသရုပ်များကိုပါ ဖော်ပြရန် လိုအပ်နေပေသည်။ အဘယ့်ကြောင့်ဆိုသော် အရိုးနှင့် ပတ်သက်သော ကမ္မဋ္ဌာန်းအားထုတ်လိုသူသည် ခြေရိုးသရုပ်သာမက ခန္ဓာကိုယ် တစ်ကိုယ်လုံးရှိ အရိုးသရုပ်ကိုပါ လေ့လာသိရှိထားမှ ပြည့်စုံနိုင်သောကြောင့် ဖြစ်ပါသည်။ ယင်းသို့ သိရှိထားမှသာ အားထုတ်လိုသည့်အခါ လွယ်ကူစွာ ပွားများအားထုတ်နိုင်ပြီး အလိုရှိ အပ်သော အကျိုးများ ပြီးစီးနိုင်ခြင်း၊ အရိုးနှင့်ပတ်သက်သော ဗဟုသုတများကို ကမ္မဋ္ဌာန်းအားထုတ်ခြင်းဖြင့် လက်တွေ့အကျိုးရှိစွာ အသုံးပြုနိုင်ခြင်း၊

---

၁။ ယောအတွင်းဝန်၏ ကာယာနုပဿနာကျမ်း၊ စာနှာ - ၁၈၆တွင်ကား"ဤဆိုခဲ့ပြီးသော ကျမ်းအမျိုးမျိုးတို့၌ ဆိုသောစကားတို့တွင် အနာတမိကျမ်း၌ (ခြေရိုး ၆၂-ချောင်းရှိသည်ဟု)ဆိုသော စကားသည် ယခုအခါ လူတို့၌ရှိသော ကောဋ္ဌာသတို့နှင့် ညီညွတ်သည်ကိုလည်း မှတ်အပ်သည်။"ဟုဆိုထားပါသည်။ ၎င်းအနာတမိကျမ်းနှင့် ဤပရယ်တီကယ်အနဲယ်တမီကျမ်းတို့ ခြေချောင်းအလယ်ဆစ်ရိုး ရေတွက်ပုံချင်း အနည်းငယ်မျှကွဲလွဲနေသည်ကို တွေ့ရပါသည်။ အနာတမိကျမ်း၌ ခြေချောင်းအလယ်ဆစ်ရိုး ၄-ခု၊ ဤပရယ်တီကယ်အနဲယ်တမီကျမ်း၌ ခြေချောင်းအလယ်ဆစ်ရိုး ၃-ခုဖြစ်နေသည်ကို ဆိုလိုပါသည်။

ထို့ပြင် ပရိယတ္တိဟူသော သင်အံလေ့လာမှုပိုင်းမှတစ်ဆင့် ပဋိပတ္တိဟူသော ကျင့်ကြံမှုပိုင်းအထိ ဂဟေဆက်ပြီး ပဋိဝေဓ ဟူသော အမှန်တရားကို ထိုးထွင်းသိမြင်မှုပိုင်းအထိ အဆင့်ဆင့် မြင့်တက်လာခြင်းစသော ကောင်းကျိုးတရားများပေါ်ပေါက်လာမည် ဖြစ်ပေသည်။ ထို့ကြောင့် လူ့ခန္ဓာကိုယ်ရှိ အရိုးသရုပ်များကို မူရင်းအဋ္ဌကထာဋီကာကျမ်းများ၌လာရှိသည့်အတိုင်း "ဂ ဃ န ဏ"သိရှိစေရန် ထုတ်နှုတ်ဖော်ပြရပေလိမ့်မည်။

လူ့ခန္ဓာကိုယ်ရှိ အရိုးသရုပ်များကို ရေတွက်ဖော်ပြရလျှင်-

၁။ ဟတ္ထဋ္ဌိ = လက်ချောင်းရိုး(ဝဲ-ယာ) ၆၄။
၂။ ပါဒဋ္ဌိ= ခြေချောင်းရိုး (ဝဲ-ယာ) ၆၄။
၃။ မုဒုအဋ္ဌိ = အရိုးနု ၆၄။
၄။ ပဏှိကဋ္ဌိ= ဖနောင့်ရိုး (ဝဲ-ယာ) ၂။
၅။ ဂေါပ္ဖကဋ္ဌိ= ခြေဖမျက်ရိုး(ခြေမျက်စိရိုး)ဝဲ-ယာ ၄။
၆။ ဇင်္ဃဋ္ဌိ[၁] = ခြေသလုံးမြင်းခေါင်းရိုး(ဝဲ-ယာ) ၄။
၇။ ဇဏ္ဏုကဋ္ဌိ = ပုဆစ်ရိုး (ဒူးဆစ်ရိုး)(ဝဲ-ယာ) ၂။

---

၁။ အဋ္ဌကထာတို့၌"ဒွေဇင်္ဃဋ္ဌိနိ"ဟုသာရှိလျက် ဤ၌မြင်းခေါင်းရိုး ၄-ခုဟု ရေတွက်ရခြင်းမှာ အဋ္ဌကထာတို့၌ ခြေတစ်ဘက်ကို ရည်၍ဆို၏။ ဤ၌ခြေနှစ်ဘက်ကို ရည်၍ဆိုခြင်းကြောင့် ဖြစ်ပါသည်။ မှန်ပါသည်။"ဧကေကသ္မိံ ပါဒေ" ဟူသောပုဒ်တို့ကို သမ္မောအဋ္ဌကထာအလို "ဒွေဇင်္ဃဋ္ဌိနိ"ဟူသော နောက်ဝါကျသို့လိုက်စေ၍လည်းကောင်း၊ ဝိသုဒ္ဓိမဂ်နှင့် ခုဒ္ဒကပါဌအဋ္ဌကထာတို့အလို "ဒွေဇင်္ဃဋ္ဌိနိ၊ ဧကံ ဇဏ္ဏုကဋ္ဌိ ဧကံ ဦရုဋ္ဌိ"တိုင်အောင်လည်းကောင်း ယောဇနာရပါမည်။ သို့မှသာ အဋ္ဌကထာအချင်းချင်း ဆန့်ကျင်မှုမရှိဘဲ အရိုးအရေအတွက်ချင်း တူညီမည်ဖြစ်ပါသည်။

| | |
|---|---|
| ၈။ ဥရုဋ္ဌိ = ပေါင်ရိုး (ဝဲ-ယာ) | ၂။ |
| ၉။ ကဋိဋ္ဌိ = ခါးရိုး (ဝဲ-ယာ) | ၂။ |
| ၁၀။ ပိဋ္ဌိကဏ္ဍကဋ္ဌိ = ကျောက်ဆစ်ရိုး | ၁၈။ |
| ၁၁။ ဖာသုကဋ္ဌိ = နံရိုး (ဝဲ-ယာ) | ၂၄။ |
| ၁၂။ ဥရဋ္ဌိ = ရင်ရိုး (ဝဲ-ယာ) | ၁၄။ |
| ၁၃။ ဟဒယဋ္ဌိ [1] = ရင်ချိုင့်ရိုး (ရင်ညွန့်ရိုး) | ၁။ |
| ၁၄။ အက္ခကဋ္ဌိ = ညှပ်ရိုး (ဝဲ-ယာ) | ၂။ |
| ၁၅။ ကောဋ္ဌဋ္ဌိ = ကျောက်ကပ်ရိုး (လက်ပြင်ရိုး) (ပခုံးစွန်းအရိုး) (ဝဲ-ယာ) | ၂။ |
| ၁၆။ ဗာဟုဋ္ဌိ = လက်မောင်းရိုး (ဝဲ-ယာ) | ၂။ |
| ၁၇။ အဂ္ဂဗာဟုဋ္ဌိ = လက်မောင်းဖျားရိုး(လက်ဖျံရိုး) (ဝဲ-ယာ) | ၄။ |
| ၁၈။ ဂီဝဋ္ဌိ = လည်ပင်းရိုး | ၇။ |
| ၁၉။ ဟနုကဋ္ဌိ = (အောက်ထက်) မေးရိုး | ၂။ |
| ၂၀။ နာသိကဋ္ဌိ = နှာခေါင်းရိုး | ၁။ |
| ၂၁။ အက္ခိဋ္ဌိ = မျက်ကွင်းရိုး | ၂။ |
| ၂၂။ ကဏ္ဏဋ္ဌိ = နားရိုး (ဝဲ-ယာ) | ၂။ |
| ၂၃။ နလာဋဋ္ဌိ = နဖူးရိုး | ၁။ |
| ၂၄။ မုဒ္ဓဋ္ဌိ = ဦးထိပ်ရိုး | ၁။ |

---

၁။ ဟဒယဋ္ဌိကို ရှေးနိဿယတို့၌ နှလုံးရိုးဟု အနက်ပြန်ကြသည်ကား -နှလုံးနှင့် နှလုံး၏တည်ရာတွင် အရိုးမရှိသောကြောင့် မုချစကားမဟုတ်၊ ဥပစာစကားမျှသာ ဖြစ်၏။ မုချအားဖြင့်ကား နှလုံးနှင့်တည့်တည့်နီးကပ်နေသော ရင်ချိုင့်(ရင်ညွန့်ရိုး)ကို ဆိုသည်ဟုသာ မှတ်အပ်၏။

၂၅။ သီသကပါလဠ္ဌိ = ခေါင်းခွံရိုး ၉။
စုစုပေါင်း အရိုးသုံးရာရှိ၏ဟု ဆိုကုန်၏။ [၁]

**အရိုး - ၂၉၉**

လူ၏ခန္ဓာကိုယ်၌ အရိုးသုံးရာရှိသည်ဟုဆိုသော်လည်း အမှန်စင်စစ်အားဖြင့် ၂၉၉-ခုသာရှိပါသည်။ မှန်ပါသည် ခြေရိုး ၆၄ ချောင်း၏ အသေးစိတ်သရုပ်တွင် ဖနောင့်ရိုး ၂-ချောင်းပါဝင်ပြီးဖြစ်ပါလျက် တစ်ဖန်အရိုးသုံးရာကို ရေတွက်ရာ၌ ဖနောင့်ရိုး၂-ချောင်းကို ထပ်မံပါဝင်ရေတွက်ထားပြန်သည်။ ဤသို့ဖနောင့်ရိုးအရေအတွက် နှစ်ခါထပ်နေသောကြောင့်သာ အရိုးသုံးရာပြည့် ဖြစ်နေပါသည်။

ယင်းသို့အရေအတွက် နှစ်ခါထပ်နေသော ဖနောင့်ရိုး ၂-ချောင်းကို အရိုးသုံးရာထဲမှ ထုတ်ပယ်လျှင် ၂၉၈-ချောင်းသာ ကျန်ပါမည်။ ယင်း ၂၉၈-ချောင်းတွင် ခါးမချပ်ရိုး(ခေါ်) တင်ပါးစွန်းရိုးမပါသော်လည်း အရိုးတို့ကို အကျယ်ပြရာအဋ္ဌကထာတို့၌ "ကောဋိယံ ဋ္ဌိတံ အာနိသဒဋ္ဌိအတေမုခံ ကတ္တာ ဂဝိတသပ္ပဖဏံ သဏ္ဌာနံ"[၂]ဟု ခါးမချပ်ရိုး(ခေါ်) တင်ပါးစွန်းရိုးတစ်ချောင်းကို ထည့်သွင်းပြဆိုထားသောကြောင့် ၎င်းအရိုးတစ်ချောင်းကို ထည့်လျှင် ၂၉၉-ချောင်းဖြစ်ပါသည်။

**အရိုး - ၂၉၅**

ယောအတွင်းဝန်က အရိုး ၂၉၉-ခုတွင် ဖမျက်ရိုး(ခေါ်)ခြေမျက်စိရိုး ၄-ခုကို ထည့်မရေတွက်သင့်။ ထို့ကြောင့် ၂၉၅-ခုသာ ရှိ

၁။ ဘိ၊ ဋ္ဌ ၊ ၂ ၊ ၂၂၆။ ဝိသုဒ္ဓိ ၊ ၁ ၊ ၂၄၅။ ခုဒ္ဒက၊ ဋ္ဌ ၊ ၃၈။
၂။ ဘိ၊ ဋ္ဌ၊ ၂၊ ၂၂၆။ ဝိသုဒ္ဓိ ၊၁ ၊ ၂၄၆။

သည်ဟု ဆိုပါသည်။ သူ၏အကြောင်းပြချက်မှာ "ခြေမျက်စိရိုးသည် မြင်းခေါင်းရိုးနှစ်ခုတို့၏ အဖျားအဖုနှစ်ခုပင် ဖြစ်သောကြောင့် အသီးအခြား မရေတွက်သင့်။ ခြေမျက်စိရိုးကို အကယ်၍ အသီးအခြား ရေတွက်လျှင် လက်မျက်စိရိုးကိုလည်း အသီးအခြား ရေတွက်ရလိမ့်မည်။ ထို့ကြောင့် ရှေးအဋ္ဌကထာပါဠိတွင်မရှိ။ မရှိကြောင်း သက်သေကား ဒွေ တိမတ္တာနီတိ ဒွေမတ္တသဒ္ဒေဟိ ဂေါပ္ဖကဋ္ဌိကာနိ အဝုတ္တာနိ ဒသေ တီတိ ဝေဒိတဗ္ဗံ-ဟူသော သမ္မောဟဝိနောဒနီ ပင်တည်း"[၁] ဟုဆိုပါသည်။

**ညှိနှိုင်းချက်**

ဤသို့အရိုးသည် ၂၉၉-ချောင်းသာရှိသည်ဟူ၍လည်းကောင်း ၂၉၅-ချောင်းရှိသည်ဟူ၍လည်းကောင်း အဆိုကွဲကြသော်လည်း အဋ္ဌကထာအဆိုနှင့် မဆန့်ကျင်ပါ။ အဋ္ဌကထာအလိုကျပင် ဖြစ်ပါသည်။ အဘယ့်ကြောင့်ဆိုသော် "ဒွေ မတ္တသဒ္ဒေဟိ ၌ မတ္တသဒ္ဒါသည် မြန်မာလို 'သုံးရာလောက်'စသည်ဖြင့် ခေါ်ဝေါ်ရာ၌ 'လောက်' ဟူသော အနက်ကိုပြ၏။ ထို့ကြောင့် မတ္တသဒ္ဒါဖြင့် (လောက်ဟူသော စကားဖြင့်) သုံးရာမပြည့်တတ်ဘဲ အနည်းငယ်ယုတ်လျော့နေသည်ဟု သိစေသည်။[၂] ထို့ကြောင့် အဋ္ဌကထာနှင့် မဆန့်ကျင်ဘဲ ညီညွတ်သည်ဟု ဆိုရပေမည်။

**အရိုးစုကမ္မဋ္ဌာန်း ဟောတော်မူရခြင်း ရည်ရွယ်ချက်**

အရိုးနှင့်ပတ်သက်သော ကမ္မဋ္ဌာန်းများကို ဘုရားရှင်သည် ပိဋကတ်တော် နေရာများစွာ၌ ဟောတော်မူခဲ့ပါသည်။ ယင်းသို့

---

၁။ ကာယာနုပဿနာကျမ်း ၊ ၁၇၇။ ၂။ သမ္မောဟဝိနောဒနီ ၊ ဒု ၇၈၃။

ဟောတော်မူရာ၌"အဘယ်ရည်ရွယ်ချက်ဖြင့် ဟောတော်မူပါသနည်း" ဟုမေးလျှင်"ကမ္မဋ္ဌာန်းတရားပွားများအားထုတ်နိုင်ရေးအတွက် ရည်ရွယ်ပြီး ဟောတော်မူသည်" ဟုသာမညအားဖြင့်ဖြေဆိုရပေမည်။ ယင်းအရိုးစုကမ္မဋ္ဌာန်းသည်"မည်သည့်ကမ္မဋ္ဌာန်းမျိုးဖြစ်သနည်း၊ မည်သို့အားထုတ်ရမည်နည်း"ဟုဆိုလျှင်၎င်းအဖြေ ဝိသေသကို ကျယ်ကျယ်ပြန့်ပြန့်, ပြည့်ပြည့်စုံစုံသိရှိဖို့ရန်မှာ စရိုက်ခြောက်ပါး အကြောင်းနှင့် ၎င်းနှင့်လျော်ကပ်သော ကမ္မဋ္ဌာန်းများကိုပါ သိရှိနား လည်ဘို့ လိုအပ်ပေလိမ့်မည်။ သို့မှသာ ရည်ရွယ်ချက် အစစ်အမှန်ကို ပြည့်ပြည့်စုံစုံ သိရှိနိုင်မည်ဖြစ်ပါသည်။

## စရိုက်

စရိုက်ဟူသည် "များးစွာဖြစ်လေ့ရှိသော အပြုအမူ၊ အလေ့ အကျင့်၊ အထုံဝါသနာ၊ ထုံးစံ"ဟု ဆိုပါသည်။ ပင်ကိုယ်ရိုးရာသူတ ကာဖြစ်နေကျထက် လွန်ကဲပိုမို၍ အဖြစ်များခြင်းဟု အဓိပ္ပါယ်ရပါ သည်။ ဥပမာ-ရာဂစရိုက်ရှိသူသည် ဒေါသ မောဟဖြစ်လောက်သော အာရုံမျိုး၌ မဖြစ်အောင် ချုပ်တည်းနိုင်သော်လည်း ရာဂဖြစ်လောက် သော အာရုံ၌ကား မချုပ်တည်းနိုင်ပါ။ အခြားစရိုက်များလည်း ဤ နည်းအတိုင်းပင် ဖြစ်ပါသည်။

## စရိုက်အကဲခတ်နည်း

ဤနေရာ၌ သူတစ်ပါးစိတ်ကို သိနိုင်သော (ပရစိတ္တဝိဇာနန) ဉာဏ်ကို မရလျှင် သူတစ်ပါး၏စရိုက်ကို တိတိကျကျသိဘို့ခဲယဉ်းလှ ၏။ အဘယ့်ကြောင့်ဆိုသော် တစ်ချို့ပုဂ္ဂိုလ်၌ စရိုက်သည် တစ်မျိုး တည်းသာမဟုတ်၊ ၂-မျိုး ၃-မျိုးစသည်ရောလျက်ရှိသောကြောင့်

လည်းကောင်း၊ တစ်ချို့ ဗဟုသုတရှိသောပုဂ္ဂိုလ်တို့သည် အရာရာ ဝယ်သတိဖြင့်နှိုင်းချိန်၍ နေထိုင်ပြုမူတတ်သောကြောင့်လည်းကောင်း၊ ထိုသူတို့၏ မူလစရိုက်များ အမှန်အတိုင်း မထင်ရှားတော့ပါ။ ထို့ ကြောင့် စရိုက်မှန်ကို သိဖို့ခဲယဉ်းခြင်း ဖြစ်ပါသည်။

ထိုသို့ စရိုက်မှန်ကို တိတိကျကျမသိနိုင်သော်လည်း သတ္တဝါ တို့၏ စရိုက်ကို ခန့်မှန်းအကဲခတ်နိုင်သော နည်းလမ်းများ ရှိပါသည်။ ယင်းနည်းလမ်းများမှာ -

၁။ သွားလာနေထိုင်ပုံ၊

၂။ လုပ်ငန်းကိစ္စ ဆောင်ရွက်ပုံ၊

၃။ အစာအာဟာရ နှစ်သက်တတ်ပုံ၊

၄။ ရူပါရုံ ၊ သဒ္ဒါရုံစသည်တို့ကို ကြည့်ရှုနားထောင်ပုံ၊

၅။ များစွာဖြစ်လေ့ဖြစ်ထရှိသော ကုသိုလ် , အကုသိုလ်စိတ် နေသဘောထားများ ဖြစ်ပါသည်။

ဤအချက်ငါးချက်ဖြင့် သတ္တဝါများကို အကဲခတ်လေ့လာပါ လျှင် မည်သည့်သတ္တဝါသည် မည်သည့်စရိုက်ရှိသည်ဟု ခန့်မှန်းခြေ အားဖြင့် သိနိုင်ပါသည်။[၁]

## ရာဂစရိုက်

ရာဂစရိုက်ရှိသူကို ယင်းအချက်ငါးမျိုးဖြင့် အကဲခတ်နည်းမှာ

(၁) ရာဂစရိုက်ရှိသူသည် သွားလာသည့်အခါ ယဉ်ယဉ် ကျေးကျေး တင့်တင့်တယ်တယ် သွားလာလေ့ရှိ၏။ ခြေကိုညီညီညာ ညာချလေ့ရှိ ၏။ သူ၏ခြေရာသည် အလယ်၌မထင်၊ အရင်းအဖျား

---

၁။ ဝိသုဒ္ဓိမဂ် ၊ ပ၊ ၁၀၁။

နှစ်ခုသာ ထင်၏။ ရပ်သည့်အခါ , ထိုင်သည့်အခါတို့၌ အများကြည့် ကောင်းအောင် အချိုးကျကျရပ်တတ် ထိုင်တတ်၏။ အိပ်ယာကို ညီညီညွတ်ညွတ် သေသေသပ်သပ်ခါ၍ ဖြည်းညင်းစွာ လဲလျောင်းပြီး နှစ်သက်ဖွယ်အခြင်းအရာဖြင့် အိပ်လေ့ရှိ၏။ ထသည့်အခါလည်းဖြည်း ဖြည်းသက်သာ ထ၏။ စကားကိုလည်း ဖြည်းဖြည်းသာသာ ပြော၏။

(၂) တံမြက်လှည်းခြင်း၊ ဝတ်စားဆင်ယင်ခြင်းစသည့် အလုပ်ကိစ္စများကို ပြုရာ၌လည်း ကျနသေသပ်၏။ ကြည့်ရှု၍ ကောင်း အောင်စနစ်တကျ လုပ်တတ်၏။

(၃) အစားအစာ စားသောက်ရာ၌ အချို , အဆိမ့် အမွှေးအကြိုင် နူးညံ့သိမ်မွေ့သောအစားအသောက် များကို နှစ်သက်တတ်၏။ အနည်းငယ်ကောင်းမွန်သော အစားအစာကို ရသည့်အခါ ဝမ်းမြောက် ဝမ်းသာဖြစ်တတ်၏။ ဣန္ဒြေရရ သေ သေသပ်သပ် အရသာခံလျက် စားသောက်တတ်၏။

(၄) အသင့်အတင့်လှပသော ရှုပါရုံကို တွေ့မြင်ရလျှင် တအံ့ တဩ ငေးမော၍ ကြည့်တတ်၏။ ထိုအာရုံမှ မခွါချင်အောင်လည်း ဖြစ်တတ်၏။

(၅) ဖြစ်လေ့ရှိသော တရားသဘောများမှာ - ထင်ရှား သော အပြစ်ကိုပင် မမြင်ဘဲ အနည်းငယ်သော ဂုဏ်ကို ခင်မင်မက်မော တတ်၏။ ပရိယာယ် မာယာများ၏။ ကောက်ကျစ်စဉ်းလဲမှု သာဌေယျ ပေါ၏။ မာနကြီး၏။ အလိုရမက်ကြီး၏။ ရောင့်ရဲတင်းတိမ် မှုမရှိ။ အဝတ်အစားစသည်တို့၌ လျပ်ပေါ်လော်လီသော သဘောရှိ၏။ ဤကား ရာဂစရိုက်ရှိသူကို အကဲခတ်နည်းဖြစ်သည်။ [၁]

၁။ ဝိသုဒ္ဓိမဂ်၊ ပ -တွဲ ၊ ၁၀၁၊ ၁၀၃။

## ဒေါသစရိုက်

ဒေါသစရိုက်ရှိသူကို ဆက်လက်၍ အကဲခတ်ဝေဖန်ရလျှင်-

(၁) ဒေါသစရိုက်ရှိသူသည် လမ်းသွားသည့်အခါ ခြေဖျား ဖြင့် မြေကို တူးသကဲ့သို့ သွားတတ်၏။ ခြေကြွသည့်အခါ, ချသည့် အခါ တို့၌ အလျင်အမြန် ကတိုက်ကရိုက်ကြွခြင်း ချခြင်းကို ပြုတတ် ၏။ ခြေရာ သည် နောက်ဘက်သို့ ဆွဲငင်သယောင်ရှိ၏။ ကြမ်းတမ်း ခိုင်မာစွာ ရပ်တတ် ၊ ထိုင်တတ်၏။ အိပ်ရာကို အလျှင်အမြန် ဖြစ်က တတ်ဆန်း ခင်းပြီး ကိုယ်ကို ဝုန်းခနဲ ပစ်လှဲချကာ မျက်မှောင်ကြုတ်၍ အိပ်လေ့ရှိ၏။ အိပ်ရာမှ ထသောအခါ၌လည်း လျင်မြန်စွာ ဝေါက်ခနဲ ထတတ်၏။ စကားပြောရာ၌ ဒေါသထွက်သည့်ဟန်မခြေမင ဝေါက် ဆတ်ဆတ် စကားမျိုးပြောဆိုတတ်၏။

(၂) တံမြက်လှည်းခြင်းစသောကိစ္စများကို လုပ်ကိုင်ရာ၌ သေသပ်ကျနမှုမရှိ၊ အောက်ကျယ်ဟတ်ကျယ်ဖြင့် အလျင်စလို လုပ်တတ် ၏။ တင်းကြပ်မြဲမြံစွာကိုင်ပြီး ကြမ်းကြမ်းတမ်းတမ်း လုပ်တတ်၏။

(၃) စားသောက်ရာ၌လည်း အစားအစာများကို ပါးစပ် အပြည့်ထည့် ကာ အရသာမခံဘဲ မြန်မြန်စားတတ်၏။ ကြမ်းတမ်း သောအစား အစာ , ချဉ်သောအစားအစာများကို ကြိုက်တတ်၏။ မကြိုက်သည့် စားသောက်ဖွယ်ရာကိုရလျှင် နှလုံးမသာမျက်နှာမလှ ရှိတတ်၏။

(၄) မနှစ်သက်ဖွယ် အနိဋ္ဌာရုံတို့နှင့် တွေ့ကြုံရာ၌လည်း သည်းခံအောင့်အည်း ချုပ်တည်းခြင်းမရှိဘဲ ယမ်းပုံမီးကျသည့်ပမာ စိတ်တိုတတ်၏။ ထိုအာရုံမျိုးကို ကြာရှည်စွာကြည့်လည်း မကြည့်နိုင်,

နားလည်းမထောင်နိုင်ပါ။

(၅) အနည်းငယ်အပြစ်ကလေး၌ပင် သည်းခံမှုမရှိ စိတ်ထိခိုက်တတ်၏။ ဟုတ်မှန်ထင်ရှားသည့် ဂုဏ်ကျေးဇူးကို လည်း အလေးမထားတတ်ပါ။ ခွဲခွါသွားရသည့်အခါ၌လည်း ငဲ့ကွက်မှုမရှိ လွတ်လွတ်ကျွတ်ကျွတ် ဖဲခွါသွားလေ့ရှိ၏။ အမျက်ထွက်လွယ်၏။ ရန်ငြိုးဖွဲ့တတ်၏။ အခြားသူတို့၏ ဂုဏ်ကျေးဇူးကို ချေဖျက်တတ်၏။ ဂုဏ်တုဂုဏ်ပြိုင် ပြုတတ်၏။ သူတစ်ပါးချမ်းသာမှုကို ငြူစူတတ်၏။ မိမိပစ္စည်းကို ဝန်တိုတတ်၏။[၁] ဤကား ဒေါသစရိုက်ရှိသူကို အကဲခတ်နည်းဖြစ်သည်။

## မောဟစရိုက်

မောဟစရိုက်ရှိသူကို အကဲခတ်ရလျှင် (၁) မောဟစရိုက်ရှိသူသည် သွားလာသောအခါ ဖည်ယမ်းဖည်ယမ်းနှင့် သွားလာတတ်၏။ ကြောက်ရွံ့သကဲ့သို့ ခြေချခြင်းကြွခြင်းကို ပြု၏။ ရံခါခြေဖျားနှင့်နင်း၍ ရံခါဖနောင့်နှင့် နင်းသွားတတ်၏။ ရပ်သည့်အခါ ထိုင်သည့်အခါတို့၌ အချိုးမကျ ဖြစ်သလို ရပ်တည်တတ်,ထိုင်တတ်၏။ အိပ်ယာကို ဖြစ်ကတတ်ဆန်း ရွှံ့စောင်းစောင်းခင်း၍ ခြေပစ်,လက်ပစ် အိပ်တတ်၏။ အိပ်သည့်အခါ အများအားဖြင့် မှောက်လျက်အိပ်တတ်၏။ ထသည့်အခါ သန်းဝေပြီး ဖြည်းလေးစွာ ထတတ်၏။ အချုပ်အားဖြင့် မောဟစရိုက်ရှိသူသည် ဖွတ်ပဒတ်အသွင် မယဉ်မကျေးမှိုင်ငေးပေါ့ပျက် ရှုပ်ယှက်ခတ်နေထိုင် သွားလာတတ်၏။

---

၁။ ဝိသုဒ္ဓိမဂ် ၊ ပ၊ ၁၀၁ - ၁၀၃။

(၂) တံမြက်လှည်းခြင်းစသော လုပ်ငန်းကိစ္စတို့ကို ပြုလုပ်ရာ၌သေသပ်ကျနမှုမရှိ၊ ပေါ့ပေါ့ဆဆ, ရှုတ်ရှုတ်ထွေးထွေးပြုလုပ်တတ်၏။

(၃) စားသောက်ရာ၌ ပါးစပ်ကို ပေရေအောင် စားလေ့ရှိ၏။ ဟိုတွေးဒီတွေးဖြင့် ငေးမောလျက် စားတတ်၏။ မည်သည့်အစားကို ကြိုက်တတ်သည်ဟု စွဲစွဲမြဲမြဲမရှိပေ။

(၄) မြင်ရာ,ကြားရာစသည်တို့၌ ဉာဏ်ဖြင့် ဝေဖန်နိုင်းချိန်လေ့မရှိဘဲ မြင်တိုင်း,ကြားတိုင်း ယုံလွယ်တတ်၏။ အစဉ်သဖြင့် သူတကာ၏ နောက်လိုက်သာ ဖြစ်တတ်၏။ သူများ ချီးမွမ်းသည့်အခါ ရောရ၍ ချီးမွမ်းတတ်၏။ ကဲ့ရဲ့သည့်အခါ၌လည်း ရောရ၍ ကဲ့ရဲ့တတ်၏။

(၅) သူ၏သန္တာန်၌ ထိနမိဒ္ဓ =ထိုင်းမှိုင်းဖျင်းအခြင်း၊ ဥဒ္ဓစ္စ= စိတ်ပျံ့လွင့်ခြင်း ၊ ကုက္ကုစ္စ = နောင်တမကြာမကြာရခြင်း၊ ဝိစိကိစ္ဆာ= ဇကန်ဇကေ ယတိပြတ်မဆုံးဖြတ်နိုင်ခြင်းစသော အကုသိုလ်တရားများ ဖြစ်လေ့ရှိ၏။ ဤဆိုအပ်ပြီးသည်ကား မောဟစရိုက်ရှိသူကို အကဲခတ်နည်းပင် ဖြစ်သည်။ [၁]

## သဒ္ဓါစရိုက်

သဒ္ဓါစရိုက်ရှိသူ၏ (၁)သွားလာနေထိုင်ပုံ ၊ (၂) လုပ်ငန်းကိစ္စဆောင်ရွက်ပုံ ၊ (၃) အစာ,အာဟာရ နှစ်သက်တတ်ပုံ၊ (၄) ရူပါရုံ , သဒ္ဒါရုံစသည်တို့၌ ကြည့်ရှုနားထောင်ပုံ-ဟူသော ဤရှေ့လေးမျိုးသည် ရာဂစရိုက်ရှိသူနှင့်တူ၏။ နံပါတ် (၅)တရားတို့၏ ဖြစ် ခြင်းအားဖြင့်ကား မတူညီပါ။ တရားတို့၏ ဖြစ်ခြင်းအားဖြင့် သဒ္ဓါ စရိုက်ရှိသူသည် စဉ်းစားခြင်း ၊ မာယာများခြင်းစသော အကုသိုလ် တရားများ

၁ ။ ဝိသုဒ္ဓိ၊ ၄၊ ပ၊ ၁၀၁ ၊ ၁၀၃။

ဖြစ်လေ့မရှိဘဲ လွတ်လွတ်စွန့်ကြဲခြင်း၊ ကြည်ညိုဖွယ်ဖြစ်သည့် ရတနာ သုံးပါးတို့ကို ဆည်းကပ်ကိုးကွယ် ကြည်ညိုခြင်း၊ တရားနာလိုခြင်း စသော တရားများ ဖြစ်လေ့ရှိပါသည်။ [၁]

## ဗုဒ္ဓိစရိုက်

ဗုဒ္ဓိ(ပညာ)စရိုက်ရှိသူ၌လည်း ဣရိယာပုထ်စသော ရှေ့လေး ပါးသည် ဒေါသစရိုက်ရှိသူနှင့်တူ၏။ တရားတို့၏ ဖြစ်ခြင်းအားဖြင့် ကား ဗုဒ္ဓိစရိုက်ရှိသူသည် စိတ်ရှည်၏။ ဆိုဆုံးမလွယ်၏။ မိတ်ဆွေ ကောင်း ရှိ၏။ သင့်လျော်သည့်အာဟာရကို နှိုင်းချိန်၍ စားသောက် လေ့ရှိ၏။ ထိတ်လန့်သင့်သော ဇာတိ ဇရာ မရဏစသော သံသရာ ဘေးဒုက္ခတို့၌ ထိတ်လန့်တတ်၏။ ယင်းဒုက္ခတို့မှလွတ်မြောက်ရန် ကုသိုလ်ကောင်းမှုအစုစုတို့ကို လုံ့လဝီရိယသန်သန်ဖြင့် မှန်မှန်ကြီး အားထုတ်လေ့ရှိခြင်းစသော တရားများဖြစ်လေ့ရှိပါသည်။ [၂]

## ဝိတက်စရိုက်

ဝိတက်စရိုက်ရှိသူ၌လည်း ဣရိယာပုထ်စသော ရှေ့လေးပါး သည် မောဟစရိုက်ရှိသူနှင့်တူ၏။ မတူသောတရားသဘောများမှာ ဝိတက်စရိုက်ရှိသူသည် အပေါင်းအဖော်၌ မွေ့လျော်၍ စကားများ ခြင်း၊ ကုသိုလ်တရား၌ မွေ့လျော်မှုမရှိခြင်း၊ မတည်မြဲသော ကိစ္စရှိ ခြင်း၊ ညဉ့်၌ ကြံစည်မှုဟူသော အခိုးလွှတ်၍ နေ့၌ ယင်းအကြံအ တိုင်း ဆောင်ရွက်ခြင်းတည်းဟူသော အလျှံကိုလွှတ်ခြင်း၊ အာရုံအမျိုး မျိုးတို့၌ စိတ်ကိုပြေးစေခြင်းစသော တရားများဖြစ်လေ့ရှိပါသည်။ [၃]

---

၁။ ၂။ ၃။ ဝိသုဒ္ဓိ၊ ၄ ၊ ပ၊ ၁၁၀။

ဤသို့သွားလာနေထိုင်ပုံ ကြိရိယာပုထ်ကိုလည်းကောင်း၊ ဆောင်ရွက်ပုံကိစ္စကိုလည်းကောင်း၊ နှစ်သက်တတ်သောအစားအသောက်ကိုလည်းကောင်း၊ ရှုပါရုံစသည်တို့၌ ကြည့်ရှုနားထောင်ပုံကိုလည်းကောင်း၊ အဖြစ်များသော တရားသဘောကိုလည်းကောင်း အကဲခတ်လေ့လာခြင်းဖြင့် မည်သည့်စရိုက်ရှိသူဟု ခန့်မှန်းခြေအားဖြင့် သိနိုင်ပါသည်။ ဤကား စရိုက်အကဲခတ်နည်းများ ဖြစ်ပါသည်။

ဆိုခဲ့ပြီးခဲ့သော စရိုက်ခြောက်ပါးနှင့် သင့်လျော်သည့်ကမ္မဋ္ဌာန်းများကို ဆက်လက်ဖော်ပြရလျှင် -

**စရိုက်နှင့်ကမ္မဋ္ဌာန်း**

၁။ အသုဘဆယ်ပါးနှင့် ကာယဂတာသတိတစ်ပါး၊ ဤတစ်ဆယ့်တစ်ပါးသော ကမ္မဋ္ဌာန်းတို့သည် ရာဂစရိုက်ရှိသူအား သင့်လျော်၏။

၂။ ဗြဟ္မဝိဟာရလေးပါးနှင့် ဝဏ္ဏကသိုဏ်းလေးမျိုး ဤရှစ်မျိုးသော ကမ္မဋ္ဌာန်းတို့သည် ဒေါသစရိုက်ရှိသူအား သင့်လျော်ပါသည်။

၃။ ၄။ အာနာပါနဿတိကမ္မဋ္ဌာန်းသည် မောဟစရိုက်ရှိသူနှင့် ဝိတက်စရိုက်ရှိသူတို့အား သင့်လျော်ပါသည်။

၅။ ဗုဒ္ဓါနုဿတိစသော ခြောက်ပါးသော အနုဿတိကမ္မဋ္ဌာန်းတို့သည် သဒ္ဓါစရိုက်ရှိသူအား သင့်လျော်ပါသည်။

၆။ မရဏာနုဿတိကမ္မဋ္ဌာန်း၊ ဥပသမာနုဿတိကမ္မဋ္ဌာန်း၊ စတုဓာတုဝဝတ္ထာန်နှင့် အာဟာရေပဋိကူလသညာဟူ

သော ကမ္မဋ္ဌာန်းလေးမျိုးတို့သည် ဗုဒ္ဓိစရိုက်ရှိသူအား သင့်လျော်ပါသည်။

ကြွင်းသောကသိုဏ်းနှင့် လေးပါးသောအာရုပ္ပတို့သည် အလုံးစုံ သောစရိုက်ရှိသူအား သင့်လျော်ပါသည်။

ဆိုင်ရာစရိုက်နှင့်သင့်လျော်သည့် ကမ္မဋ္ဌာန်းများသည် တရားအားထုတ်သူများအဖို့ တရားရဖို့ရန် အလွန်အရေးပါသော အချက်များပင် ဖြစ်ပေသည်။ အကြောင်းကိုဆိုသော် "အနာနှင့်ဆေးတည့်အောင်ပေး၊ ပျောက်ရေးမခက်ပါ"ဆိုသည့်အတိုင်း၊ အနာနှင့်ဆေးကိုက်ညီမှသာ ရောဂါပျောက်ကင်းနိုင်သကဲ့သို့ ထိုနည်းတူပင် စရိုက်နှင့် ကမ္မဋ္ဌာန်းကိုက်ညီမှသာ ကိလေသာရောဂါ အမြန်ပျောက်ကင်းပြီး လိုအပ်သော မဂ် ဖိုလ် နိဗ္ဗာန်အကျိုးလွယ်ကူစွာ ပြီးစီးစေနိုင်သည်။ ထိုသို့မဟုတ်ဘဲ စရိုက်နှင့်ကမ္မဋ္ဌာန်း ကိုက်ညီမှုမရှိလျှင် လိုအပ်သော အကျိုးပြီးစီးနိုင်မည်မဟုတ်ပေ။ ဤအချက်ကို အရှင်သာရိပုတ္တရာ၏ ကမ္မဋ္ဌာန်း ပေးမှားပုံဝတ္ထုက လမ်းညွှန်ပြနေပေသည်။

**အရှင်သာရိပုတ္တရာ တရားပေးမှားပုံ**

အရှင်သာရိပုတ္တရာမထေရ်သည် တပည့်ဖြစ်သူ ရွှေပန်းတိမ်သည်၏သား ရဟန်းအား အသုဘကမ္မဋ္ဌာန်းကို စီးဖြန်းစေရာ လေးလကြာသော်လည်း နိမိတ်မျှပင် မထင်ချေ။ ထိုသို့ တရားမရသည်မှာ- ရွှေပန်းတိမ်သည်သား ရဟန်းသည် ဘဝငါးရာတိုင်တိုင် ရွှေပန်းတိမ်အိမ်၌သာ ဆက်ခါဖြစ်ခဲ့၏။ ထိုဘဝတို့၌ စင်ကြယ်သော ရွှေထည်အမျိုးမျိုးကို ကြည့်ရှု၍ များစွာနှစ်သက်သဘောကျခဲ့၏။ ထိုခါတ်ခံကြောင့် မစင်ကြယ်သော အသုဘဘာဝနာနှင့် မကိုက်ညီ၍ တရား

မရခြင်း ဖြစ်ပေသည်။ အရှင်သာရိပုတ္တရာသည် ထိုရဟန်းကို ဘုရားရှင်ထံ ခေါ်သွား၏။ ဘုရားရှင်သည် ထိုရဟန်း၏ အဇ္ဈာသယကို သိတော်မူ၍ သရက်ဥယျာဉ်လေးထောင့်ရေကန်တစ်ခု၌ ပဒုမ္မာကြာပန်းတစ်ပွင့်ကို ဖန်ဆင်းတော်မူလျက် "ချစ်သားရဟန်း ဤကြာပွင့်ကို ကြည့်ရှုနေရစ်ခဲ့လော"ဟု ဆိုကာ ဝဏ္ဏကမ္မဋ္ဌာန်းကို ပေးတော်မူလေ၏။

ရဟန်းသည် ထိုကြာပွင့်ကို စူးစူးစိုက်စိုက်ရှုကြည့်နေဆဲ ခဏမှာပင် ကြာပွင့်သည် ရင့်ရော်ကာ ပွင့်ချပ်များ ကြွေကျကုန်၏။ ပဒုမ္မာကြာပွင့်၏ ဖောက်ပြန်ပျက်စီးပုံကို မြင်တွေ့ရ၍ မိမိခန္ဓာကိုယ်နှင့်နှိုင်းယှဉ်ကြည့်မိ၏။ ထိုအခါ မိမိခန္ဓာကိုယ်၌ ရုပ်နာမ်ဓမ္မသင်္ခါရတရားတို့၏ ခိုင်မြဲမှုမရှိပုံ၊ ခဏတိုင်းဖောက်ပြန်ပျက်စီးနေပုံနှင့်ခပ်သိမ်းသောသင်္ခါရတရားတို့အမြဲမရှိပုံတို့ကို ဝိပဿနာဉာဏ်မျက်စိဖြင့် သိမြင်လေ၏။ ဘုရားရှင်သည် ထိုရဟန်း၏ စိတ်သည် ဝိပဿနာသို့ တက်ပြီဟု သိတော်မူ၍ "ရဟန်း တန်ဆောင် မုန်းလ၌ ပွင့်သော ကုမုဒြာကြာကို လက်ဖြင့်ဖြတ်သကဲ့သို့ မိမိ၏ ချစ်ခြင်းကို ဖြတ်လော့၊ သင်သည် ငြိမ်းအေးရာနိဗ္ဗာန်ခရီးကိုသာလျှင် ပွားစေလော့" ဟု ဟောတော်မူ၏။ ဒေသနာအဆုံးတွင် ထိုရဟန်းသည် ရုပ်နာမ်ဓမ္မတို့၏ ခဏတိုင်းဖောက်ပြန် ပျက်စီးနေသောဒုက္ခသစ္စာကိုလည်းကောင်း၊ ယင်းသို့ဖောက်ပြန်ပျက်စီးနေပုံဒုက္ခကို ပိုင်ပိုင်နိုင်နိုင် သိမြင်ခြင်း မဂ္ဂသစ္စာကိုလည်းကောင်း၊ ထိုသို့ခန္ဓာကိုယ်ကို ဒုက္ခဟု သိမြင်နေသဖြင့် မလာနိုင်အောင်ပယ်သတ်ခံရသောခြင်း တပ်မက်မှုရာဂဟူသော သမုဒယသစ္စာကိုလည်းကောင်း၊ ထိုသမုဒယသစ္စာကိုပယ်သတ်ပြီး၍ ဒုက္ခအားလုံးငြိမ်းအေးသွားသော နိဗ္ဗာန်ဟုဆိုအပ်သော နိရောဓ

သစ္စာကိုလည်းကောင်း တစ်ပြိုင်နက်တည်းသိမြင်ပြီး အာသဝေါကုန်ခမ်း ရဟန္တာအဖြစ်သို့ရောက်ရှိသွားပါသည်။[၁]

ဤသာဓကဖြင့် စရိုက်နှင့်ကမ္မဋ္ဌာန်း ကိုက်ညီမှုသည်လည်း တရားရဖို့ရန် ပဓာနကျသောအချက်ပင်ဖြစ်ကြောင်း၊ ကမ္မဋ္ဌာန်းတိုင်းလည်း ပုဂ္ဂိုလ်တိုင်းနှင့် သင့်လျော်သည်မဟုတ်ကြောင်း၊ စရိုက်နှင့် သင့်လျော်သည့် ကမ္မဋ္ဌာန်းကိုသာ ပေးသင့်ယူသင့်ကြောင်း၊ မိမိသဘောမကျ မနှစ်သက်သည့် ကမ္မဋ္ဌာန်းကို အားမထုတ်ဘဲ မိမိသဘောအကျဆုံး၊ အနှစ်သက်ဆုံး ကမ္မဋ္ဌာန်းကိုသာ အားထုတ်သင့်ကြောင်း သို့မှသာ လိုအပ်သော မဂ် ဖိုလ် နိဗ္ဗာန်အကျိုးပြီးစီးဖို့လွယ်ကူမည်ဖြစ်ကြောင်းဖော်ပြရပေသည်။

## ရည်ရွယ်ချက်

အထက်ပါစရိုက်နှင့် ကမ္မဋ္ဌာန်းတို့တွင် အရိုးစုကမ္မဋ္ဌာန်းသည် အသုဘကမ္မဋ္ဌာန်းနှင့် ကာယဂတာသတိကမ္မဋ္ဌာန်းတို့တွင် ပါဝင်နေပေသည်။ မှန်ပါသည်။ အသုဘဆယ်ပါးတွင် နောက်ဆုံးကမ္မဋ္ဌာန်းသည် အရိုးစုကမ္မဋ္ဌာန်း ဖြစ်ပါသည်။ ကာယဂတာသတိဟုဆိုအပ်သော ကောဋ္ဌာသကမ္မဋ္ဌာန်းတို့တွင် "အသား၊ အကြော၊ အရိုး၊ ရိုးတွင်းခြင်ဆီ၊ အညှို့ဟူသော ဝက္ကပဉ္စကကမ္မဋ္ဌာန်း၌ အရိုးစုကမ္မဋ္ဌာန်းပါဝင်နေပြန်ပါသည်။ ထိုကမ္မဋ္ဌာန်းတို့သည် အထက်ပါစရိုက်နှင့်လျော်သော ကမ္မဋ္ဌာန်းများအရ ရာဂစရိုက်ရှိသူအား ရာဂငြိမ်းခြင်းငှာ သင့်လျော်သော ကမ္မဋ္ဌာန်းများဖြစ်သည်ကို တွေ့ရပါသည်။ ထို့ကြောင့် ရာဂစရိုက်ရှိသူအား သင့်လျော်သော ကမ္မဋ္ဌာန်းများရရှိစေရန်လည်း

၁။ ဓာ၃ ၊ ၁ ၊ ၁၉၈။

ကောင်း၊ ထိုသင့်လျော်သည့် ကမ္မဋ္ဌာန်းများ ပွားများအားထုတ်ပြီး ရာဂငြိမ်းရာ သံသရာဝဋ်ဒုက္ခမှအပြီးတိုင် လွတ်မြောက်ရာ နိဗ္ဗာန်သို့ မျက်မှောက်ပြုနိုင်ရန်လည်းကောင်း ရည်ရွယ်၍ ဘုရားရှင်သည် ဤ အရိုးနှင့် ပတ်သက်သောကမ္မဋ္ဌာန်းများကို ဟောတော်မူခြင်း ဖြစ်ပါသည်။

## အရိုးစုကမ္မဋ္ဌာန်းပွားများအားထုတ်ပုံ

အရိုးစုကမ္မဋ္ဌာန်းသည် အသုဘနှင့် ကောဋ္ဌာသကမ္မဋ္ဌာန်းတို့ တွင်ပါဝင်နေလေပေသည်။ သို့ဖြစ်၍ အရိုးစုကမ္မဋ္ဌာန်းပွားများအား ထုတ်ပုံကို ဖော်ပြရာတွင် အသုဘနှင့်ကောဋ္ဌာသကမ္မဋ္ဌာန်း ပွားများ အားထုတ်ပုံများကိုပါ ဖော်ပြရပေမည်။

## အသုဘကမ္မဋ္ဌာန်း ပွားများအားထုတ်ပုံအစီအစဉ်

၁။ နေ့ဖြစ်စေ၊ ညဖြစ်စေ အချိန်မရွေး တိတ်ဆိတ်သော နေရာကို ရွေးချယ်၍ ရပ် , သွား , ထိုင် , လျောင်း ဣရိယာပုထ် လေးပါးတွင် တစ်ပါးပါးဖြင့် အသင့်ပြင်ဆင်နေထိုင်ပါ။

၂။ မိမိခန္ဓာကိုယ်၏ မတင့်မတယ် ရွံစဖွယ်ဖြစ်သော သဘောကို လေးလေးနက်နက် ကြိုတင်ဆင်ခြင်ပါ။

ကြိုတင်ဆင်ခြင်ပုံမှာ -

(၁) သူသေကောင်သည် မတင့်မတယ် ရွံစဖွယ်ဖြစ်သကဲ့သို့ အသက်ရှင်နေသော ငါ၏ကိုယ်ခန္ဓာသည်လည်း မတင့်မတယ် ရွံစဖွယ် သာဖြစ်၏။ မကြာမကြာသုတ် သင် သန့်ရှင်းပေးမှုနှင့် အဝတ်တန်ဆာ ဆင်ပေးမှုတို့ ကြောင့်သာ ထိုမတင့်မတယ် ရွံစဖွယ်သဘော မထင်ရှားပဲ တင့်တယ်သယောင် သာယာဖွယ်ကို ဆောင်နေခြင်း ဖြစ်ပေသည်တကား။

(၂) အမှန်အားဖြင့် အရေထူတို့ဖြင့် မြွေးယှက်ထားသော၊ အရေပါးတို့ဖြင့် ဖုံးအုပ်ထားသော အသားအကြော အရိုးတို့ဖြင့် ပေါင်းဖွဲ့ထားခြင်းမျှသာ ဖြစ်သော ဤခန္ဓာကိုယ်၏ ထက်အောက်မပြတ် ယိုစီးတတ်သော ဒွါရကိုး ပေါက်တို့မှ မစင်မကြယ် ရွံရဖွယ်တို့သာ ယိုစီးထွက်ကျနေသဖြင့်ရွံစရာစက်ဆုပ်စရာအတိဖြစ်ချေသည်တကား။

(၃) မျက်စိနှစ်ဘက်မှ မျက်ဝတ်,မျက်ချေးများ ယိုထွက်၍ နား, နှာခေါင်းတို့မှ နဖာချေး,နှပ်ချေးများ အမြဲယိုထွက် နေပြီးခံတွင်းပေါက်မှ (တစ်ခါတစ်ရံ) နှပ်နှင့် သည်းခြေ,သလိပ်,သွေး,အစာ (အံဖတ်)တို့ မပြတ်ယိုထွက် ကာ အောက်ဒွါရနှစ်ပေါက်မှ ပိုးလောက် အစာ ကျင်ကြီး ကျင်ငယ်များ ယိုစီးထွက်ကျနေလျက် တစ်ကိုယ်လုံးမှလည်း ချွေး အညစ်အကြေးတို့ ယိုထွက်နေသဖြင့် (ယင် တရုန်းရုန်း ဝိုင်းအုံစရာ) အသုဘမသာကောင်ကြီးပမာ ရွံစရာ,စက်ဆုပ်စရာ အတိသာဖြစ်ချေသည်တကား။

(၄) ဤသို့ ကိုးပေါက်ဒွါရတို့မှ ညစ်ကြေးမစင် တစ်သွင်သွင် ယိုစီးကျနေသဖြင့် အပြင်ကအတွင်းသွင်း၊ အတွင်းက အပြင်ရုံ ပြောင်းပြန်လှန်ထားပါက ခွေးတရုန်းရုန်း ကျီး တရုန်းရုန်းဖြစ်ကာ တုတ်ဓားကိုင်၍ ခြောက်လှန့်နေရ မည့်သဘောရှိသော ခန္ဓာကိုယ်ကြီးကို မသိမလိမ္မာ ပညာမဲ့ညား သူမိုက်အများကသာ (ပေါက်ပွင့်ကို သားတစ်ပမာ မခွါနိုင်ပဲ ယူစွဲထင်ရောက် သစ်ပင်အောက် ၌ သေပျောက်ပျက်ပြား မြေခွေးမိုက်အလားသို့) အားရ ပါးရ လှပတင့်တယ် သာယာဖွယ်ဟု ခင်တွယ်စွဲမက်စရာ ထင်နေကြသော်လည်း အသိအလိမ္မာ ဉာဏ်ပညာနှင့် ပြည့်စုံပေခြား သူတော်ကောင်းများတို့သည်ကား ရှင်ဘုရင်

ဖြစ်စေ၊ သူတောင်းစားဖြစ်စေ ကွဲလွဲထူးခြား အပြားမရှိ စက်ဆုပ်ဖွယ် ရာအတိသာဖြစ်သဖြင့် ထွီ ဖွယ်ရာသဘောဆောင်သည့် အပုပ်ကောင် ပါတကား ဟု လားလားမှမမက်၊ နှစ်သက်ဖွယ်မမြင်၊ ထွီချင်စရာ အော့ ချင်စရာကောင်းသည့် မသာလောင်းအသွင် ရှုဆင်ခြင်သင့်ပေသည် တကား။ [၁] ဤသို့ ကြိုတင်ဆင်ခြင်ရပေမည်။

၃။ ထိုသို့ ဆင်ခြင်ပြီးလျှင် အောက်ဖော်ပြပါ အသုဘ ၁၀-ပါးတို့တွင် တစ်ပါးပါးကိုဖြစ်စေ၊ နှစ်ပါး,သုံးပါးစသည်ကိုဖြစ်စေ၊ အားလုံးကို ဖြစ်စေ အထပ်ထပ်ဆင်ခြင်ရှုပွားပါ။

**အသုဘကမ္မဋ္ဌာန်းပွားများပုံ**

၁။ ဥဒ္ဓုမာတကံ = သေသည်မှအထက်၊ နှစ်ရက်သုံးရက်ကူးသဖြင့်၊ ဖူးဖူးရောင်ပုပ်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၂။ ဝိနီလကံ = ဖြူနီသဘော၊ ရောနှောစပ်တွဲ၊ ညိုမဲမဲပုပ် ၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၃။ ဝိပုဗ္ဗကံ = ပြည်တစိုစို၊ ပေါက်ကွဲယိုလျက်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၄။ ဝိစ္ဆိဒ္ဒကံ = ထက်အောက်နှစ်ရပ်၊ မဆက်စပ်အောင်၊ ဖြတ်အပ်ပြီးလျက်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၅။ ဝိက္ခာယိတကံ = ခွေး လင်းတ ကျီး၊ အသီးသီးတို့၊ နည်းမျိုးစုံ

---

၁။ မိဂဒါဝုန်အိမ်သုံးဘာဝနာ၊ ၅၆။

ပြား၊ ဖုံဖုံအားဖြင့်၊ ခဲစားအပ်လျက်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၆။ ဝိက္ခိတ္တကံ = လက်ခြေခေါင်းကိုယ်၊ ဖရိုဖရဲ ထိုထိုကြဲသဖြင့်၊ ပစ်လွှင့်အပ်လျက်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၇။ ဟတဝိက္ခိတ္တကံ= ကျီး ခြေမယွင်း၊ ဓားဖြင့်မွှန်း၍၊ ညှင်းအပ်ထိုထို၊ လက်ခြေကိုယ်တို့၊ ဖရိုဖရဲ ထိုထိုကြဲသဖြင့်၊ ပစ်လွှင့်အပ်လျက်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၈။ လောဟိတကံ = သွေးများထွက်ယို၊ တစ်ကိုယ်လုံးပေ၊ လိမ်းကျံနေသော၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၉။ ပုဠုဝကံ = ပိုးလောက်တွေပြည့်၊ ကျိကျိတက်နေ၊ ထွက်စေတတ်သော၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။

၁၀။ အဋ္ဌိကံ = အရိုးစုပေါင်း၊ တစ်ချောင်းဖြစ်စေ၊ အသရေယုတ်၊ စက်ဆုပ်ဖွယ်ရာ၊ မသာကောင်ကြီးပါတကား။[၁]

**ကောဋ္ဌာသကမ္မဋ္ဌာန်း ပွားများပုံ**

ဤကာယဂတာသတိဟုဆိုအပ်သော ၃၂-ကောဋ္ဌာသကမ္မဋ္ဌာန်းကိုလည်း အသုဘဘာဝနာအဖြစ် ရှုပွားနိုင်၏။ သို့ဖြစ်၍ ရှုပွားပုံအစီအစဉ်ကိုလည်း အထက်ပါနည်းအတိုင်း အလားတူပြု၍ ဆင်

---

၁။ အခြေပြုသင်္ဂြိုဟ် ၊ ၁၄၂ - ၁၄၄။

ခြင်နိုင်ပါသည်။

(အနှလုံ့)အစဉ်အတိုင်း မှားများပုံ

(၁)ဆံပင်၊မွေးညှင်း၊ ခြေသည်း လက်သည်း၊ သွား၊ အရေ(၅)
(၂) အသား၊ အကြော၊ အရိုး၊ ရိုးတွင်းခြင်ဆီ၊ အညှို့ (၅)
(၃) နှလုံး၊ အသဲ၊ အမြှေး၊ အဖျင်း၊ အဆုပ် (၅)
(၄) အူမ၊ အူသိမ်၊ အစာသစ်၊ အစာဟောင်း၊ ဦးနှောက်(၅)
(၅) သည်းခြေ၊ သလိပ်၊ ပြည်၊ သွေး၊ ချွေး၊ အဆီခဲ (၆)
(၆) မျက်ရည်၊ ဆီကြည်၊ တံတွေး၊ နှပ်၊ အစေး၊ ကျင်ငယ်[၁](၆)

ဤ၃၂-ပါးသော ကောဋ္ဌာသတို့သည် အဆင်းအားဖြင့်လည်းကောင်း၊ သဏ္ဌာန်အားဖြင့်လည်းကောင်း၊ အနံ့အားဖြင့်လည်းကောင်း၊ တည်ရာအရပ်အားဖြင့်လည်းကောင်း၊ မှီရာအကြောင်းအားဖြင့်လည်းကောင်း စက်ဆုပ်ဖွယ်ရာ ရွံဖွယ်ရာဖြစ်ကုန်၏။[၂] မတင့်တယ်ကြကုန်။ သတ္တဝါလည်း မဟုတ်ကုန်။ အသက်လည်း မဟုတ်ကုန်။ မာတင်းနူးညံ့သော ပထဝီ ဓာတ်သဘော၊ ယိုစီး,ဖွဲ့စည်းသော အာပေါဓာတ်သဘော၊ ပူအေး သော တေဇောဓာတ်သဘော၊ တွန်းကန်လှုပ်ရှားသော ဝါယော ဓာတ်သဘောတို့သာ ဖြစ်ကုန်၏။[၃]ငါ့ကိုယ် ငါ့ဟာ ငါမဟုတ်။ မမြဲ သော အနိစ္စတရား၊ ဆင်းရဲသော ဒုက္ခတရား၊ ကိုယ်ပိုင်အစိုးတရ မဟုတ်သော အနတ္တတရားတို့ပါတကား။

---

၁။ မ ၊ ၁ ၊ ၇၂။ မ ၊ ၃ ၊ ၁၃၂။
၂။ ဘိ ၊ ၄ ၊ ၂၊ ၂၂၂။
၃။ မ ၊ ၃ ၊ ၁၃၃။ ဝိသုဒ္ဓိမဂ် ၊ ပ ၊ ၃၄၇။

## အင်္ဂကောဋ္ဌာသ အရိုးစုကမ္မဋ္ဌာန်းပွားများပုံ

၁။ ခြေရိုး (၆၄)၊ လက်ရိုး (၆၄)၊ အသားမှီသော အရိုးနု(၆၄)၊

၂။ ဖနောင့်ရိုး (၂)၊ ဖမျက်ရိုး (၄)၊ မြင်းခေါင်းရိုး (၄)၊ (ခြေသလုံးရိုး လဲခေါ်သည်။)

၃။ နံရိုး (၂၄)၊ ရင်ရိုး (၁၄)၊ နှလုံးရိုး (၁)၊ ညှပ်ရိုး (၂)၊ ပခုံးရိုး (၂)၊ မောင်းရင်းရိုး (၂)၊ မောင်းဖျားရိုး (၄)၊

၄။ လည်ပင်းရိုး (၇)၊ မေးရိုး (၂)၊ နှာခေါင်းရိုး (၁)၊ မျက်ကွင်းရိုး (၂)၊ နားရိုး (၂)၊ နဖူးရိုး (၁)၊ ထိပ်ရိုး (၁)၊ ဦးခေါင်းရိုး (၉)၊

၅။ ဤသို့လျှင် ဤကိုယ်၌ အရိုးသုံးရာ ရှိ၏။ အရိုးစု၊ အရိုးစု စက်ဆုပ်ဖွယ်ရာ ရွံစရာဖြစ်၏။ စက်ဆုပ်ဖွယ်ရာ ရွံစရာဖြစ်၏။ မာတင်းသော ပထဝီဓာတ်ဖြစ်၏။ မာတင်းသော ပထဝီဓာတ် ဖြစ်၏။ ငါ သူတစ်ပါး ယောကျ်ား မိန်းမ မဟုတ်၊ ငါ သူတစ်ပါး ယောကျ်ား မိန်းမ မဟုတ်။ ငါ့ကိုယ် ငါ့ဟာ ငါမဟုတ်၊ ငါ့ကိုယ် ငါ့ဟာ ငါမဟုတ်။ အနိစ္စ အနိစ္စ၊ ဒုက္ခ ဒုက္ခ၊ အနတ္တ အနတ္တ။

## အာရှင်သာရိပုတ္တရာနည်း

အရိုးတိုင်သဘော အကြောရစ်ပတ် အသားကပ်မြှပ် အရေ ထူ အရေပါး အုပ်ထားသည်ကို ယောကျ်ားကိုယ်ကောင်၊ မိန်းမကိုယ် ကောင်ဟု အခေါ်သာရှိ၏။ အရိုး,အကြော, အသား, အရေမှတစ်ပါး ယောကျ်ား, မိန်းမမရှိ။ [၁]

ဤဆိုအပ်ပြီးသည့်အတိုင်း နှုတ်တက်အာဂုံပြု၍ အကြိမ် ကြိမ် အဖန်ဖန် နှုတ်ဖြင့်လည်း ရွတ်ဆို၊ စိတ်ဖြင့်လည်း အောက်မေ့

---

၁။ ပဋိစ္စသမုပ္ပါဒ်အရသာ ၊ ၇။

ဆင်ခြင်၍ ပွားများနိုင်ပါသည်။ ဤသို့ နှုတ်ဖြင့်ဖြစ်စေ၊ စိတ်ဖြင့်ဖြစ်စေ ရွတ်ဆိုပွားများပုံတို့ကို ဝိသုဒ္ဓိမဂ်အဋ္ဌကထာနှင့် သမ္မောဟဝိနောဒနီအဋ္ဌကထာတို့၌ ဖော်ပြထားပါသည်။ ယင်းဖော်ပြချက်တို့ကို အကျဉ်းခြုံး၍ လေ့လာတင်ပြပေအံ့။

သီဟိုဠ်ကျွန်း မလယအရပ်၌ မဟာဒေဝမထေရ် သီတင်းသုံးနေတော်မူ၏။ နိကာယ်နှစ်ခု၊ သုံးခုကို ဆောင်သော မထေရ်နှစ်ပါးတို့သည် ထိုမဟာဒေဝမထေရ်ထံ၌ ကမ္မဋ္ဌာန်းတောင်းရာ ဆံပင်,မွေးညှင်းအစရှိသော ဤကာယဂတာသတိကမ္မဋ္ဌာန်းပွားများပုံအစဉ်ကို နှုတ်ဖြင့် လေးလပတ်လုံး သရဇ္ဈာယ်၍ ပွားများလေဟု ပေးလိုက်၏။

ကမ္မဋ္ဌာန်းယူသည့်မထေရ်နှစ်ပါးတို့သည် နိကာယ်ဆောင်များဖြစ်ကြ၍ ဤကမ္မဋ္ဌာန်းကို ရပြီးဖြစ်သော်လည်း ဆရာကို ရိုသေလေးစားသောအားဖြင့် ဆရာမှာတိုင်း လေးလပတ်လုံး သရဇ္ဈာယ်ရာ နှစ်ပါးလုံး သောတာပန်ဖြစ်ကုန်၏။ [၁]

ထို့ကြောင့် ကမ္မဋ္ဌာန်းပေးသောဆရာသည် ရှေးဦးစွာ ကမ္မဋ္ဌာန်းကို နှုတ်တက်ရအောင် နှုတ်ဖြင့်သရဇ္ဈာယ်ခြင်း ပြုလေ-ဟုဆို၍ ကမ္မဋ္ဌာန်းပေးသင့်၏။ တပည့်သည်လည်း ပိဋကတ်သုံးပုံကိုပင် ရသည်ဖြစ်စေ ဆရာမှာတိုင်း ရှေးဦးစွာ နှုတ်ဖြင့် သရဇ္ဈာယ်အပ်၏။

နှုတ်ဖြင့် ရွတ်ဆိုပွားများပုံမှာ - ဖော်ပြပါအတိုင်း ဆံပင်အစ ကျင်ငယ်အဆုံး အနုလောမအားဖြင့်လည်းကောင်း၊ ကျင်ငယ်အစ ဆံပင်အဆုံး ပဋိလောမအားဖြင့်လည်းကောင်း ရွတ်ဆိုပွားများနိုင်ပါသည်။ ထို့ပြင် ဆံပင်အစ အရေအဆုံး အနုလောမ၊ အရေအစ

၁။ ဝိသုဒ္ဓိမဂ် ၊ ပ ၊ ၂၃၃။ ဘိ ၊ ဋ ၊ ၂ ၊ ၂၁၄။

ဆံပင်အဆုံး ပဋိလောမ။ ထို့နောင် အသားအစ အညှို့အဆုံး အနုလောမ၊အညှို့အစ ဆံပင်အဆုံး ပဋိလောမ။ ဤနည်းအတိုင်း အနုလောမ၌ပဉ္စက၊ ဆက္ကတို့ကို အသီးအခြားစီပြု၍ ပဋိလောမရွတ်ဆိုရာ၌ ဆံပင်တိုင်အောင် ချည်းပြန်၍ ရွတ်ဆိုရပါမည်။ အခါပေါင်း အရာအထောင်မက ရွတ်ဆိုပွားများခြင်းကို ပြုသင့်ပါသည်။

ဤသို့နှုတ်ဖြင့် သရဇ္ဈာယ်သည်ရှိသော် ကမ္မဋ္ဌာန်းအစဉ်နှုတ်တက်ခြင်းဖြစ်၏။ စိတ်သည် အနုလုံ,ပဋိလုံ ထိုမှဤမှ ပြေးသွားပြီးသုံးသပ်နိုင်၏။ စည်းရိုးလက်ရန်းတိုင်တို့၏ အခြေကိုမြင်ရသကဲ့သို့ ကောဋ္ဌာသတို့သည် ထင်ရှားကုန်၏။ နှုတ်ဖြင့် ရွတ်ဆိုခြင်းကို ပြုသကဲ့သို့ စိတ်ဖြင့် ရွတ်ဆိုခြင်းကိုလည်း ပြုအပ်၏။ နှုတ်ဖြင့်ရွတ်ဆိုခြင်းသည် စိတ်ဖြင့်ရွတ်ဆိုခြင်း၏ အကြောင်းဖြစ်၏။ စိတ်ဖြင့်ရွတ်ဆိုခြင်းသည် လက္ခဏာကို ထိုးထွင်း၍ သိခြင်း၏အကြောင်းဖြစ်၏။ အနိစ္စစသောလက္ခဏာကို ထိုးထွင်း၍သိခြင်းသည် မဂ်ဖိုလ်နိဗ္ဗာန်ကို သိမြင်ခြင်း၏ အကြောင်းဖြစ်ပါသည်။[၁] ဤဆိုအပ်ခဲ့သော ပွားများပုံ, ပွားများနည်းတို့သည် ဝိသုဒ္ဓိမဂ်အဋ္ဌကထာနှင့်သမ္မောဟဝိနောဒနီအဋ္ဌကထာတို့၌လာသော နည်းများပင် ဖြစ်ပါသည်။

**အရိုးစုကမ္မဋ္ဌာန်းပွားများရကျိုး**

အရိုးစုကမ္မဋ္ဌာန်းပွားများရကျိုးကို မဖော်ပြမီ ရှေးဦးစွာ အရိုးစုကမ္မဋ္ဌာန်း၌ အကျုံးဝင်ရရှိနိုင်သော ကမ္မဋ္ဌာန်းအမည်များကို ဖော်ပြရပေမည်။ အရိုးစုကမ္မဋ္ဌာန်းတို့သည် အသုဘဆယ်ပါးတွင်ပါဝင်သောကြောင့် အသုဘကမ္မဋ္ဌာန်းအမည်ကိုလည်း ရပါသည်။ ကာယ

၁။ ဘိ၊ ဠ၊ ၂၊ ၂၁၅။

ဂတာသတိဟုဆိုအပ်သော ကောဋ္ဌာသကမ္မဋ္ဌာန်းတွင်ပါဝင်သောကြောင့် ကာယဂတာသတိကမ္မဋ္ဌာန်းအမည်ကိုလည်း ရပါသည်။ ထို့ပြင် ဆံပင်စသော ကိုယ်အစုအဝေးကို စက်ဆုပ်ရွံရှာဖွယ်အဖြစ်ဖြင့် အဖန်ဖန် ရှုခြင်းကြောင့် ကာယာနုပဿနာသတိပဋ္ဌာန်အမည်ကိုလည်း ရပါသည်။ ဤသို့ အရိုးစုကမ္မဋ္ဌာန်း၏ အမည်များကိုသိမှသာ အောက်ဖော်ပြပါ အသုဘကာယဂတာသတိနှင့် ကာယာနုပဿနာသတိပဋ္ဌာန်တို့၏ အကျိုးတရားတို့သည် အရိုးစုကမ္မဋ္ဌာန်း၏ အကျိုးတရားများပင်ဖြစ်ကြောင်း နားလည်သဘောပေါက်ပေမည်။

ကာယာနုပဿနာသတိပဋ္ဌာန်ဟုဆိုအပ်သော အသုဘဆယ်ပါးနှင့်ကာယဂတာသတိကမ္မဋ္ဌာန်းတို့ကို ပွားများခြင်းကြောင့် ရရှိနိုင်သော အကျိုးတရားများမှာ -

၁။ အဘိဓမ္မတ္ထသင်္ဂဟကျမ်း၌ ပဌမဈာန်အထိရနိုင်ကြောင်း ဖော်ပြထား၏။ ထိုသို့ ပဌမဈာန်အထိသာရခြင်းမှာ အသုဘဆယ်ပါးနှင့် ကာယဂတာသတိအာရုံတို့သည် ရွန့်ရှင်းကြမ်းကြုတ် စက်ဆုပ်ဖွယ်ရာ အာရုံများဖြစ်၍ ဝိတက်မပါသောစိတ်အစဉ်၌ မတည်နိုင်သောကြောင့် ဖြစ်ပါသည်။ သို့သော်ပဌမဈာန်မှတစ်ဆင့် ဝိပဿနာကူး၍ ပွားများလျှင်ကား မဂ် ဖိုလ် နိဗ္ဗာန်အထိ ရနိုင်ပါ သည်။ [၁]

၂။ ယထာဘူတဉာဏ်ဖြင့် ထိတ်လန့်မှုဖြစ်နိုင်၏။ ယောဂတရားလေးပါးကုန်နိုင်၏။ ယထာဘူတဉာဏ်အမြင်ကိုရနိုင်၏။ ပစ္စုပ္ပန်ဘဝ၌ ချမ်းသာစွာနေနိုင်၏။ ဝိဇ္ဇာသုံးပါး မဂ် ဖိုလ် နိဗ္ဗာန်တရားကို မျက်မှောက်ပြုနိုင်၏။ ကိုယ်စိတ်နှစ်ပါး ငြိမ်းအေးနိုင်၏။ အကု

၁။ သင်္ဂဟ ၊ ၁၅၁။ သင်္ဂြိုဟ်ဘာသာဋီကာ ၊ ၆၅၇။

သိုလ်တရားကို ပယ်၍ ကုသိုလ်တရားကို ဖြစ်စေနိုင်၏။ မာနနှင့် သံယောဇဉ်တို့ကိုလည်း ပယ်သတ်နိုင်၏။ ဤကာယဂတာသတိ ခရီးလမ်း ကြောင်းတစ်ခုတည်းဖြင့် မဂ် ဖိုလ် နိဗ္ဗာန်ကို မျက်မှောက်ပြု နိုင်၏။ သောတာပန်, သကဒါဂါမ်, အနာဂါမ်, ရဟန္တာအထိ ဖြစ်နိုင်၏။[၁]

၃။ ကာမဝိတက်ကင်းပျောက်နိုင်၏။ ထိုသို့ ဝိတက်ကင်း ခြင်းကြောင့် စိတ်တည်ကြည်မှု သမာဓိရနိုင်၏။ ပဌမစျာန် ဒုတိယစျာန် တတိယစျာန် စတုတ္ထစျာန်တရားတို့ကို လည်း ရနိုင်၏။ ခပ်သိမ်းကုန် သော ကုသိုလ်တရားတို့သည် ကာယဂတာသတိပဋ္ဌာန် ကမ္မဋ္ဌာန်းသို့ အတွင်းဝင် ၍ ဝိဇ္ဇာသုံးပါး၊ ဝိဇ္ဇာရှစ်ပါး၊ စရဏတရားတို့၏ အဖို့ ဖြစ်နိုင် ၏။ ကိလေသာဝင်ခွင့် ဖြစ်ပေါ်ခွင့် မရနိုင်။ မမွေ့ပျော်ခြင်းကိုလည်း သည်းခံနိုင်၏။ ကြောက်ခြင်း ထိတ်လန့်ခြင်းကင်း၏။ ဆင်းရဲဝေဒနာ တို့ကို သည်းခံနိုင်၏။ စျာန်လေးပါးတို့ကို အလိုရှိတိုင်းဝင် စားနိုင်၏။ တန်ခိုး ဖန်ဆင်းခြင်း ဣဒ္ဓိဝိဓအဘိဉာဏ်စသော ငါးပါးတို့ကိုရနိုင်၏။ အာသဝေါကုန်ခမ်း ရဟန္တာဖြစ်နိုင်၏။ [၂]

၄။ စိတ်ညစ်စိတ်ပျက်ခြင်းစသော စိတ်ညစ်နွမ်းမှုဘေးမှ ကင်းဝေးစင်ကြယ်စေနိုင်၏။ စိုးရိမ်သောကနှင့်ပူဆွေးမှု ပရိဒေဝတို့ကို လည်း ပျောက်ကင်းစေနိုင်၏။ နာကျင် ကိုက်ခဲခြင်းစသော စိတ်ဆင်း ရဲမှုတို့ကိုလည်း ချုပ်ပျောက် စေနိုင်၏။ အရိယာမဂ်ဉာဏ်အထူး ကိုလည်း ရနိုင်၏။ နိဗ္ဗာန်ကိုလည်း မျက်မှောက်ပြုနိုင်၏။[၃]

၅။ ကာယာနုပဿနာသတိပဋ္ဌာန်ကို လက်ဖျစ်တစ်တွက် အချိန်ကလေးမျှပွားများသော်လည်း စျာန်ရိပ် မဂ်ရိပ်ဖိုလ်ရိပ်နှင့်

---

၁။ အံ ၊ ၁ ၊ ၄၄-၄၆။ ၂။ မ ၊ ၃ ၊ ၁၃၀-၁၄၀။ ၃။ ဒီ ၊ ၂ ၊ ၂၃၁။

မကင်းသော အကျိုးကိုလည်းကောင်း၊ ဩဝါဒ ပါတိမောက်ကို ဝန်ခံ၍ ဘုရားသာသနာတော်သုံးပါးကို ကျင့်ရာရောက်ခြင်းဟူသော အကျိုးကိုလည်းကောင်း၊ တိုင်းသူပြည်သား လူအများတို့ပေးလှူသော ပစ္စည်း လေးပါးကို မဂ် ဖိုလ် နိဗ္ဗာန်မှ အချည်းနှီးမဟုတ် အကျိုးရှိစွာ သုံးဆောင်ရာရောက်၏ဟူသော အကျိုးကိုလည်း ကောင်း ရနိုင်ပါသည်။ အကြိမ်များစွာ မပြတ်မလပ်အား ထုတ်ပါမူကား ဆိုဖွယ်ရာရှိမည်မဟုတ်၊ လွန်စွာအကျိုး များလေ၏။[၁]

ဤဖော်ပြပါ အကျိုးတရားများသည် ဘုရားဟောပါဠိတော်တို့၌လာသော လက်ရင်းကျကျ အကျိုးတရားများပင် ဖြစ်ပါသည်။ ဤအကျိုး တရားများကို ပြီးပြည့်စုံပြီဟူ၍ မယူဆသင့်ပါ။ အဘယ့်ကြောင့်ဆိုသော် မဖော်ပြနိုင်သော ပါဠိတော် ,အဋ္ဌကထာ, ဋီကာလာ အကျိုးတရားများ၊ များစွာကျန်နေသေးသောကြောင့်ပင် ဖြစ်ပါသည်။

အထက်ပါအကျိုးတရားများကို အနှစ်ချုပ်ကြည့်လျှင် ခပ်သိမ်းသော မြစ်ကြီးငါးသွယ် မြစ်ငယ်ငါးရာတို့သည် တစ်ခုတည်းသော မဟာသမုဒ္ဒရာသို့သာ သက်ဝင်ရကုန်သကဲ့သို့ ထို့အတူ ဖော်ပြပါ အကျိုးတရားအားလုံးတို့သည်လည်း မဂ်, ဖိုလ်, နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ခြင်းဟူသော တစ်ခုတည်းသော ဝိမုတ္တိရသအကျိုး၌သာ သက်ဝင်သည်ကို တွေ့ရပါသည်။

ထို့ကြောင့် အရိုးစုကမ္မဋ္ဌာန်းစသည်တို့ကို ပွားများခြင်းဖြင့် ဘုရားစသော အရိယာသူတော်ကောင်းများ ကိန်းအောင်းစံပျော်ရာ၊ သံသရာဝဋ်ဒုက္ခအမျိုးမျိုးတို့မှ အပြီးတိုင်လွတ်မြောက်ရာ နိဗ္ဗာန်ကို

၁။ အံ ၊ ၁ ၊ ၄၁။

မုချမျက်မှောက်ပြုနိုင်၏ဟူ၍ မှတ်ယူသင့်ပါသည်။

ယင်းသို့ အရိုးစုကမ္မဋ္ဌာန်းစသည့် ကာယာနုပဿနာ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းများ ပွားများအားထုတ်ခြင်းကြောင့် နိဗ္ဗာန်ကို မျက်မှောက်ပြုသွားသော ဝတ္ထုသာဓကပေါင်း များစွာရှိ၏။

ထို့ကြောင့် ကျမ်းဂန်တို့၌ -

"ဣမံ ကမ္မဋ္ဌာနံ ဘာဝေတွာ အရဟတ္တံ ပတ္တာနံ ဘိက္ခူနံ ဝါ ဘိက္ခုနီနံ ဝါ ဥပါသကာနံ ဝါ ဥပါသိကာနံ ဝါ ဂဏာန ပရိစ္ဆေဒေါနာမ နတ္ထိ။" [၁] ဟူ၍ မိန့်ဆိုထားပါသည်။

အဓိပ္ပါယ်မှာ "ဤကာယာနုပဿနာ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို ပွားများ၍ အရဟတ္တဖိုလ်သို့ ရောက်ကြကုန်သော ရဟန်းယောကျ်ား၊ ရဟန်းမ၊ ဥပါသကာယောကျ်ား၊ ဥပါသိကာမတို့၏ အရေ အတွက်ကို မရေတွက်နိုင်။ ဂဏန်းအပိုင်းအခြားမရှိ များပြား၏" ဟုဆိုလိုသည်။

သို့ဖြစ်၍ ဤမျှအကျိုးစီးပွား များပြားကြီးကျယ်သော ကာယနုပဿနာ သတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို မမေ့မလျော့ လွန်စွာအား ထုတ်သင့်ကြောင်းကို ဝိသုဒ္ဓိမဂ်အဋ္ဌကထာ၌ -

"တသ္မာ ဟဝေ အပ္ပမတ္တော၊ အနုယုဉ္ဇေထ ပဏ္ဍိတော။
ဧဝံ အနေကာနိသံသံ၊ ဣမံ ကာယဂတာသတိ။

တသ္မာ - ထိုသို့ပြဆိုပြီးသည့်အတိုင်း အကျိုးစီးပွားများပြား ကြီးကျယ်သောကြောင့်၊ ဧဝံ-အနေကာနိသံသံ-သို့စင်ဖွံ့ဖြိုး များသော အကျိုးအာနိသင်ရှိသော၊ ဣမံ ကာယဂတာသတိံ - ဤကာယ ဂတာသတိပဋ္ဌာန် ကမ္မဋ္ဌာန်းကို၊ ပဏ္ဍိတော - ကြောင်းကျိုး မြင်သိ

---

၁။ ပဋိပတ္တိပကာသနီကျမ်း ၊ ၂၅၉။

ပညာရှိသည်၊ အပ္ပမတ္တော - မမေ့မလျော့ မပေါ့ဆဘဲ၊ ဟာပေ - စင်စစ်၊ အနုယုဥ္စထ - ကြိုးကြိုးစားစား အဖန်ဖန်ပွားများ၍ အားထုတ် ကြကုန် ရာသတည်း”[၁] ဟူ၍ တိုက်တွန်းနိုးဆော်ထားသည်ကို တွေ့ရပါသည်။

နိဂုံး

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် ခြေရိုး ၆၄-ချောင်း သရုပ်ကို မူရင်းအဋ္ဌကထာ ဋီကာများတွင် တစ်ကျမ်းတည်း တစ်နေရာတည်း၌ အသေးစိတ် ပြည့်ပြည့်စုံစုံ ဖော်ပြထားခြင်း မရှိသော်လည်း ကျမ်းဂန်များအချင်းချင်း ညှိနှိုင်းဖော်ထုတ်ပြီး ရေတွက်လျှင်ကား လိုအပ်သော ခြေရိုး၆၄-ချောင်း၏ အသေးစိတ်သရုပ်အဖြေကို အလွယ်တကူရရှိနိုင်ပေသည်။ ထို့ကြောင့် ခြေရိုး ၆၄-ချောင်း အခေါ်အဝေါ်သည် အပေါင်းသင်္ချာသာရှိ၏။ အသေးစိတ်ရေတွက်ပုံ သချေ်ာယျမရှိ ဟူ၍ မမှတ်ယူသင့်ပါ။ ခြေရိုး ၆၄-ချောင်းအပေါင်းသင်္ချာ၏ အသေးစိတ်ရေတွက်ပုံရှိ၏ဟူ၍သာ မှတ်ယူသင့်ပါသည်။ သို့မှသာ ပုစ္ဆကအာဘော်ကျပြီး ပြဿနာပြေလည်ပေမည်။ ထို့ပြင် အရိုးသုံးရာဟုဆိုသော်လည်း အသေးစိတ်သေချာစွာ ရေတွက်ကြည့်သောအခါ သုံးရာမပြည့်ဘဲ အနည်းငယ်လိုနေသည်ကို တွေ့ရ၏။ ဤသို့ဖြစ်ရခြင်းမှာ အရိုးသုံးရာပြည့်သည်,မပြည့်သည်မှာ ပဓာနမဟုတ်၊ သတ္တဝါများတရားအားထုတ်နိုင်ပြီး တရားရရှိရေးအတွက်သာ ပဓာနထားပြီး ဟောတော်မူထားသောကြောင့်ပင်ဖြစ်ကြောင်းသိရ၏။

သို့ဖြစ်၍ အရာရာမှာ တိကျရမည်ဟု တစ်ထစ်ချမမှတ်ယူသင့်၊ သာမညအချက်နှင့် အဓိက အချက်ကိုလည်း ထည့်သွင်းစဉ်းစား

---

၁။ ဝိသုဒ္ဓိမဂ် ၊ ဋ ၊ ၁ ၊ ၂၅၈။

နားလည်သင့်သည်ဟူသော ဥပဒေသကိုလည်း ကောင်း၊ ကမ္မဋ္ဌာန်း အားထုတ်ရာ၌ စရိုက်နှင့်မကိုက် ညီလျှင် အကျိုးမဲ့ ဖြစ်တတ်၏။ မိမိစရိုက်နှင့်ကိုက်ညီမှသာလျှင် လိုအပ်သော မဂ် ဖိုလ် နိဗ္ဗာန်အကျိုး ပြီးစီးနိုင်၏။ ထို့ကြောင့် မည်သူမဆို မိမိစရိုက်နှင့်ကိုက်ညီသော ကမ္မဋ္ဌာန်းကို အားထုတ်သင့်သည် ဟူသော ဥပဒေသကိုလည်းကောင်း၊ ကမ္မဋ္ဌာန်း အားထုတ်သွားသော ရှေးသူတော်ကောင်းတို့သည် စိတ်ဆင်းရဲမှု အမျိုးမျိုး၊ စိတ်ညစ်မှု အမျိုးမျိုး၊ ကင်းပျောက်ပြီး စိတ်ချမ်းသာမှုသုခ, စိတ်တည်ကြည်မှုသမာဓိ ယထာဘူတဉာဏ်, နိဗ္ဗိဒါဉာဏ် စသော နိဗ္ဗာန်တိုင်အောင်သော များပြားကြီးကျယ်သည့် အကျိုးတရားများ ရရှိသွားကြ၏။ သို့ဖြစ်၍ စိတ်ဆင်းရဲခြင်း၊ စိတ်ညစ်ခြင်း စသော သံသရာ ဝဋ်ဒုက္ခအမျိုးမျိုးမှ လွတ်ကင်းလိုသူတိုင်း စိတ်ချမ်း သာမှု အမျိုးမျိုးမှ စ၍ နိဗ္ဗာန်တိုင် အောင်သော များပြားကြီးကျယ်သည့် အကျိုးတရားများကို ရလိုသူတိုင်း ကာယဂတာသတိပဋ္ဌာန်ကမ္မဋ္ဌာန်းကို ပွားများရမည်ဟူသော ဥပဒေသကိုလည်းကောင်း ဖော်ပြနေကြောင်း တင်ပြအပ်ပါသည်။



# အခန်း (၃)

## ကျွမ်းထွက်လျှာစုံ၊ ကာမဘုံ၊ ငါးတုံဘယ်ကြောင့် ချို့သနည်း။ (၂၆၉)

### မူရင်းအဖြေ

"ကျွမ်းထွက်လျှာစုံ၊ ကာမဘုံ၊ ငါးတုံဘယ့်ကြောင့်ချို့သနည်း"ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား . .

အရသာကို ခံစားတတ်သော ဇိဝှါဝိညာဏ်ရှိသော ကာမဘုံသား သတ္တဝါမျိုးဖြစ်လျက် ဇိဝှါပသာဒ ဇိဝှါရုပ်အစုံတို့သည် ငါး၌ ဘယ့်ကြောင့် ချို့လေသနည်းဟု မေးလိုသည်။

စက္ခု၏ချို့ခြင်း၊ သောတ၏ချို့ခြင်း၊ ဃာန၏ချို့ခြင်း၊ ဇိဝှါ၏ချို့ခြင်းတို့သည် ရှေးမိမိပြုသော မကောင်းမှုကံကြောင့်ဖြစ်သည်ဟု သုတ် အဘိဓမ္မာအဋ္ဌကထာတို့၌လာသောကြောင့် ငါး, မိကျောင်း သတ္တဝါတို့၌ ဇိဝှါ၏ချို့ခြင်းသည်လည်း ရှေးကဇိဝှါမရထိုက်အောင် ပြုခဲ့ဖူးသော မကောင်းမှုကံကြောင့်ဖြစ်သည်ဟု မှတ်အပ်၏။

မကောင်းမှုကံကြောင့်ချို့လျှင် တစ်ဦးနှစ်ဦးသော သတ္တဝါ၌ သော်လည်းကောင်း၊ အချို့အချို့သော သတ္တဝါတို့၌သော်လည်း

ကောင်း ချို့ရာ၏။ အလုံးစုံသော ငါး, မိကျောင်းတို့ မချို့သင့်တကား ဟူငြားအံ့၊ အကြောင်းဖြစ်သော ဒုစရိုက်ကံပင်မတူငြားသော်လည်း အကျိုးခံတူထိုက်သော ဂတိဖြစ်၍ အလုံးစုံချို့သင့်၏ဟူပေ။

**ပြဿနာဖြစ်ရသည့်အချက်**

အထက်ပါ အဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်း၌ လာသော အဖြေဖြစ်ပါသည်။ ကြည့်ကန်ရှင်ကြီး ရှင်နန္ဒမေဓသည် သူ၏ သတ်ပုံသံပေါက်လင်္ကာ၌ပါရှိသော "ကျမ်းထွက်လျှာစုံ"ဟူသော စကားကို ထောက်လျှင် ကျမ်းဂန်တို့၌ ကာမဘုံသားသတ္တဝါများ ဇိဝှါ မချို့ကောင်း၊ ဇိဝှါပသာဒအစုံရှိ၏ဟူသော အဆိုကိုသိမြင်သူဖြစ်ကြောင်း တွေ့ရ၏။ သို့သော် ငါး၌ အခြားသတ္တဝါများကဲ့သို့ လှုပ်ရှားနိုင်သော လျှာမျိုးကိုကား သူမတွေ့ရပေ။ ဤသို့ငါး၌ လှုပ်ရှားနိုင်သောလျှာမျိုး မရှိရခြင်းမှာ ဇိဝှါချို့သောကြောင့်ပင် ဖြစ်ပေလိမ့်မည်ဟု ကြံမှားပြီး "ကျမ်းထွက်လျှာစုံ၊ ကာမဘုံ၊ ငါးတုံဘယ့်ကြောင့် ချို့သနည်း"ဟု အမေးပုစ္ဆာပြုလုပ်ထားခဲ့ဟန် ရှိပါသည်။

ကျီးသဲလေးထပ်ဆရာတော်ကလည်း ၎င်းမေးခွန်းကို မှားသည်ဟုမထင်၊ အမှန်ဟုမြင်ပြီး မေးခွန်းအာဘော်အတိုင်း လိုက်၍ မကောင်းမှုကံကြောင့် ဇိဝှါချို့ရကြောင်း ဖြေဆိုခဲ့၏။ သို့ဖြစ်၍ ၎င်းအဖြေသည်လည်း အမှန်မဟုတ်၊ အမှားပင် ဖြစ်ရချေ၏။

ယင်းအဖြေ၌ ပြဿနာဖြစ်ရသည့်အဓိကအချက်မှာ ကာမဘုံသား သတ္တဝါမျိုးဖြစ်သည့် ငါးနှင့်မိကျောင်းတို့၌ ဇိဝှါပသာဒချို့ကောင်းသည်ဟူသော အချက်ပင် ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

အမှန်စင်စစ် ကာမဘုံသားဖြစ်သည့်သတ္တဝါမှန်လျှင် မည်သည့်သတ္တဝါမှ ဇိဝှါပသာဒမချို့ကောင်းပေ။ ထိုသို့ မချို့ကောင်းကြောင်းကို ကျမ်းဂန်တို့၌ ဖော်ပြထားသည်မှာ အများအပြားပင်ရှိ၏။ ၎င်းတို့ထဲမှ အချို့ကို ထုတ်နှုတ်ရေးသား ပြဆိုရလျှင်

အဘိဓမ္မတ္ထသင်္ဂဟပါဠိ၌ -

"တာနိ ကာမလောကေ သဗ္ဗာနိပိ လဗ္ဘန္တိ။"[၁]

ဟူ၍ မိန့်ဆိုထားပါသည်။

အဓိပ္ပါယ်မှာ - ကာမဘုံ၌ စက္ခု၊ သောတ၊ ဃာန၊ ဇိဝှါ၊ ကာယ၊ ဟဒယဟူသော အလုံးစုံသော ဝတ္ထုရုပ်တို့ကို ရအပ်ကုန်၏-ဟုဆိုလိုပါသည်

၎င်းအဖွင့်ဋီကာ၌ -

"တာနိ ကာမလောကေ သဗ္ဗာနိပိ လဗ္ဘန္တိ ပရိပုဏ္ဏိန္ဒြိယဿ တဿေဝ ဥပလဗ္ဘနတော"[၂]

ဟူ၍ ဖွင့်ဆိုပါသည်။

အဓိပ္ပါယ်မှာ - ကာမဘုံ၌ ပြည့်စုံသောဣန္ဒြေရှိသော ပုဂ္ဂိုလ်ကို ရအပ်သောကြောင့် ကာမဘုံ၌ ဝတ္ထုရုပ် (၆)ပါးလုံးကို ရအပ်၏ဟု ဆိုလိုပါသည်။

ဤသာဓကများတွင် "သဗ္ဗာနိပိ"၌ ပိသဒ္ဒါဖြင့်ပြဆိုအပ်သော အဓိပ္ပါယ်မှာ - "ပိသဒ္ဒေန ပန အန္ဓဗဓိရာဒိဝသေန ကေသဉ္စိ အသမ္ဘဝံ ဒီပေတိ။" ဟူ၍ ဋီကာဆရာပြဆိုပါသည်။

---

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ ၊ ၅၂။ ၂။ ဋီကာကျော် ၊ ၁၃၅။

**အဓိပ္ပါယ်မှာ - ထိုပိသဒ္ဒါဖြင့် စက္ခုဒ္ဒြေချို့ခြင်းစသည်တို့၏** အစွမ်းအားဖြင့် ကာမဘုံ၌ အချို့သော စက္ခု၊ သောတ၊ ဃာနတို့၏ မဖြစ်ခြင်းကို အနုရုဒ္ဓါဆရာ သိစေသည်-ဟု ဆိုလိုပါသည်။

ထိုနည်းတူ အဘိဓမ္မတ္ထဒီပကကျမ်း၌ -

"ထိုဝတ္ထုရုပ် (၆)ပါးလုံးကို ကာမ၁၁-ဘုံ၌သာ ရထိုက်၏ဟု ဆိုသော်လည်း ပြည့်စုံသော ဣန္ဒြေရှိသော ပုဂ္ဂိုလ်အားသာ ၆-ပါးလုံး ရအပ်၏။ စက္ခု၊ သောတ၊ ဃာနသုံးပါးတို့တွင် တစ်ပါးပါးချို့သော ပုဂ္ဂိုလ်အား (၅)ပါး ရအပ်၏။ စက္ခု သောတ၊ စက္ခု ဃာန၊ သောတ ဃာန ဤသို့ (၂)ပါး (၂)ပါးစီ ချို့သောပုဂ္ဂိုလ်တို့အား (၄)ပါးရအပ်၏။ စက္ခု၊ သောတ၊ ဃာန သုံးပါးလုံးချို့သော ပုဂ္ဂိုလ်အား (၃)ပါးရအပ် ၏။ ဤသို့ အလုံးစုံ ၆-ဝါးလုံးကိုသာ ရအပ်သည်မဟုတ်၊ (၅)ပါးလည်း ရအပ်၏။ (၄)ပါးလည်း ရအပ်၏။ (၃)ပါးလည်း ရအပ်၏ဟု "သဗ္ဗာနိပိ လဗ္ဘန္တိ"ဟူသော သဂြိုဟ်ပါဌ်၌ ပိသဒ္ဒါဖြင့် သိလေမှတ်လေ" [၁] ဟူ၍ မိန့်ဆိုထားပါသည်။

ဤသာဓကများအရ စက္ခု,သောတ, ဃာနချို့ကြောင်းကို သာတွေ့ရ၏။ ဇိဝှါချို့ကြောင်းကို မတွေ့ရပေ။ သို့ဖြစ်၍ ကာမဘုံသား သတ္တဝါတို့အား ဇိဝှါပသာဒခေါ် ဇိဝှါဝတ္ထုရုပ် မချို့နိုင်ကြောင်း မှာ ထင်ရှားပါသည်။

ထို့ပြင် ပရမတ္ထသရူပဘေဒနီကျမ်း၌လည်း -

"စက္ခုသောတဃာနဇိဝှါ ပသာဒရုပ်လေးခုတို့သည် ကော
ဒသမသတ္တာဟ၌ တစ်ပြိုင်နက် ဖြစ်ကုန်၏။ ထိုတွင် စက္ခု,

---

၁။ အဘိဓမ္မတ္ထဒီပကကျမ်း ၊ ၁ ၊ ၁၈၃။

သောတ, ယာနသုံးပါးတို့သည် မိမိတို့ ဖြစ်ထိုက်ရာ ဧကာ ဒသမသတ္တာဟ၌ မဖြစ်လျှင် ပဋိသန္ဓေအခါ၌ပင် ချို့သည် မည်ရကား ဇစ္စန္ဓ၊ ဇစ္စဗဓိရ၊ ဇစ္စယာနကဟူ၍ပင် ဆိုရ သည်။"

ဤအရာဝယ် ကဗျာအချုပ်ကား -

"စက္ခု သောတ၊ ယာနဘာဝါ၊ ချို့ကောင်းရာကား၊ နှစ်ဖြာ ဂဗ္ဘ၊ သံသေဒမှတ်၊ ဥပပတ်မှာ၊ ပါယ်၌သာလျှင်၊ စက္ခု သောတ၊ ဘာဝချို့ဘိ၊ သုဂတိကား၊ ကပ်ဦးသား ချို့ငြား ဘောတစ်ခု။"

ဤဆိုပြီးသည်ကို ရည်၍ -

"ကာမဓာတုယာ ဥပပတ္တိက္ခဏေ ကဿစိ ဧကာဒသာယ တနာနိ ပါတုဘဝန္တိ၊ ကဿစိ ဒသာယတနာနိ ပါတုဘဝန္တိ ကဿစိ အပရာနိပိ ဒသာယတနာနိ ပါတုဘဝန္တိ၊ ကဿစိ နဝါယတနာနိ ပါတုဘဝန္တိ၊ ကဿစိ သတ္တာယ တနာနိ ပါတုဘဝန္တိ" [၁]

ဟူ၍ ဝိဘင်းပါဠိတော်၌ ဟောတော်မူအပ်၏။

ဂဗ္ဘသေယျက၌ ဩဝါ့ယတနမချို့ကောင်း -

ဤ၌ "သတ္တ"ဟု လာသောကြောင့် ဩဝါ့ယတနချို့ကောင်း သည်ဟု မှတ်ထင်တတ်၏။ ဂဗ္ဘသေယျက သတ္တဝါအား ပဋိသန္ဓေ ဥပါဒ်၌ရသော အာယတနကိုသာ ယူ၍ "သတ္တ" ဟုဟောတော်မူသည်။ နောက်ပဝတ္တိအခါ၌ ရထိုက်သမျှ

၁။ ဝိဘင်း ၊ ၄၂၆ - ၄၂၇။

ကို မပဟော ဇိဝှါယတနချို့သည်ဟု မရှိမှတ်လေ။ [၁]
ဟူ၍ ဝိဘင်းပါဠိတော်ကို ထောက်ထားပြီး ကာမဘုံသားဖြစ်သည့် ဂဗ္ဘသေယျကသတ္တဝါမျိုးတို့သည် စက္ခု , သောတ , ဃာန၃-ခုသာ ချို့ကောင်း၏။ ဇိဝှါယတနမချို့ကောင်းကြောင်း ဖွင့်ဆိုရေးသားထား သည်ကို တွေ့ရပါသည်။

ထို့ကြောင့် ကာမဘုံသားဖြစ်သည့် သတ္တဝါမှန်လျှင် မည် သည့်သတ္တဝါမှ ဇိဝှါပသာဒမချို့ကောင်းဟူ၍သာ တထစ်ချမှတ်ယူ သင့်ပါသည်။

### ဆရာမြတ်တို့ အဆုံးအဖြတ်

ယင်းသို့ ဇိဝှါပသာဒမချို့ကောင်းကြောင်းကို ကျမ်းပြုဆရာ မြတ်တို့သည် ကျမ်းဂန်အဆူဆူတို့၌ ပါဠိတော်,အဋ္ဌကထာ,ဋီကာများ ကို ကိုးကားပြီး ဆုံးဖြတ်တော်မူခဲ့ကြသည်ကိုလည်း တွေ့ရှိရပါသည်။ ဤ၌ လက်လှမ်းမှီသမျှ ဖော်ပြရလျှင် -

အရှင်သာသနသီရိဆရာမြတ်သည် သူ၏ အဘိဓမ္မတ္ထသင်္ဂဟ မြင်ကွင်းကျမ်းစာယ်၌ -

**မိကျောင်းမှာ လျှာမရှိဆိုသောစကား အမှား**

“ကာမဘုံ၌ ဝတ္ထုရုပ် ၆-ပါးလုံးကို ရသောကြောင့် မိကျောင်း ၏ သန္တာန်၌ (ဇိဝှါပသာဒ)လျှာမရှိဟူသော စကားသည် များ၏။

ပါဠိသာခက။ ။တာနိ ကာမလောကေ သဗ္ဗာနိပိ လဗ္ဘန္တိ၊

---

၁။ ပရမတ္ထသရူပဘေဒနီ ၊ ၁ ၊ ၂၂၆ - ၂၂၈။

**မှတ်ဖွယ်** ။ ။ကာမဘုံသားမှန်လျှင် ဇိဝှါပသာဒမချို့ ကောင်းရကား မိကျောင်း၏ပါးစပ်ထဲ ၌ လျှာပုံသဏ္ဌာန်ကို မတွေ့ရသော်လည်း လျှာကဲ့သို့ရသာရုံကို ခံစားသည့် ဇိဝှါပသာဒကား မုချရှိရမည်။"[၁] ဟူ၍ကာမဘုံသားမှန်လျှင် ဇိဝှါပသာဒမချို့ ကောင်းကြောင်း ဆုံးဖြတ်ထားသည်ကို တွေ့ရပါသည်။

ထိုနည်းတူ အရှင်သုဇနာလင်္ကာရ မစိုးရိမ်ဆရာမြတ်ကလည်း သူ၏မစိုးရိမ်ဋီကာကျော်အဖြေကျမ်းစာအုပ်တွင် "ကာမဘုံ၌ ရနိုင်သော ဝတ္ထုရုပ်များကို ပုဂ္ဂိုလ်အားဖြင့် အသီးသီးခွဲခြားဝေဖန်ပြပါ"ဟူသောအမေးကို ဖြေဆိုရာ၌ -

> "ဣန္ဒြေပြည့်စုံသော ပုဂ္ဂိုလ်အား ဝတ္ထုရုပ် ၆-ပါးလုံးရပါသည်။ စက္ခု၊ သောတ၊ ဃာနသုံးပါးတို့တွင် တစ်ပါးပါးချို့သော ပုဂ္ဂိုလ်အား ဝတ္ထုရုပ် ၅-ပါးရပါသည်။ စက္ခု ၊ သောတ၊ စက္ခု, ဃာန၊ သောတ, ဃာန ၂-ပါးစုတို့တွင် ၂-ပါးတစ်စုချို့သောသူအား ဝတ္ထုရုပ် ၄-ပါး ရပါသည်။ စက္ခု, သောတ, ဃာနချို့သောသူအား ဝတ္ထု ရုပ်၃-ပါး ရပါသည်။ (အကုံရ)

(ဤကိုထောက်၍ ကာမဘုံ၌ ဝတ္ထုရုပ်အများဆုံး ၆-ပါး၊ အနည်းဆုံးအားဖြင့် ဇိဝှါ၊ ကာယ၊ ဟဒယ ၃-ပါးသာ ရနိုင်သည်ကိုလည်းကောင်း၊ ကာမဘုံ၌ ဇိဝှါချို့သူမရှိသောကြောင့် မိကျောင်းမှာ လျှာမရှိဟု ပြောကြစေကာမူ လျှာရှိသည်ဖြစ်စေ၊

---

၁။ အဘိဓမ္မတ္ထသင်္ဂဟမြင်ကွင်း ၊ ၃၇။

မရှိသည်ဖြစ်စေ အရသာကို သိနိုင်သော ပသာဒကား ရှိသည်ဟု မှတ်လေ)[၁]

ဟူ၍ အကုံရဋီကာကို သာဓကပြုပြီး ကာမဘုံသား သတ္တဝါများ ဇိဝှါ ပသာဒမချို့နိုင်ကြောင်း ဖော်ပြထားပါသည်။

သို့ဖြစ်၍ ဖော်ပြပါဆုံးဖြတ်ချက်များကို ထောက်ဆ၍ ကာမဘုံသားဖြစ်သည့် ငါးသတ္တဝါ၌လည်း မိကျောင်းသတ္တဝါကဲ့သို့ပင် လျှာ သဏ္ဌာန် ထင်ရှားရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ ဇိဝှါပသာဒမချို့ ကောင်းသောကြောင့် အရသာကို ခံစားနိုင်သော ဇိဝှါပသာဒ(လျှာအကြည်)ကား ရှိသည်ဟူ၍ပင် ဆိုရပေမည်။ သို့မှသာ ကျမ်းဂန်တို့နှင့် ညီညွတ်သော အဖြေဖြစ်ပေမည်။

## မိကျောင်းနှင့်ငါးသတ္တဝါတို့၌ လျှာရှိပုံ

ဤလောက၌ သတ္တဝါတို့၏ဖြစ်ကြပုံမှာ ဆန်းကြယ်လှ၏။ တစ်ချို့ပသာဒမရှိသော်လည်း ပုံသဏ္ဌာန်ထင်ရှားရှိသော သတ္တဝါများ ရှိ၏။ တစ်ချို့အခြားသတ္တဝါတို့နည်းတူ ပုံသဏ္ဌာန်ထင်ရှားမရှိသော်လည်း ပသာဒရှိနေသော သတ္တဝါများရှိကြပေသည်။

မှန်ပါသည်။ တစ်ချို့မျက်စိထင်ရှားရှိလျက် ကြောင်တောင်ကန်းဖြစ်နေတတ်၏။ တစ်ချို့နားသဏ္ဌာန်ထင်ရှားရှိလျက် နားပင်းနေတတ်၏။ ထိုနည်းတူ "ရူပလောကေ ပန ဃာနာဒိတ္တယံ နတ္ထိ"ဟူသောအဆိုအရ ရူပဗြဟ္မာကြီးတို့သည် ဃာန၊ ဇိဝှါ၊ ကာယဟူသော ပသာဒရုပ် ၃-ခုအပေါင်းမရှိကြသော်လည်း နှာခေါင်း၊ လျှာ၊ ကိုယ် ပုံသဏ္ဌာန်တို့ကား ထင်ရှားရှိနေကြ၏။

---

၁။ မစိုးရိမ်ဋီကာကျော်အဖြေ ၊ ၃၁၇။

ထိုအကြောင်းကို ဇိနာလင်္ကာရ ဋီကာ၌ "ယာနံ အတ္ထိ ယာန ပသာဒေါ စ ယာနဝိညာဏဥ္စ နတ္ထိ။ တသ္မာ ဂန္ဓံ န ဇာနန္တိ" စသည့် ဖွင့်ဆိုချက်အရ အသည်သတ်မှတစ်ပါးသော ရူပဗြဟ္မာများသည် နှာခေါင်း၊ လျှာ၊ ကိုယ်ပုံသဏ္ဌာန်တို့ ထင်ရှားရှိနေကြသော်လည်း ယာနပသာဒ၊ ဇိဝှါပသာဒ၊ ကာယပသာဒရုပ်များ မရှိကြောင်းကို သိရ၏။ ထို့ကြောင့် ၎င်းသတ္တဝါတို့သည် ပသာဒမရှိသော်လည်း ပုံသဏ္ဌာန်ထင်ရှားရှိသော သတ္တဝါများ ဖြစ်ကြသည်ဟုဆိုလျှင် မှားအံ့မထင်ပါ။

မိကျောင်းနှင့်ငါးသတ္တဝါမျိုးတို့သည် အခြားသတ္တဝါများကဲ့ သို့ လှုပ်ရှားနိုင်သောလျှာပုံသဏ္ဌာန်မျိုးမရှိ၍ ဇိဝှါပုံသဏ္ဌာန်မရှိဟု ယူဆလျှင်ကား ၎င်းတို့ကို ပုံသဏ္ဌာန်ထင်ရှားမရှိဘဲ ပသာဒရှိနေ သော သတ္တဝါများဖြစ်သည်ဟု ဆိုရပေမည်။

သို့သော် လောကီကျမ်းများတွင် မိကျောင်းနှင့်ငါးသတ္တဝါ တို့၌ လျှာရှိကြောင်းဖော်ပြထားသည်ကို တွေ့ရ၏။ ၎င်းတို့ကို ဖော် ပြရလျှင် - မြန်မာ့စွယ်စုံကျမ်း အတွဲ ၉-၌ . . .

> "မိကျောင်း၏လျှာသည် အခြားတိရစ္ဆာန်များ၏ လျှာများကဲ့ သို့ အပြင်သို့ မထုတ်နိုင်။ လှုပ်ရှားမှုလည်း မပြုနိုင်ဘဲ ၊ ပါးစပ်အောက်ခြေတွင် အသေကပ်လျက်ရှိသည်။" [၁]

ဟူ၍လည်းကောင်း၊

မြန်မာ့စွယ်စုံကျမ်း အတွဲ ၃-၌ . . .

"ငါးများတွင် အမြင့်တန်းစား သတ္တဝါများကဲ့သို့ မျက်နှာ

---

၁။ စွယ်စုံကျမ်း ၊ အတွဲ - ၉ ၊ ၂၅။

ပါးစပ် နှာခေါင်း မျက်စိစသည်တို့ပါရှိကြသည်။ ပ ။ ငါး၌
အခြားတိရစ္ဆာန်များကဲ့သို့ လှုပ်ရှားနိုင်သော လျှာမျိုးမရှိ။
လျှာသည်ထူ၍ ကြမ်းတမ်း၏။ "[၁]

ဟူ၍လည်းကောင်း မိကျောင်းနှင့်ငါးသတ္တဝါမျိုးတို့၌ လျှာရှိကြောင်း ဖော်ပြထားပေသည်။

ထို့ပြင် ကျမ်းပြုသူသည် ဤစာမူကို ကျမ်းကြီးကြပ်သူ ဆရာကြီး ဦးစံတင်(တွဲဖက်ဌာနမှူး ၊ ပိဋကတ်ဆိုင်ရာမြန်မာစာပေဌာန)ထံတွင် တင်ပြပြီး ၊ ကျမ်းကြီးကြပ်မှုကို ခံယူစဉ်အခါ ဆရာကြီးသည် ပါဏဗေဒပညာရှင် ဆရာကြီး ဦးမောင်မောင်လင်း (ကထိက၊ ပါဏဗေဒဌာန၊ ရန်ကုန်တက္ကသိုလ်)ထံ ကိုယ်တိုင်သွားပြီး ငါးနှင့်မိကျောင်းသတ္တဝါတို့၌ လျှာရှိ မရှိကို ဆွေးနွေးမေးမြန်းခဲ့ပါသည်။ ယင်းသို့ ဆွေးနွေးရာ၌ ဆရာကြီးဦးမောင်မောင်လင်းက "ငါး၌လုံးလုံးလျှာမရှိဘူးဆိုသည်မှာ မဟုတ်ပါ။ ငါး၌ လျှာရှိပါသည်။ သို့သော် တိုနေ၏။ မိကျောင်းလျှာမှာလည်း ငါးနည်းတူပင်ဖြစ်ကြောင်း ဆွေးနွေးတင်ပြသွားသည်"ဟု သိရပါသည်။

သို့ဖြစ်၍ ဤဖော်ပြပါ လောကီကျမ်းများနှင့် ပါဏဗေဒပညာရှင်တို့၏ မိန့်ဆိုချက်များအရလည်း မိကျောင်းနှင့် ငါးသတ္တဝါတို့တွင် လျှာရှိကြောင်း၊ အရသာကို ခံစားနိုင်သော ဇိဝှါပသာဒရှိကြောင်း ထင်ရှားပါသည်။

---

၁။ စွယ်စုံကျမ်း ၊ အတွဲ - ၃ ၊ ၂၂၇။

## နိဂုံး

ဤဆိုပြီးသော စကားအစဉ်ဖြင့် အဖြေဆရာတော်၏ ဖြေဆိုချက်ဖြစ်သည့် "မကောင်းမှုကံကြောင့် မိကျောင်းနှင့်ငါးသတ္တဝါတို့တွင် ဇိဝှါချို့ခြင်း ဖြစ်သည်"ဟူသော အဖြေသည် ယုတ္တိမရှိသော အဖြေ ဖြစ်ကြောင်း ထင်ရှားပါသည်။ ဤသို့ယုတ္တိမရှိသော အဖြေဖြစ်ရခြင်းမှာ "မိကျောင်းလျှာမရှိ" "ငါးလျှာမရှိ"ဟူသော ရှေးဆိုရိုးစကားအမှားကို အမှန်ထင်၍ ဖြေဆိုမိသောကြောင့်ပင် ဖြစ်ပါသည်။ အမှန်စင်စစ် ကာမဘုံသား သတ္တဝါမှန်လျှင် မည်သည့်သတ္တဝါမှ ဇိဝှါပသာဒမချို့ကောင်းသောကြောင့် မိကျောင်းနှင့် ငါးသတ္တဝါတို့၌ ဇိဝှါပသာဒရှိ၏။ လျှာရှိ၏ဟူ၍သာ မှတ်ယူသင့်ပါသည်။ ထို့ပြင် ဆိုရိုးစကားရှိတိုင်းလည်း မှန်သည်ဟု အလွယ်တကူမယုံကြည်သင့်ပေ။ အရာရာ၌ ဖြစ်နိုင်သည် မဖြစ်နိုင်သည်ကို ကိုယ်ပိုင်ဉာဏ်ဖြင့် လေ့လာစီစစ်ဝေဖန် ပိုင်းခြားပြီးမှ ယုံကြည်သင့်ကြောင်း ဖော်ပြအပ်ပါသည်။ ။



## အခန်း (၄)

### ပြစ်မှားသူ့အိမ်၊ မငြိမ်ဆိမ်၊ ဖျင်းသိမ်ဘယ်အာရုံတို့နည်း။ (၃၂၀)

### နွယ်စုံကျော်ထင်ကျမ်းလာ မူရင်းအဖြေ

"ပြစ်မှားသူ့အိမ်၊ မငြိမ်ဆိမ်၊ ဖျင်းသိမ်ဘယ်အာရုံတို့နည်း" ဟူသောအမေးပုစ္ဆာ၌ မေးလိုရင်းကား - ကိုယ်နှုတ်နှလုံး မငြိမ်ဆိမ်၍ သူ၏အိမ်သူကို ပြစ်မှားခြင်းသည် အာရုံခြောက်ပါးတွင် ဘယ်အာရုံ နည်းဟု မေးလိုသည်။ သူ့အိမ်ဟူသည်မှာ သူ၏အိမ်သူဟု ဆိုသင့် လျက် ဝါစာသိလိဋ္ဌဖြစ်စေလို၍ သူသဒ္ဒါကိုချေလျက် "သူ့အိမ်"ဟု စပ်သည်။

အဖြေကား "မိစ္ဆာစာရော ဖောဋ္ဌဗ္ဗာရမ္မဏာဝသေန သဠါရာ ရမ္မဏော"ဟူ၍ ခုဒ္ဒကပါဌအဋ္ဌကထာမိန့်သောကြောင့် ဖောဋ္ဌဗ္ဗာရုံကို သာယာသည်၏အစွမ်းဖြင့် သဠါရတရားလျှင်အာရုံရှိ၏ဟူပေ။ ဤအဋ္ဌကထာကား ကမ္မပထကိုပဓာနပြု၍သာ ဆိုသည်။

အဆင်းတည်းဟူသော ရူပါရုံ၌ သာယာသဖြင့်တပ်မက်ခြင်း၊ အနံ့ကို သာယာသဖြင့် တပ်မက်ခြင်း ၊ တို့ခြင်းဆိတ်ခြင်း ၊ ကိုယ်ကို သုံးသပ်ခြင်း ၊ နှိုးနှော့ခြင်း ၊ အတွေ့၌သာယာသဖြင့် တပ်မက်ခြင်း၊ ခံစား၍ ပျော်ပါးမွေ့လျော်ခြင်းတို့သည် ဖြစ်ကုန်ရကား အာရုံငါးပါး လုံးဖြစ်၏-ဟု ဆိုဖွယ်ရှိသည်။

## ပြဿနာဖြစ်ရသည့်အချက်များ

အထက်ပါ အဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်း၌လာသော အဖြေဖြစ်ပါသည်။ ယင်းအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်များမှာ - ကာမေသုမိစ္ဆာစာရကံ၏ အာရုံသည် သင်္ခါရအာရုံနှင့် သတ္တဝါအာရုံနှစ်မျိုးရှိလျက် သင်္ခါရအာရုံတစ်မျိုးကိုသာ ဖြေဆိုပြီး သတ္တဝါအာရုံကို ချန်ထားခြင်းသည်လည်းကောင်း၊ ကာမေသုမိစ္ဆာစာရကံ၏ အာရုံမဟုတ်သော ရူပါရုံစသည်တို့ကို ကာမေသုမိစ္ဆာစာရကံ၏ အာရုံအဖြစ်ဖြင့် ထည့်သွင်းဖြေဆိုထားခြင်းသည်လည်းကောင်း ပြဿနာဖြစ်ရသည့်အချက်များ ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်
## မေးလိုရင်း အဓိပ္ပါယ်

"ပြစ်မှားသူ့အိမ်၊ မငြိမ်ဆိမ်၊ ဖျင်းသိမ်ဘယ်အာရုံတို့နည်း" ဟူသော သတ်ပုံသံပေါက်လင်္ကာ၌ "ပြစ်မှား"ဟူသော စကား၏ အဓိပ္ပါယ်မှာ ပြစ်မှား-ဟူသည် ကိုယ်ဖြင့်ကျူးလွန်ပြစ်မှားခြင်း၊ နှုတ်ဖြင့်ကျူးလွန်ပြစ်မှားခြင်း၊ စိတ်ဖြင့်ကျူးလွန်ပြစ်မှားခြင်းဟူ၍ အမျိုးမျိုးရှိ၏။ သို့သော် ဤနေရာ၌ အဓိကအားဖြင့် ကိုယ်ဖြင့်ကျူးလွန်ပြစ်မှားခြင်းကိုသာ ယူရပါမည်။ အဘယ့်ကြောင့်ဆိုသော် "သူ့အိမ်"ဟူသော နောက်စကားကို ထောက်ဆနိုင်သောကြောင့် ဖြစ်ပါသည်။

မှန်ပါသည်။ "သူ့အိမ်"အရ သူတစ်ပါး၏အိမ်သူ၊ သူတစ်ပါး၏ သားမယားကို ကျူးလွန်ပြစ်မှားခြင်းသည် ကာမေသုမိစ္ဆာစာရကံပင် ဖြစ်၏။ ၎င်း ကံသည် ကာယကံ ၃-ပါး၊ ဝစီကံ ၄-ပါး၊ မနောကံ ၃-ပါးတို့တွင် ပါဏာတိပါတ၊ အဒိန္နာဒါန၊ ကာမေသုမိစ္ဆာစာရဟူသော

ကာယကံ ၃-ပါး၌ ပါဝင်နေ၍ ကာယကံဖြစ်သည်မှာ ထင်ရှား ပါသည်။ ထို့ ကြောင့် "ပြစ်မှား"ဟူသည် ကာယကံဖြင့် ပြစ်မှားခြင်း၊ "မငြိမ်ဆိမ်"ဟူ သည်မှာလည်း ကာယကံ၏ မငြိမ်ဆိမ်ခြင်းတို့ပင် ဖြစ်သည်ဟု ဆိုရ ပေမည်။ "ဖျင်းသိမ်"ဟူသည် "ညံ့ဖျင်းသော"ဟု အဓိပ္ပါယ်ရ၏။

သို့ဖြစ်၍ "ပြစ်မှားသူ့အိမ် ၊ မငြိမ်ဆိမ် ၊ ဖျင်းသိမ်ဘယ်အာရုံ တို့နည်း"ဟူသော သတ်ပုံသံပေါက်လင်္ကာ၏ မေးလိုရင်းမှာ ကာယ ကံငြိမ်သက်မှုမရှိဘဲ သူ့အိမ်ရာကို၊ (ဝါ )သူတစ်ပါးသားမယားကို ကိုယ် ဖြင့်ကျူးလွန်ပြစ်မှားရာ၌ ညံ့ဖျင်းသောအာရုံတို့ကား အဘယ်နည်းဟု မေးလိုရင်း ဖြစ်ပါသည်။အဖြေဆရာတော်ဆိုသကဲ့သို့ "အာရုံခြောက် ပါးတွင် ဘယ်အာရုံနည်း"ဟု မေးလိုရင်းမဟုတ်ပါ။ အကုသလ ကမ္မပထတရား (၁၀) ပါး၏အာရုံများတွင် ပါရှိသော ကာမေသု မိစ္ဆာစာရကံ၏ အာရုံကို မေးလိုရင်း ဖြစ်ပါသည်။

အဘယ့်ကြောင့်ဆိုသော် အဋ္ဌသာလိနီ အဋ္ဌကထာစသည် တို့၌ အကုသလကမ္မပထတရား(၁၀)ပါး၏ အာရုံများ ကိုပြဆိုရာတွင် သင်္ခါရအာရုံနှင့် သတ္တဝါအာရုံနှစ်မျိုးကို ကာမေသု မိစ္ဆာစာရကံ၏ အာရုံအဖြစ်ဖြင့် တိုက်ရိုက်ပြဆိုထားသည်ကိုသာတွေ့ရသောကြောင့် ဖြစ်ပါသည်။

**ကာမေသုမိစ္ဆာစာရကံ၏ အာရုံ**

သို့ဖြစ်၍ ကာမေသုမိစ္ဆာစာရကံ၏အာရုံမှာ သင်္ခါရအာရုံနှင့် သတ္တဝါအာရုံနှစ်မျိုးသာ ရှိပါသည်။ ရူပါရုံစသည့်အာရုံငါးပါးတို့ မဟုတ်ဟူ၍ ဖြေဆိုရပေမည်။

ခိုင်မာသည့် သာဓကများကို ထုတ်ပြရလျှင် အဋ္ဌသာလိနီ အဋ္ဌကထာ၌-

"အာရမ္မဏတောပိ ပါဏာတိပါတော ဇီဝိတိန္ဒြိယာရမ္မဏ တော သင်္ခါရာရမ္မဏော ဟောတိ။ အဒိန္နာဒါနံ သတ္တာရမ္မဏံ ဝါ ဟောတိ သင်္ခါရာရမ္မဏံ ဝါ မိစ္ဆာစာရော ဖောဋ္ဌဗ္ဗဝသေန သင်္ခါရာရမ္မဏော ဟောတိ၊ သတ္တာရမ္မ ဏောတိပိ ဧကေ။ မုသာဝါဒေါ သတ္တာရမ္မဏော ဝါ သင်္ခါရာရမ္မဏော ဝါ၊ တထာ ပိသုဏဝါစာ၊ ဖရုသဝါစာ သတ္တာရမ္မဏာဝ၊ သမ္ဖပ္ပလာပေါ ဒိဋ္ဌသုတမုတဝိညာတ ဝသေန သတ္တာရမ္မဏော ဝါ သင်္ခါရာရမ္မဏော ဝါ တထာ အဘိဇ္ဈာ ဗျာပါဒေါ သတ္တာရမ္မဏောဝ မိစ္ဆာဒိဋ္ဌိ တေဘူ မကဓမ္မဝသေန သင်္ခါရာရမ္မဏာဝ။" [၁]

ဟူ၍ မိန့်ဆိုထားပါသည်။

အဓိပ္ပါယ်မှာ - အကုသလကမ္မပထတရား (၁၀)ပါးတို့ကို အာရုံအားဖြင့် ခွဲခြားဖော်ပြရလျှင် ပါဏာတိပါတနှင့်မိစ္ဆာဒိဋ္ဌိတို့သည် သင်္ခါရဟူသော အာရုံရှိ၏။ ဖရုသဝါစာနှင့်ဗျာပါဒတို့သည် သတ္တဝါ ဟူသော အာရုံရှိ၏။ ကာမေသုမိစ္ဆာစာရသည် သင်္ခါရအာရုံနှင့်(အချို့ ဆရာတို့အလို) သတ္တဝါအာရုံဟူ၍ အာရုံနှစ်ခုရှိ၏။ ကြွင်းသော အဒိန္နာ ဒါန၊ မုသာဝါဒ၊ ပိသုဏဝါစာ၊ သမ္ဖပ္ပလာပနှင့် အဘိဇ္ဈာတို့သည် သင်္ခါရ အာရုံနှင့် သတ္တဝါအာရုံဟူ၍ အာရုံနှစ်မျိုးစီရှိကြ၏ဟု ဆိုလိုပါသည်။

---

၁။ အဘိ၊ ဋ္ဌ၊ ၁၊ ၁၄၄။

ထို့ပြင် သမ္မောဟဝိနောဒနီအဋ္ဌကထာ၌လည်း "မိစ္ဆာစာရော ဣတ္ထိပုရိသာရမ္မဏော" [၁] ကာမေသုမိစ္ဆာစာရကံသည် ဣတ္ထိပုရိသဟူသော သတ္တဝါလျှင် အာရုံရှိသည်ဟူ၍ မိန့်ဆိုထားပါသည်။ ဤအဋ္ဌကထာတို့အဆိုအရ ကာမေသုမိစ္ဆာစာရကံ၏ အာရုံသည် သင်္ခါရအာရုံနှင့် မိန်းမယောကျ်ားဟူသော သတ္တဝါအာရုံတို့ဖြစ်ကြောင်း ထင်ရှားပါသည်။

## သင်္ခါရအာရုံနှင့် သတ္တဝါအာရုံတို့ဖြစ်ရာအခါ

ထိုအာရုံနှစ်ခုတွင် သင်္ခါရာရမ္မဏသည် မည်သည့်အခါဖြစ်၍ သတ္တာရမ္မဏသည် မည်သည့်အခါဖြစ်သည်ဟူ၍ ခွဲခြားမှုကို ပါဠိတော် အဋ္ဌကထာတို့၌ မတွေ့ရပေ။ သို့သော် ကျေးဇူးတော်ရှင် အဂ္ဂမဟာပဏ္ဍိတ ပန်းတောင်းဆရာတော်ဘုရားကြီးသည် "နှစ်သက်စဖွယ်တင့်တယ် ပျိုမျစ်လှပချောမောသော ဣတ္ထိပုရိသ၌ လွန်ကျူးသောမိစ္ဆာစာရကံသည် သတ္တာရမ္မဏဖြစ်သင့်၏။ ပဥ္စပါပီနှင့်တူသော ရွံရှာစဖွယ် မတင့်တယ် မလှပသော ဣတ္ထိပုရိသ၌ လွန်ကျူးသောမိစ္ဆာစာရကံသည် သင်္ခါရာရမ္မဏဖြစ်သင့်၏"ဟူ၍ မိန့်ဆိုတော်မူပါသည်။ [၂]

## ကာမေသုမိစ္ဆာစာရကံအကြောင်း မှတ်သားဖွယ်ရာ

ဤနေရာ၌ အလျဉ်းသင့်၍ ကာမေသုမိစ္ဆာစာရကံအကြောင်း မှတ်သားဖွယ်ရာများကို ဖော်ပြလိုပါသည်။

## ကာမေသုမိစ္ဆာစာရကံ၏ တရားကိုယ်နှင့်အင်္ဂါများ

ကာမေသုမိစ္ဆာစာရကံ၏ တရားကိုယ်မှာ - မေထုန်မှီဝဲလိုသဖြင့်ကာယကံမြောက် မသွားလာထိုက်သောသူ၌ မှီဝဲလွန်ကျူး

---

၁။ အဘိ၊ ဋ္ဌ၊ ၂၊ ၃၆၆။ ၂။ စွယ်စုံကျော်ထင်ဝိသောဓနီ၊ ၄၇။

ကြောင်း စေတနာဖြစ်ပါသည်။[၁]

ကာမေသုမိစ္ဆာစာရကံ၏အင်္ဂါများမှာ -

၁။ မသွားလာထိုက် သောသူ(အဂမနီယဝတ္ထု)ဖြစ်ခြင်း၊

၂။ မသွားလာထိုက်သူ၌ မှီဝဲလို သောစိတ်ရှိခြင်း၊

၃။ မှီဝဲရန်လုံ့လပြုခြင်း၊

၄။ မဂ်တစ်ပါးဖြင့် မဂ်တစ်ပါး၌ ကျင့်မှုထည့်သွင်းမှုကို သာယာခြင်း-ဟူ၍အင်္ဂါလေးပါးရှိပါသည်။ ဤအင်္ဂါလေးပါးနှင့် ပြည့်စုံလျှင် ကမ္မပထမြောက်၍ ကာမေသုမိစ္ဆာစာရကံထိုက်ပါသည်။

**အင်္ဂါ ၃-ပါး၊ အင်္ဂါ ၄-ပါး ဆုံးဖြတ်ချက်**

ယင်းအင်္ဂါလေးပါးနှင့်စပ်၍ ဆရာတို့အမျိုးမျိုးယူဆကြ၏။ အချို့ဆရာတို့က မိမိကလုံ့လမပြုဘဲ သူတစ်ပါးကလုံ့လပြုလာသည်ကို သာယာလျှင် ပယောဂ - လုံ့လပြုခြင်းအင်္ဂါမပါသောကြောင့် "ကံမထိုက်"ဟု ဆိုကြ၏။ အချို့ဆရာတို့ကမူ "ပယောဂအင်္ဂါ မပါသော်လည်း မှီဝဲလိုသော စိတ်ရှိလျှင် ကံမြောက်သည်"ဟု ဆိုကြ၏။ ဤကိစ္စ၌ များသောအားဖြင့် မာတုဂါမဘက်က ပယောဂ-လုံ့လပြုခြင်းအင်္ဂါမပါဘဲကိစ္စပြီးနိုင်၏။ ယင်းသို့ဆိုလျှင် အင်္ဂါလေးပါးမရှိထိုက် ပယောဂအင်္ဂါကို ချန်ထား၍ ကျန်အင်္ဂါ(၃)ပါးသာ ပြထိုက်၏ဟူ၍ အချို့ဆရာတို့ ဆိုကြပါသည်။

ဤအင်္ဂါကိစ္စနှင့်ပတ်သက်၍ ထိုသို့အငြင်းမပွားရအောင် အဋ္ဌကထာ ဋီကာတို့၌ ဆုံးဖြတ်ချက်ချထားပြီး ဖြစ်ပါသည်။ ယင်းဆုံးဖြတ်ချက်မှာ - ဓမ္မသင်္ဂဏီအနုဋီကာ၌ -

---

၁။ ဘိ၊ ဋ္ဌ၊ ၁၊ ၁၄၁။

"ဉက္ကံသတော စတ္တာရော သမ္မာရာ ဝုတ္တာတိ ဒဠှဗ္ဗံ"

ဟူ၍ လည်းကောင်း၊

"အတ္တနော ရုစိယာ ပဝတ္တိတဿာတိဏ်ကိ အဂ္ဂိနိ ဗလက္ကာရေန ပဝတ္တိတဿ တိဏ်ကိတိ အဂ္ဂဟိတဂ္ဂဏေန စတ္တာရိတိ ဝဒန္တိ"[၁]

ဟူ၍ လည်းကောင်း၊

ဣတိဝုတ်အဋ္ဌကထာ၌လည်း -

"အတ္တနော ရုစိယာ ပဝတ္တိတဿ တယော၊ ဗလက္ကာရေန ပဝတ္တိတဿ တယောတိ၊ အနဝသေသဂ္ဂဟဏေန စတ္တာရော ဒဠှဗ္ဗာ၊ အတ္ထသိဒ္ဓိ ပနတိဟောဝ"[၂]

ဟူ၍လည်းကောင်း၊

သီလက္ခန်ဋီကာသစ်၌လည်း -

"ဣဒံ ပနေတ္ထ သန္နိဋ္ဌာနံ အတ္တနော ရုစိယာ ပဝတ္တိတဿ သေဝနာပယောဂေနေဝ သေဝနစိတ္တတာ သိဒ္ဓိတော အဂ မနီယဝတ္ထု၊ သေဝနာပယောဂေါ၊ မဂ္ဂေနမဂ္ဂပဋိပတ္တိ အဓိဝါသနန္တိ တယော၊ ဗလက္ကာရေန ပဝတ္တိတဿ ပုရိမုပ္ပန္နသေဝနာဘိသဒ္ဓိ ပယောဂါဘာဝတော အဂမနီယ ဝတ္ထု၊ တသ္မိံ သေဝနစိတ္တံ၊ မဂ္ဂေနမဂ္ဂပဋိပတ္တိ အဓိဝါသနန္တိ၊ တယော၊ အနဝသေသဂ္ဂဟဏေန ပန ဝုတ္တနယေန စတ္တာရောတိ" [၃]

---

၁။ ဘိ၊ အနုဋီ၊ ၁၊ ၈၉။ သံ၊ ဋီ၊ ၂၊ ၁၄၂။ ၂။ ဣတိဝုတ်၊ ဠ ၊ ၂၂၀။
၃။ သီ ၊ ဋီ ၊ သစ် ၊ ၁ ၊ ၃၃၄။

ဟူ၍လည်းကောင်း အင်္ဂါအဆုံးအဖြတ်တို့ကို အသီးသီးမိန့်ဆိုကြ၏။

ယင်းဆုံးဖြတ်ချက်အသီးသီးတို့ကို ခြုံငုံမိအောင် တစ်ပေါင်းတည်းအခိုပ္ပါယ်ပြန်ဆိုရလျှင် ဤကာမေသုမိစ္ဆာစာရအင်္ဂါပြဿနာ၌ အဆုံးအဖြတ်မှာ **အတ္တနောရုစိပဝတ္တိတ ကာမေသု မိစ္ဆာစာရ** - မိမိအလိုအတိုင်းဖြစ်စေအပ်သော ကာမေသုမိစ္ဆာစာရကံ၌ မှီဝဲသောလုံ့လပယောဂဖြင့်ပင် မှီဝဲလိုစိတ်ရှိသည်၏အဖြစ်သည် ပြီးစီးနိုင်သောကြောင့်၊ (ဝါ) ပယောဂအင်္ဂါ၌ မှီဝဲလိုသော စိတ်ရှိခြင်းဟူသောအင်္ဂါပါဝင်ပြီးစီးနိုင်သောကြောင့် (၁) မသွားလာထိုက်သောသူ (အဂမနီယဝတ္ထု)ဖြစ်ခြင်း၊ (၂) မှီဝဲရန် လုံ့လ(ပယောဂ)ပြုခြင်း၊ (၃) မဂ်တစ်ပါးဖြင့် မဂ်တစ်ပါး၌ ကျင့်မှုထည့်သွင်းမှုကို သာယာခြင်း ဤအင်္ဂါသုံးပါးဖြင့် ကမ္မပထမြောက်၏။

ဗလက္ကာရပဝတ္တိတ ကာမေသုမိစ္ဆာစာရ- အနိုင်အထက်ဖြစ်စေအပ်သော ကာမေသုမိစ္ဆာစာရကံ၌ ရှေ့ဖြစ်သော မှီဝဲလိုသည့်အလိုဆန္ဒလုံ့လပယောဂမရှိခြင်းကြောင့် (၁) မသွားလာ ထိုက်သောသူဖြစ်ခြင်း၊ (၂) မသွားလာထိုက်သူ၌ မှီဝဲလိုစိတ်ရှိခြင်း၊ (၃) မဂ်တစ်ပါးဖြင့် မဂ်တစ်ပါး၌ ကျင့်မှု ထည့်သွင်းမှုကို သာယာခြင်း ဤအင်္ဂါသုံးပါးဖြင့် ကမ္မပထမြောက်၏။ သို့ဖြစ်၍ အဋ္ဌကထာတို့၌ အင်္ဂါလေးပါးဆိုထားခြင်းမှာ (များသောအားဖြင့် အင်္ဂါလေးပါးလုံး ပါတတ်သည်ကိုရည်၍) အနဝသေသဂ္ဂဟဏ - မယူအပ်သေးသည်ကို ယူသောနည်း။ (ဝါ) ဥက္ကံသ -အလွန်အားဖြင့် ဆိုသောနည်းဟု မှတ်ပါဟု ဆိုလိုပါသည်။

ဤဆုံးဖြတ်ချက်အရ အင်္ဂါသုံးပါးဖြင့် ကံမြောက်နိုင်သည်ဟုဆိုသော အချို့ဆရာတို့၏အဆိုနှင့် အဋ္ဌကထာအဆိုကွဲလွဲချက်မရှိ

ညီညွတ်သည်ဟု မှတ်ယူရပေမည်။

**အဂမနီယဝတ္ထုများ**

ငင်းအင်္ဂါလေးပါး၌ပါရှိသော မသွားထိုက်သောသူ အဂမနီယဝတ္ထုဟူသောအင်္ဂါနှင့်စပ်၍ အဂမနီယဝတ္ထုပေါင်းမှာ ယောက်ျားအတွက် (၂၀)နှင့် မိန်းမအတွက် (၁၂)ယောက် ရှိကြ၏။ ၎င်းတို့မှာ-

၁။ မာတုရက္ခိတာ = အမိစောင့်ထိန်းထားသော မိန်းမ၊
၂။ ပိတုရက္ခိတာ = ဖခင်စောင့်ထိန်းထားသော မိန်းမ၊
၃။ မာတာပိတုရက္ခိတာ = မိဘနှစ်ပါးစောင့်ထိန်းထားသည့် မိန်းမ၊
၄။ ဘဂိနိရက္ခိတာ = အစ်မညီမစောင့်ထိန်းသည့် မိန်းမ၊
၅။ ဘာတုရက္ခိတာ = မောင်ကြီးမောင်ငယ် စောင့်ထိန်းထားသော မိန်းမ၊
၆။ ဉာတိရက္ခိတာ = ဆွေမျိုးစောင့်ထိန်းသည့်မိန်းမ၊
၇။ ဂေါတ္တရက္ခိတာ = အနွယ်တူစောင့်ထိန်းထားသော မိန်းမ၊
၈။ ဓမ္မရက္ခိတာ = သီတင်းသုံးဖော်စောင့်ထိန်းထားသော မိန်းမ၊
၉။ သပရိဒဏ္ဍာ = မင်းဒဏ်ထားသောမိန်းမ၊ (အာဏာပိုင်မင်းတို့က ကိုယ်တိုင်သိမ်းပိုက်ရန် ရည်ရွယ်ထားသဖြင့် "ဤမိန်းမကို သွားလာကျူးလွန်လျှင် ဤအပြစ်ဒဏ်

သင့်စေ”ဟု သတ်မှတ်ထားသော မိန်းမ၊)

၁၀။ သာရက္ခာ = ဝမ်းတွင်းကပင် မှန်း၍ စောင့်ရှောက်ထားသောမိန်းမ၊ (အမိဝမ်းတွင်းကပင် ဖွားမြင်လာလျှင် မယားအဖြစ်လက်ထပ်ယူရန် တောင်းရမ်းသတ်မှတ်ကြောင်းလမ်းထားသော မိန်းမ)

၁၁။ ဓနက္ကီတာ = ဥစ္စာဖြင့် ဝယ်ယူထားသော မယား၊

၁၂။ ဆန္ဒဝါသိနီ = အလိုတူနေထိုင်သော မယား၊ (မိန်းကလေးနှင့် ယောကျ်ားလေး နှစ်ဦးသဘောတူ ဆွက်ပြေးရာ၌ မိန်းကလေးသည် ဆန္ဒဝါသိနီမယား မည်၏။)

၁၃။ ဘောဂဝါသိနီ = စည်းစိမ်အတွက် သွားရောက်နေထိုင်သော မယား၊ (ယောကျ်ားထံမှ ဆုံ့ကျည်ပွေ့စသော အိမ်အသုံးအဆောင်ကို ရ၍ မယားအဖြစ် ခံယူသော မိန်းမ၊)

၁၄။ ပဋဝါသိနီ = အဝတ်ထမီအတွက်နေထိုင်သော မယား၊(ဝတ်ရုံလောက်ကာမျှသော

အဝတ်ထမီကို ရ၍ မယားအဖြစ် ခံယူသော မိန်းမ၊)

၁၅။ သြဒပတ္တကိနီ = ရေခွက်၌ လက်နှစ်ဖက်ချ၍ ထိမ်းမြားသောမယား၊ (ဤရေသည် မကွဲမပြားသကဲ့သို့ သင်တို့နှစ်ယောက် မကွဲမပြားစေသတည်းဟု ရေတစ်ခွက်တည်း၌ လက်နှစ်ဖက်ချကာ မိဘနှစ်ပါးစုံ ထိမ်းမြားပေးသောမယား)

၁၆။ သြဘာတစုမ္ဗတာ = ခေါင်းခုကို ချခိုင်း၍ နေစေသော မယာ၊ (ထင်းခွေရေခပ်ခြင်းအမှုကို ပြုလုပ်နေရသော အမျိုးသမီးကို မယားအဖြစ်သိမ်းပိုက်လို၍ "သင် ယနေ့မှစ၍ ထင်းခွေရေခပ်ခြင်း အလုပ်ကို မလုပ်နဲ့တော့"ဟု ပြောဆို သိမ်းပိုက်ထားသော မယား၊)

၁၇။ ဓဇာဟဋ္ဌာ = စစ်အောင်သဖြင့် အောင်လံစိုက်ထောင်၍ ယူဆောင်အပ်သော သုံ့ပန်းမယား၊

၁၈။ ကမ္မကာရီဘရိယာ = အမှုလုပ်မယား၊ (မိမိဇနီးသဘော မတူဘဲ မယားအဖြစ် သိမ်းပိုက်ထားသော အိမ်စေမယား၊)

၁၉။ ဒါသီဘရိယာ = ကျွန်မယား၊ (မယားအဖြစ် သိမ်းပိုက်ထားသော ကျွန်မ၊)

၂၀။ မုဟုတ္တိကာ = တခဏမျှ ပေါင်းဖော်ရသော ပြည့်တန်ဆာ မယား-တို့တည်း။

ထိုမသွားလာထိုက်သော မိန်းမ(၂၀)တို့တွင် (၁)မှ (၈)အထိ မိန်းမ(၈)ယောက်တို့သည် မိမိတို့၏ ကာမဂုဏ်အတွေ့ကို ပိုင်ဆိုင်သူ မရှိ။ မိမိတို့ပင် ပိုင်ဆိုင်သောကြောင့် ယောကျ်ားနှင့်ပေါင်းသင်းဆက် ဆံသော်လည်း ကာမေသုမိစ္ဆာစာရကံ မထိုက်။ (၉)မှ (၂၀)အထိ မိန်းမ(၁၂)ယောက်တို့သည်ကား မိမိတို့၏ကာမဂုဏ်အတွေ့ကို ပိုင် ဆိုင်သူရှိပြီးဖြစ်သောကြောင့် ပိုင်ရှင်ယောကျ်ားမှ တစ်ပါးသောသူနှင့် ပေါင်းသင်းဆက်ဆံလျှင် ကာမေသုမိစ္ဆာစာရကံထိုက်၏။ ယောကျ်ား တို့မှာကား ကိုယ်ပိုင်မယားမှတစ်ပါး အမိစောင့်သောမိန်းမစသော (၂၀)လုံးကိုပင် လွန်ကျူးသွားလာခဲ့သော် ကာမေသုမိစ္ဆာစာရကံ ထိုက် ပါသည်။

သို့ဖြစ်၍ မသွားလာထိုက်သောသူ အဂမနီယဝတ္ထုသည် ယောကျ်ားအတွက် (၂၀)၊ မိန်းမအတွက်(၁၂)ယောက် ဖြစ်သည်ဟု ဆိုခြင်းဖြစ်ပါသည်။[၁]

## ကာမေသုမိစ္ဆာစာရကံ၏ အပြစ်

ထိုကာမေသုမိစ္ဆာစာရကံသည် သီလစသော ဂုဏ်မရှိသူကို ပြစ်မှားလွန်ကျူးလျှင် အပြစ်နည်း၍ သီလစသော ဂုဏ်နှင့်ပြည့်စုံသူ ကို ပြစ်မှားလွန်ကျူးခဲ့သော် အလွန်အပြစ်ကြီးပါသည်။ နန္ဒလုလင် သည် ဥပ္ပလဝဏ်ရဟန္တာထေရီမကို ပြစ်မှားလွန်ကျူးမိသဖြင့် ချက်ခြင်း

---

၁။ ဘိ ၊ ၄ ၊ ၁ ၊ ၁၄၁။ ဝိ ၊ ၄ ၊ ၂ ၊ ၁၄၂။ ဒီ၊ ၄၊ ၃၊ ၂၃၁။ မ ၊ ၄ ၊ ၁ ၊ ၂၀၃

အရှင်လတ်လတ် မြေမျိုခံရကာ အဝီစိငရဲသို့ ကျရောက်ရ၏။ ဤနန္ဒလုလင်ဝတ္ထုကို ထောက်လျှင် ဂုဏ်ရှိသူကို ပြစ်မှားရာ၌ အပြစ်ကြီးပုံကို သိနိုင်ပါသည်။ [၁]

ထို့ပြင် ယခုဘုရားရှင်လက်ထက် ဣသိဒါယီထေရီမသည် အဆူဆူသော ရှေးဘုရားရှင်တို့၏ထံတော်၌ ယောက်ျားဘဝဖြင့် ပါရမီဖြည့်ကျင့်ပြီးသူဖြစ်၏။ သို့သော် ရွှေပန်းတိမ်သည်ဘဝ၌ မိတ်ဆွေယုတ်တို့နှင့် ပေါင်းသင်းပြီး သူတစ်ပါးမယားကို လွန်ကျူးမိလေ၏။ ထိုကံကြောင့် ငရဲသို့ကျရောက်ရခြင်း၊ ငရဲမှလွတ်လျှင် တိရစ္ဆာန်သုံးဘဝဖြစ်ပြီး သင်းကွပ်ခံရခြင်း၊ ထိုမှလွတ်လျှင် ကျွန်မဝမ်း၌ နပုံးပဏ္ဍုက်(ယောက်ျားမဟုတ် မိန်းမမဟုတ်)ဖြစ်ရခြင်း စသော အပြစ်များကို ခံရ၏။ ထိုမျှမကသေး ကျွတ်တမ်းဝင်မည့်နောက်ဆုံးဘဝ၌ပင် ယောက်ျားဘဝကို ပြန်မရတော့ဘဲ မိန်းမဘဝဖြင့်ပင် ကျွတ်တမ်းဝင်ရရှာလေ၏။ [၂]

ထို့အတူ အရှင်အာနန္ဒာလောင်း ပန်းတိမ်သည်သားသည်လည်း မိတ်ဆွေယုတ်တို့နှင့် ပေါင်းမိ၍ ကာမေသုမိစ္ဆာစာရကံကျူးလွန်မိ၏။ ထိုကံကြောင့် ရောရုဝငရဲကျရခြင်း၊ ဆိတ်ဘဝ၊ မျောက်ဘဝ၊ နွားဘဝတို့ဖြစ်ပြီး သင်းကွပ်ခံရခြင်း၊ ယောက်ျားမဟုတ် မိန်းမမဟုတ် နပုံးပဏ္ဍုက်ဖြစ်ရခြင်း၊ အင်္ဂတိမင်းကြီး၏ သမီးတော် ရုစာမင်းသမီးဘဝအပါအဝင် မိန်းမဘဝချည်း (၇)ဘဝဆက်ဖြစ်ခဲ့ရခြင်းစသော မကောင်းကျိုးများကို ခံစားခဲ့ရပါသည်။ [၃]

---

၁။ ဘိ၊ ၄၊ ၁၊ ၁၄၁။ ဝိ၊ ၄၊ ၁၊ ၂၃၇။
၂။ ထေရီ၊ ၄၂၅၊ ၄၂၈။ ထေရီ၊ ၄၊ ၂၆၇၊ ၂၇၇။
၃။ ဇာတက၊ ၂၊ ၂၆၃။ ဇာ၊ ၄၊ ၇၊ ၁၂၃-၁၂၇။

ထို့ပြင် ကဿပဘုရားရှင်လက်ထက် ဗာရာဏသီပြည် သူဌေးသားလေးယောက်တို့သည် သူတစ်ပါးသားမယားကို ဥစ္စာပေး၍ လွန်ကျူးကြကုန်၏။ ထိုကံကြောင့် အဝီစိငရဲ၌ ခံရ၏။ ထိုမှလွတ်သော် လောဟကုမ္ဘီကြေးနီအိုး ငရဲတွင် ဦးခေါင်းစောက်ထိုးကျ၍ အနှစ်သုံးသောင်းကြာနစ်မြုပ်ပြီး တစ်ဖန်အနှစ်သုံးသောင်းကြာမှတစ်ခါ ပေါ်လာရပြန်၏။ အိုးဝသို့ ရောက်သောအခါ မိမိတို့မှားခဲ့ကြသည်ကိုအချင်းချင်းပြောလိုသဖြင့် "ဒု - သ - န - သော"ဟု အက္ခရာတစ်လုံး စီရွတ်မိလျှင် ပြောလိုသောဂါထာမပြီးမဆုံး တစ်လုံးစီနှင့်ပင် တစ်ဖန် ပြန်ပြီး နစ်မြုပ်ကြရပြန်၏။ ဤသို့ဆင်းရဲဒုက္ခခံစားရသည်မှာ ကာမေ သုမိစ္ဆာစာရကံကြောင့်ပင် ဖြစ်ပါသည်။[၁]

**နိဂုံး**

ဤဆိုအပ်ပြီးသော စကားအစဉ်ဖြင့် ကာမေသုမိစ္ဆာစာရကံ၏ အာရုံသည် ရူပါရုံစသော အာရုံငါးပါးမဟုတ်၊ သဒ္ဒါရအာရုံနှင့် သတ္တဝါအာရုံနှစ်မျိုးသာ ဖြစ်သည်။ ယင်းကံ၏အင်္ဂါကို အဋ္ဌကထာတို့၌ အနဝသေသဂ္ဂဟဏနည်းဖြင့် အင်္ဂါလေးပါးဟု ဆိုထားသော်လည်း အင်္ဂါသုံးပါးနှင့်ပြည့်စုံလျှင်ပင် ကမ္မပထမြောက်၍ ကံထိုက်ကြောင်း သိရ၏။ ၎င်းကာမေသုမိစ္ဆာစာရကံကို ကျူးလွန်မိလျှင် အရှင်လတ်လတ်မြေမျိုခံရခြင်း၊ ငရဲကျရောက်ရခြင်း၊ တိရစ္ဆာန်ဖြစ်ပြီး သင်းကွပ်ခံရခြင်း၊ နပုံးပဏ္ဍုက်ဖြစ်ရခြင်း၊ မိန်းမဘဝချည်း ဆက်ခါဖြစ်ရခြင်းစသော မကောင်းကျိုးများကို ခံစားရ၏။ ထို့ပြင် ၎င်းကံကို

---

၁။ ဓမ္မ ၊ ၄ ၊ ၁ ၊ ၂၈၆-၂၈၈။ ဇာ၊ ၁၊ ၁၀၀။ ဇာ ၊ ၄ ၊ ၃ ၊ ၄၁-၄၅။

ကျူးလွန်ရာ၌ များသောအားဖြင့် မကောင်းသောမိတ်ဆွေများနှင့် ပေါင်းမိရာမှ ဖြစ်တတ်ကြောင်းလည်း သိရပါသည်။

ထို့ကြောင့် အရှင် လတ်လတ် မြေမျိုခံရခြင်းစသော အပါယ် ဒုဂ္ဂတိဘေးမှလွတ်လိုသူတိုင်း ကာမေသုမိစ္ဆာစာရသိက္ခာပုဒ်ကို မလွန် ကျူးဘဲ အထူးစောင့်ထိန်းသင့် သည်ဟူသော ဥပဒေသနှင့် လူမိုက်ကို မပေါင်းသင်းဘဲ ရှောင်ကြဉ်သင့်သည်ဟူသော ဥပဒေသတို့ကို သိရှိမှတ်သားရကြောင်း ဖော်ပြအပ်ပါသတည်း။ ။



# အခန်း (၅)

## သက်ရှိချင်းခတ်၊ မည်တုံလတ်၊ ရမှတ်ရုပ်သေး ဘယ်မျှနည်း။ (၃၅၂)

### မူရင်းအဖြေ

"သက်ရှိချင်းခတ်၊ မည်တုံလတ်၊ ရမှတ်ရုပ်သေး ဘယ်မျှ နည်း"ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား ကျမ်း၌တိုက်ရိုက် မတွေ့မိ "ခေါက်၍မေးသော် ရုပ်သေးတစ်ရာရ၏"ဟူသော အာစရိယဝါဒကိုမှီ၍ မေးသောပုစ္ဆာဖြစ်ရကား ဖြေလည်းဖြေသင့်၏။ အဘယ်သို့ဖြေသင့်သနည်းဟူမူကား -

"ခေါက်၍မေးသော်၊ ရုပ်သေးအရ၊ သုဒ္ဓဋ္ဌနှင့်၊ နဝက လာပ်၊
သတ္တရသ်ဝယ်၊ ပိုင်းဖြတ်ခြင်းငှာ၊ အာကာသ ခတ်၊
ပန္နရသ်လောင်း၊ ချင့်ပေါင်းနေကျ၊ ဒွတ္တိံသမှာ၊ သတ္တိရှာ၍၊
တာသုံးခုမြောက်၊ ဆင့်လှောက်လက္ခဏာ၊ လေးပါးလာက၊
တစ်ရာပြည့်ရိုး၊ လူ့ထိပ်မိုး . . . ။

ဟူ၍ ရှေးဆရာတို့ ဆိုထုံးရှိ၏။

အဓိပ္ပါယ်ကား ။ ။ ဥတုဇရုပ်ချင်းခတ်ရာ၌ အသံဟူသော နဝကကလာပ်ဖြစ်ရကား သုဒ္ဓဋ္ဌနှင့် နဝကကလာပ်နှစ်ရပ်သည် ရုပ် ပေါင်း သတ္တရသရှိ၏။ အကြားသည် ၁၅-ခု ဖြစ်ရကား ပရိစ္ဆေဒရုပ် ၁၅-ခုနှင့် ယခင် ၁၇-ခုကို ပေါင်းသော် ဒွတ္တိံသဖြစ်၏။ ထို ၃၂-ခု

ကို လဟုတာ၊ မုဒုတာ၊ ကမ္မညတာ ၃-ပါးနှင့်မြှောက် ၉၆-ခုဖြစ်၏။ ထိုတွင် လက္ခဏာရုပ် ၄-ခုရော ပေါင်း တစ်ရာရ၏။ ဤကား ဗာဟိရ ရုပ်ကို ခေါက်သောနည်းတည်း။

သတ္တဝါတို့သန္တာန်၌ကား - စတုဇရုပ်ဖြစ်သောကြောင့် ကမ္မဇကလာပ်၉-စည်း၌ ရုပ်ပေါင်း ၈၉။ စိတ္တဇကလာပ် ၆-စည်း၌ ရုပ်ပေါင်း ၆၃။ ဥတုဇကလာပ် ၄-စည်း၌ ရုပ်ပေါင်း ၄၀။ အာဟာရဇ ကလာပ် ၂-စည်း၌ ရုပ်ပေါင်း ၁၉ ရသည်ဖြစ်၍ လေးရုပ်လုံးကိုပေါင်း သော် ၂၁၁-ပါးရှိ၏။ အကြားတည်းဟူသော ပရိစ္ဆေဒရုပ်ကား ကမ္မဇ ရုပ်၌ ၈၇၊ စိတ္တဇရုပ်၌ ၆၁၊ ဥတုဇရုပ်၌ ၃၈၊ အာဟာရဇရုပ်၌ ၁၇ ရသင့်သည်ဖြစ်၍ ပေါင်း ၂၀၃-ခုဖြစ်၏။ နှစ်စုပေါင်းသော် ၄၁၄ပါး ဖြစ်၏။ ဤကား ပုတ်ခတ်ခံရသော ပုဂ္ဂိုလ်သန္တာန်၌ ရကောင်းသော ရုပ်တည်း။

ပုတ်ခတ်သောပုဂ္ဂိုလ်၏သန္တာန်၌လည်း ၄၁၄-ပါးပင် ရ ကောင်းရကား ပေါင်းသော် ၈၂၈-ပါးဖြစ်၏။

ပုတ်ခတ်ခြင်းကြောင့်ဖြစ်သော အသံ၌ သဒ္ဒနဝကကလာပ် ရသည်ဖြစ်၍ ၈၃၇ ရှိ၏။ ထိုကို လဟုတာဒိတ္တယ ၃-ခုဖြင့်မြှောက် သော် ၂၅၁၁-ဖြစ်၏။ ထိုတွင် လက္ခဏာရုပ် ၄-ခုလောင်း ၂၅၁၅- ဖြစ်၏။ ယင်းသို့ဖြစ်၍ -

"သက်ရှိချင်းခတ်၊ မည်တုံလတ်သော်၊ ခတ်သည့်ရုပ်မှာ၊
လေးရာ့လေးဆယ်၊ ထွေးသည့်ရုပ်ပေါင်း၊ လည်းကောင်း
နည်းတူ၊ နဝကူ၍၊ သုံးဆူတာမြှောက်၊ စွက်လျောက်
လက္ခဏာ၊ နှစ်ထောင်မှာတွင်၊ ငါးရာတစ်ဆယ်၊ ငါးခု

ကယ်သည်၊ အကျယ်(၇)မျိုး ရုပ်ထွက်ရိုး။"

ဤသို့ ဖြေဆိုရာ၏။

ဤအဖြေကား စွယ်စုံကျော်ထင်ကျမ်း၌လာသော မူရင်း အဖြေ ဖြစ်၏။

## ပြဿနာဖြစ်ရသည့်အချက်များ

ဤအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်များမှာ အချုပ်အား ဖြင့် "ခေါက်၍မေး ရုပ်သေးတစ်ရာရ၏"ဟူသော အဆိုအရ ရုပ် သေးတစ်ရာ ရေတွက်ပုံနှင့် သက်ရှိချင်းပုတ်ခတ်ရာ၌ ရုပ်သေးပေါင်း (၂၅၁၅)ရ၏ဟူသော ရေတွက်ပုံတို့ပင် ဖြစ်ပါသည်။

၎င်းအချက်ကြီး ၂-ချက်၌ ပြဿနာဖြစ်သည့်အချက်များကို နံပါတ်ထိုး၍ အသေးစိတ်ထုတ်ပြရသော် -

(၁) ဥတုဇရုပ်ချင်း ပုတ်ခတ်ရာဝယ် အခေါက်ခံရသော ရုပ် ဝတ္ထု၌ သဒ္ဒနဝကကလာပ်ရုပ်ပေါင်း ၉-ခု ရသော်လည်း ခေါက်သော တုတ်ရုပ်ဝတ္ထု၌ကား သုဒ္ဓဋ္ဌကကလာပ်ရုပ် ပေါင်း ၈-ခုသာရသည်ဟူသော အချက်သည်လည်း ကောင်း၊

(၂) ၎င်းသဒ္ဒနဝကကလာပ်နှင့်သုဒ္ဓဋ္ဌကကလာပ်တို့၌ အာ ကာသခေါ် အကြားရုပ်ပေါင်း ၊ ဝါ ပရိစ္ဆေဒရုပ်ပေါင်း ၁၅-ခု ရနိုင်၍ရုပ်ပေါင်း ၃၂-ခုဖြစ်၏ဟူသော အချက် သည်လည်းကောင်း၊

(၃) ထို ၃၂-ခုကို လဟုတာ၊ မုဒုတာ၊ ကမ္မညတာ၃-ပါး

နှင့်မြှောက် ၉၆-ခုဖြစ်၏ဟူသောအချက်သည်လည်း ကောင်း၊

(၄) ထို၉၆-ပါးတွင် လက္ခဏာရုပ် ၄-ခုရောက ရုပ် ပေါင်း တစ်ရာရ၏ဟူသောအချက်သည်လည်းကောင်း၊

(၅) သက်ရှိရုပ်ချင်း ပုတ်ခတ်ရာ၌အကြားတည်းဟူသော ပရိစ္ဆေဒရုပ်ကား ကမ္မဇရုပ်၌ ၈၇၊ စိတ္တဇရုပ်၌ ၆၁ ၊ ဥတုဇရုပ်၌ ၃၈ ၊ အာဟာရဇရုပ်၌ ၁၇ ရသင့်သည်ဟူ သော အချက်သည်လည်းကောင်း၊

(၆) ထိုကို လဟုတာဒိတ္တယ ၃-ခုဖြင့် မြှောက်သော် (၂၅၁၁) ဖြစ်၏။ ထိုတွင် လက္ခဏာရုပ် ၄-ခုလောင်း (၂၅၁၅ )ဖြစ် ၏ဟူသော အချက်သည်လည်းကောင်း

ပြဿနာဖြစ်ရသောအချက်များ ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

၎င်းပြဿနာဖြစ်ရသည့်အချက် ၆-ချက်သည် သဘာဝ လည်းမကျ၊ ယုတ္တိလည်းမရှိ၍ ပြဿနာဖြစ်ရသည်ကို တစ်ချက်ချင်း ရှင်းလင်းဖော်ပြပါမည်။ ယင်း ၆-ချက်တွင် ရှေ့၄-ချက်သည် ရုပ်သေး တစ်ရာရေတွက်ပုံ ပြဿနာနှင့်ဆိုင်၍ နောက်ဆုံး ၂-ချက်သည် သက် ရှိချင်း ပုတ်ခတ်ရာရုပ်သေးရေတွက်ပုံ ပြဿနာနှင့်ဆိုင်ပါသည်။ ထို တွင် ရုပ်သေးတစ်ရာရေတွက်ပုံ ပြဿနာရှင်းလင်းချက်ကို ရှေးဦးစွာ ဖော်ပြပါမည်။

## ရုပ်သေးတစ်ရာရေတွက်ပုံ
## နံပါတ်(၁)ပြဿနာ ရှင်းလင်းချက်

(၁)ရုပ်သေးတစ်ရာရေတွက်ပုံ၌ "သုဒ္ဓဋ္ဌနှင့်၊ နဝကကလာပ်၊ သတ္တရသ်ဝယ်"ဟူသောလင်္ကာအရ ဥတုဇရုပ်ချင်း ခတ်ရာ၌ အသံဟူသော နဝကကလာပ်ဖြစ်ရကား သုဒ္ဓဋ္ဌနှင့်နဝကကလာပ်နှစ်ရပ်သည် ရုပ်ပေါင်း သတ္တရသရှိ၏ဟူ၍ မူရင်းကျမ်း၌ အဓိပ္ပါယ်ဖွင့်ဆိုထား၏။

ဆိုလိုရင်းအဓိပ္ပါယ်မှာ တီးခေါက်လိုက်သောအခါ ခေါက်သောတုတ်၌ သုဒ္ဓဋ္ဌက(အဝိနိဗ္ဘောဂရုပ် ၈-ခု)ကလာပ်ဖြစ်၏။ တီးခေါက်ခံရသော ရုပ်ဝတ္ထု၌ သဒ္ဒနဝက(အသံနှင့်တကွယခင် ၈-ခု) ကလာပ်ဖြစ်၏။ ထို့ကြောင့် တီးခေါက်သောအခိုက်အခါဝယ် ရုပ်ပေါင်း သတ္တရသ(၁၇)ခုဖြစ်၏ဟု ဆိုလိုပါသည်။

ဤစကားဝယ် ခေါက်သောတုတ်၌ အသံရုပ်မပါဘဲ သုဒ္ဓဋ္ဌက ကလာပ်ဖြစ်၏ဟူသော စကားသည် သဘာဝမကျပေ။ အမှန်စင်စစ် ခေါက်သောတုတ်၌လည်း အသံရုပ်ရနိုင်သောကြောင့် သဒ္ဒနဝက ကလာပ်သာ ဖြစ်ပါသည်။

မှန်ပါသည်။ ခေါင်းလောင်းအချင်းချင်း၊ မောင်းအချင်းချင်း၊ ကြေးစည်အချင်းချင်း တစ်ခုနှင့်တစ်ခုထိခိုက်မိရာ၌ နှစ်ခုစလုံး အသံမြည်နေသည်ကို တွေ့ရပေမည်။ ဤအချက်ကို မည်သူမှ မငြင်းနိုင်ပါ။ သို့ဖြစ်၍ နှစ်ခုစလုံး သဒ္ဒနဝက ကလာပ်ရကြသည်မှာ ထင်ရှားပါသည်။ ထို့အတူ ဥတုဇရုပ်အချင်းချင်း တီးခေါက်ရာ၌လည်း နှစ်ဘက်စလုံး အသံရုပ်ရနိုင်၍ အခေါက်ခံနှင့်ခေါက်သော တုတ်နှစ်ခုစလုံး၌ သဒ္ဒနဝကကလာပ် ရသင့်ပါသည်။ သို့မှသာ သဘာဝကျပေမည်။

ဤသဘာဝယုတ္တိကို ထောက်ဆ၍ ခေါက်သောဒုတ်၌ အသံရုပ်မပါဘဲ သုဒ္ဓဋ္ဌကကလာပ်ဖြစ်၏ဟူသော စကားသည် သဘာဝမကျဟု ဆိုခြင်းဖြစ်ပါသည်။

**နံပါတ်(၂) (၅)ပြဿနာရှင်းလင်းချက်**

(၂) (၅) ပြဿနာဖြစ်သည့်အချက်များတွင် နံပါတ်(၂)နှင့် နံပါတ်(၅) သည် သဘောချင်းတူသောကြောင့်ပေါင်း၍ စီစစ်ပြပါမည်။ "ပိုင်း ဖြတ်ခြင်းငှာ၊ အာကာသဓာတ်၊ ပန္နရသ်လောင်း" ဟူသော လင်္ကာ အရ အကြားသည် ၁၅-ခုဖြစ်ရကား ပရိစ္ဆေဒရုပ် ၁၅-ခုနှင့် ယခင် ၁၇-ခုကို ပေါင်းသော် ဒွတ္တိံသဖြစ်၏ဟု မူရင်းကျမ်း၌ ဆိုပါသည်။ ဆိုလိုရင်းအဓိပ္ပါယ်မှာ သုဒ္ဓဋ္ဌကကလာပ်၌ပါရှိသော ရုပ်၈-ခုကို စီတန်း၍ထားလျှင် အာကာသခေါ်သော အကြားရုပ်ပေါင်း၊ (ဝါ)ပရိစ္ဆေဒ ရုပ်ပေါင်း ၇-ခုရနိုင်ပါ၏။ နဝက ကလာပ်၌ပါရှိသော ရုပ်၉-ခုကို စီ တန်း၍ထားလျှင်လည်း အာကာသခေါ်သော အကြား ရုပ်ပေါင်း ၈-ခုရနိုင်၏။ နှစ်ရုပ်ပေါင်းလျှင် အာကာသခေါ် သောအကြားရုပ်ပေါင်း ၁၅-ခု ရနိုင်သည်ဟု ဆိုလိုပါသည်။ ကလာပ်တစ်ခု၌ ရုပ်၈-ခုရှိလျှင် အကြားအာကာသရုပ် (ပရိစ္ဆေဒရုပ်) ၇-ပါးရှိသည်ဟု ယူမှား၏။ ထို့ကြောင့် ယင်းစကားများလည်း မသင့်သောစကားများပင် ဖြစ်ချေ၏။

မှန်ပါသည်။ အာကာသဓာတ်သည်၊ (ဝါ)ပရိစ္ဆေဒရုပ်သည် ကလာပ်အတွင်း၌ပါသော ရုပ်အချင်းချင်းကို ပိုင်းခြားသည်မဟုတ်၊ ရုပ်ကလာပ်၂-ခု၊ ၃-ခုစသည်တို့ကို တစ်ခုနှင့်တစ်ခု မရောဘဲကွဲပြားအောင် ပိုင်းခြားခြင်းဖြစ်ပါသည်။ "ကလာပါနံ ပရိစ္ဆေဒလက္ခဏတ္တာ

ဝိစက္ခဏာ"[၁]၌ ကလာပါနံ ပရိစ္ဆေဒ- ကလာပ်တို့ကို ပိုင်းခြားခြင်း ဟူသော စာပိုဒ်ကို ထောက်ပါ။

ထို့ပြင် "စက္ခုဒသကာဒိ ဧကေကကလာပဂတရူပါနံ ကလာပန္တရေဟိ အသံကိဏ္ဏဘာဝါပါဒနဝသေန ပရိစ္ဆေဒကံ"[၂]ဟူသော ဋီကာစကားကိုလည်း ထောက်ထားနိုင်ပါသည်။

စက္ခုဒသာဒိ ဧကေကကလာပဂတရူပါနံ - စက္ခုဒသကအစရှိသော တစ်ခုတစ်ခုသောကလာပ်၌ တည်ကုန်သော ရုပ်တို့၏ ၊ ကလာပန္တရေဟိ - ကလာပ်တစ်ပါးတို့နှင့်၊ အသံကိဏ္ဏဘာဝါပါဒနဝသေန - မရောနှောသည်၏အဖြစ်ကို ပြီးစေသည်၏အစွမ်းဖြင့်၊ ပရိစ္ဆေဒကံ - ပိုင်းခြားတတ်၏။

အဓိပ္ပါယ်မှာ - ပရိစ္ဆေဒရုပ်သည် ကလာပ်တစ်ပါးနှင့်တစ်ပါး မရောနှောအောင် ပိုင်းခြားတတ်သည်ဟု ဆိုလိုပါသည်။

တီးခေါက်သောတုတ်နှင့် အခေါက်ခံရသောဝတ္ထုတို့၏ အကြားဝယ် အာကာသအကြားရှိသော်လည်း ထိုအာကာသမျိုးမှာ ပရိစ္ဆေဒရုပ်ဟုခေါ်သော အာကာသမျိုးမဟုတ်၊ အဇဋာကာသမျိုးသာ ဖြစ်၏။ [၃]

ထို့ကြောင့် သုဒ္ဓဋ္ဌကကလာပ်နှင့်သဒ္ဒနဝကကလာပ်နှစ်ခုအတွက် အာကာသတစ်ခုမျှပင် မရဟုမှတ်ပါ။ သို့ဖြစ်၍ ပရိစ္ဆေဒရုပ်ကို ကလာပ်တစ်ခုအတွင်း၌ရှိကုန်သော ရုပ်တို့၏အပိုင်းအခြားအဖြစ်ဖြင့် သုဒ္ဓဋ္ဌကကလာပ်၌ ပရိစ္ဆေဒရုပ် ၇-ခု၊ နဝကကလာပ်၌ ပရိစ္ဆေဒ

---

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ ၊ ၁၀၈။ ၂။ ဋီကာကျော် ၊ ၁၈၆။
၃။ သင်္ဂြိုဟ် ၊ ဘာ-ဋီ ၊ ၁၀၄။

ရုပ် ၈-ခု၊ နှစ်ရုပ်ပေါင်း ပရိစ္ဆေဒရုပ် ၁၅-ခုဖြစ်၏ဟူ၍လည်း မဆိုသင့်ပါ။

ထို့ပြင် သက်ရှိချင်း ပုတ်ခတ်ရာ (၅)နံပါတ်ပြဿနာ ဖြစ်ရသည့် အချက်တွင် ကမ္မဇကလာပ်၉-စည်း၌အကြားတည်းဟူ သောပရိစ္ဆေဒရုပ်ပေါင်း ၈၉-ခု၊ စိတ္တဇကလာပ် ၆-စည်း၌ ပရိစ္ဆေဒ ရုပ် ၆၁၊ ဥတုဇကလာပ် ၄-စည်း၌ ပရိစ္ဆေဒရုပ် ၃၈၊ အာဟာရဇကလာပ်နှစ်စည်း၌ ပရိစ္ဆေဒရုပ် ၁၇- ရသင့်သည်ဟူ၍လည်း မဆိုသင့်တော့ပါ။ ၎င်းရေတွက်ပုံများသည် ယုတ္တိမရှိသော ရေတွက်ပုံများသာဖြစ်ပါသည်။ အမှန်စင်စစ် ဤကလာပ်၂၁-စည်းအတွက် ကလာပ်တစ်ခုနှင့်တစ်ခု မရောအောင် ပိုင်းခြားထားသော ပရိစ္ဆေဒရုပ် ၂၁-ခုသာ ရသင့်ပါသည်။

"ချင့်ပေါင်းနေကျ ဒွတ္တိံသမှာ"ဟူသောလင်္ကာအရ ထိုသုဒ္ဓဋ္ဌကာ၊ သဒ္ဒနဝကကလာပ်နှစ်ခုနှင့်ပရိစ္ဆေဒ(အာကာသ)ရုပ် ၁၅-ခုကိုပေါင်းလျှင် ဒွတ္တိံသ ၃၂-ခုဖြစ်၏ဟုဆိုရာ၌ "အရင်းလဲ အဖျားထင်းဖြစ်"ဆိုသကဲ့သို့ အစကမပါသင့်သော ပရိစ္ဆေဒရုပ်ကိုထည့်၍ ရေတွက်ပုံလွဲချော်ခဲ့ပြီး ဖြစ်၏။ ထို့ကြောင့် ဤအပေါင်းရေတွက်သော အဖျားပိုင်းမှာလည်း အဓိပ္ပါယ်မရှိဖြစ်ရလေပြီ။

**နံပါတ်(၃)ပြဿနာ ရှင်းလင်းချက်**

(၃)"သတ္တိရှာ၍ တာ၃-ခုမြောက်"ဟူသော လင်္ကာပိုဒ်အရ ထို၃၂-ခုကို လဟုတာ၊ မုဒုတာ၊ ကမ္မညတာ ၃-ပါးနှင့်မြှောက် ၉၆ ခုဖြစ်၏ဟူ၍ မူရင်းကျမ်း၌ အဓိပ္ပါယ်ပြဆိုထား၏။ ဤစကားသည်လည်း သဘာဝမကျ ယုတ္တိမတန်သော စကားပင်ဖြစ်၏။ အဘယ့်

ကြောင့်ဆိုသော် အဘိဓမ္မတ္ထသင်္ဂဟကျမ်းလာ အောက်ပါစကားရပ်တို့နှင့်မညီညွတ်သောကြောင့်ပင် ဖြစ်ပါသည်။

တတ္ထ သုဒ္ဓဋ္ဌကံ သဒ္ဒနဝကဉ္စေတိ ဒွေ ဥတုသမုဋ္ဌာနကလာပါ ဗဟိဒ္ဓါပိ လဗ္ဘန္တိ အဝသေသာ ပန သဗ္ဗေပိ အဇ္ဈတ္တိကမေဝါတိ။ [၁]

တတ္ထ - ထိုကလာပ်တို့တွင်၊ သုဒ္ဓဋ္ဌကံ စ- သုဒ္ဓဋ္ဌကကလာပ်လည်းကောင်း၊ သဒ္ဒနဝကဥ္စ-သဒ္ဒနဝကကလာပ်လည်းကောင်း၊ ဣတိ- ဤသို့၊ ဒွေ - နှစ်ပါးကုန်သော၊ ဥတုသမုဋ္ဌာနကလာပါ - ဥတုသမုဋ္ဌာနက လာပ်တို့ကို၊ ဗဟိဒ္ဓါပိ - တောတောင်ရေမြေစသော အပြင်ဗဟိဒ္ဓ၌ လည်း၊ လဗ္ဘန္တိ-ရအပ်ကုန်၏။ အဝသေသာ - သုဒ္ဓဋ္ဌက သဒ္ဒနဝကမှကြွင်းကုန်သော၊ သဗ္ဗေ ပိ - အလုံးစုံသော ကလာပ်တို့သည်လည်း၊ အဇ္ဈတ္တိကမေဝ - ဗဟိဒ္ဓ နှင့်မစပ် အဇ္ဈတ္တိက သာလျှင်တည်း။ (ဝါ) အနိန္ဒြိယဗဒ္ဓ၌မဖြစ် ဣန္ဒြိယ ဗဒ္ဓသာလျှင် ဖြစ်၏။

"လဟုတာဒိတ္တယံ ဥတုစိတ္တာဟာရေဟိ သမ္ဘောတိ" [၂]

လဟုတာဒိတ္တယံ - လဟုတာ၊ မုဒုတာ၊ ကမ္မညတာရုပ် ၃-ခုအပေါင်းသည်၊ ဥတုစိတ္တာဟာရေဟိ - ဥတု,စိတ်,အာဟာရတို့ကြောင့်၊ သမ္ဘောတိ - ကောင်းစွာဖြစ်၏။

ဤသာဓကများအရ လဟုတာဒိရုပ်၃-ခုအပေါင်းသည် တိဇရုပ်ဖြစ်၍ ခန္ဓာကိုယ်ပြင်ပ၌ မည်သည့်အခါမှ မရထိုက်၊ ခန္ဓာကိုယ်အတွင်း၌သာ ရထိုက်၏။ ထို့ကြောင့် တာ ၃-ခုဖြင့်မြှောက်ဟူသော စကားသည် ယုတ္တိမတန်သောစကားသာ ဖြစ်ရချေ၏။

---

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ ၊ ၁၀၇။ ၂။ ရင်း ၊ ၁၀၄။

**နံပါတ်(၄)ပြဿနာ ရှင်းလင်းချက်**

(၄)"ဆင့်လျှောက်လက္ခဏာ၊ လေးပါးလာက၊ တစ်ရာ ပြည့်ရှိုး" ဟူသော လင်္ကာအရ ထို၉၆-ပါးတွင် လက္ခဏာရုပ် ၄-ခု ရောပေါင်းက ရုပ်သေးပေါင်းတစ်ရာဖြစ်သည်ဟု ဆိုပြန်၏။

၎င်းအဆိုအရ သုဒ္ဓဋ္ဌကကလာပ်နှင့် သဒ္ဒနဝကကလာပ်နှစ် ခုပေါင်းမှ ဥပစယ၊ သန္တတိ၊ ဇရတာ၊ အနိစ္စတာဟူသော ဥပါဒ်, ဋ္ဌီ, ဘင်တစ်ခုသာရသည်ဟု ဆိုရာရောက်နေ၏။ အမှန်စင်စစ် ရုပ် ကလာပ်တိုင်းမှာ ဥပါဒ် , ဋ္ဌီ , ဘင်ရှိရပေမည်။ [၁] ထို့ကြောင့် ယင်း စကားသည်လည်း သဘာဝယုတ္တိမရှိသော စကားပင်ဖြစ်ရချေ၏။

ဤစကားများအရ စွယ်စုံကျော်ထင်ကျမ်းလာ ရှေးဆရာတို့ ရုပ်သေးတစ်ရာရေတွက်နည်းမှာ သဘာဝယုတ္တိမရှိသော လမ်းရိုးမှား ပင်ဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

**မိုင်းခိုင်းဆရာတော်၏ ရုပ်သေးတစ်ရာ ရေတွက်နည်း**

ဤမျှမကသေး အခြားသဘာဝမကျသည့်ရုပ်သေးတစ်ရာ ရေတွက်နည်းများလည်း ရှိကြသေး၏။ ထိုတွင် မိုင်းခိုင်းဆရာတော် ဘုရားကြီး၏ ရုပ်သေးတစ်ရာရေတွက်နည်းကို ဖော်ပြရလျှင် -

"ခေါက်၍မေးသော်၊ ရုပ်သေးတစ်ရာ၊ ရပုံမှာကား၊ ခေါက်
လာခေါက်အပ်၊ ကလာပ်ဒွယ၊ သုဒ္ဓဋ္ဌကို၊ ပေါင်းထမသွေ၊
ဆဲ့ခြောက်ထွေ၌၊ ဖြစ်လေသဒ္ဒ၊ နဝကလောင်း၊ ရုပ်ပေါင်း
မှန်ညီ၊ ပဉ္စဝီကို၊ လေးလီလက္ခဏာ၊ ရုပ်မြောင်ဖြာက၊

---

၁။ အဘိဓမ္မာဝတာရ ၄-ကျမ်းတွဲ(ပရမတ္ထဝိနိစ္ဆယကျမ်း) ၊ ၆၇။

တစ်ရာရမြောက်၊ သေ့ွမဖောက်သည်၊ ကျမ်းထောက်မှီမှီ
ကမ်းကမ့်းတည်း။ [၁]

အဓိပ္ပါယ်ကား - ခေါက်လာသော သုဒ္ဓဋ္ဌကကလာပ်၊ ခေါက်အပ်သောသုဒ္ဓဋ္ဌကကလာပ် နှစ်ရပ်ပေါင်းသော် ၁၆-ခုဖြစ်၏။ ယင်း၌ သဒ္ဒနဝကကလာပ်ကို ပေါင်းသော် ၂၅-ခုဖြစ်၏။ ၎င်းကို လက္ခဏာရုပ် ၄-ခုဖြင့်မြောက် ရုပ်ပေါင်းတစ်ရာရ၏ဟု ဆိုလိုပါသည်။

ဤနည်းတွင် ရုပ် ၂၅-ခုကို လက္ခဏာရုပ် ၄-ခုဖြင့်မြောက် ရုပ်ပေါင်းတစ်ရာရ၏ဟုဆိုရာဝယ် ယင်းရုပ်ပေါင်းတစ်ရာသည် သေချာစွာစီစစ်ကြည့်က လက္ခဏာရုပ်ချည်းတစ်ရာဖြစ်နေသည်ကို တွေ့ရပေမည်။ မူလရုပ် ၂၅-ခုမပါသေးပေ။ ထို့ကြောင့် သဘာဝမကျဟု ဆိုရပေမည်။ အမှန်စင်စစ် ပရမတ္ထဝိနိစ္ဆယကျမ်းလာ "လက္ခဏာကာသရူပါနိ၊ ကလာပေသု တဟိံတဟိံ၊ ပဉ္စ ပဉ္စေတိ ရူပါနိ"[၂]ဟူသော စကားအရ ရုပ်ကလာပ်တစ်ခုတစ်ခု၌ လက္ခဏာရုပ် ၄-ခုစီသာ ဖြစ်သင့်ပါသည်။

**အနုဝဏ္ဏနာကျမ်းလာ ရုပ်သေးတစ်ရာရေတွက်ပုံ**

အခြားရုပ်သေးတစ်ရာရေတွက်ပုံ လင်္ကာတစ်ခုမှာ -

"သုဒ်တည်လက်မြောက်၊ ရောလှောက်အာကာ၊ နောတိံသာတည့်၊ ဖြစ်လာသဒ္ဒ၊ နဝကလည်း၊ ရှေးနည်းမြောက်ကာ၊ အာကာဓာတ်မြေး၊ လေးဆဲ့လေးတည်း၊ ရောထွေးနှစ်ရပ်၊ တြိအင်ရှုတွင်၊ ကလာပ်အမွန်၊ ဆဲ့ခွန်လောင်းကာ၊

၁။ စွယ်စုံကျော်ထင် ဝိသောဓနီ ၊ ၅၁။

၂။ အဘိဓမ္မာဝတာရ ၄-ကျမ်းတွဲ(ပရမတ္ထဝိနိစ္ဆယကျမ်း) ၊ ၆၇။

ပေါင်းတစ်ရာသည် နုဝဏ်ဓာတုကျမ်းလာတည်း"[၁]

အမိပ္ပါယ်မှာ - သုဒ္ဓဋ္ဌကကလာပ်ရုပ် ၈-ခုတည်း၊ လက္ခဏာရုပ် ၄-ခုနှင့်မြှောက် ၊ ပရိစ္ဆေဒရုပ် ၇-ခုနှင့်နှော ၃၉-ခုဖြစ်၏။

သဒ္ဒနဝကကလာပ်ရုပ်၉-ခုတည်း၊ လက္ခဏာရုပ် ၄-ခုနှင့် မြှောက်၊ အာကာသပရိစ္ဆေဒရုပ် ၈-ခုနှော ၄၄-ဖြစ်၏။ နှစ်ရပ်ပေါင်း ၈၃-ခုဖြစ်၏။ ယင်း၌ မူလသုဒ္ဓဋ္ဌကကလာပ်ရုပ် ၈-ခုနှင့် သဒ္ဒနဝက ကလာပ်၉-ခု ပေါင်း ၁၇-ခုကိုထည့်ပေါင်းလျှင် ဓာတုအနုဝဏ္ဏနာကျမ်း လာရုပ်ပေါင်းတစ်ရာဖြစ်၏ဟု ဆိုလိုပါသည်။

ဤနည်း၌လည်း သုဒ္ဓဋ္ဌကကလာပ်ရုပ်ပေါင်း ၈-ခု၌ အာကာသပရိစ္ဆေဒရုပ် ၇-ခု၊ သဒ္ဒနဝကကလာပ်ရုပ်၉-ခု၌ အာကာသ ပရိစ္ဆေဒရုပ် ၈-ခုရှိသည်ဟု ယူဆပြီး ရေတွက်ဖော်ပြထားသည်ကို တွေ့ရ၏။ ယင်းသို့ ရုပ်ကလာပ်တစ်ခုတည်းအတွင်း အမှန်တကယ် မပါရှိသင့်သော ပရိစ္ဆေဒရုပ်များဖြင့်ရေတွက်ဖော်ပြထားသောကြောင့် သဘာဝမကျဟု ဆိုရပေမည်။

## ရုပ်သေးတစ်ရာရေတွက်ပုံ အမျိုးမျိုးကွဲပြားရကြောင်း

ဤသို့ရုပ်သေးတစ်ရာရေတွက်ပုံသည် တစ်ခုနှင့်တစ်ခုတူညီမှုမရှိဘဲ အမျိုးမျိုးကွဲပြားရကြောင်းမှာ "နခါက်၍မေး ရုပ်သေးတစ်ရာရသည်"ဟူသော အဆိုအရ ၎င်းအဆိုနှင့်အညီ ရုပ်သေးပေါင်းတစ်ရာ မပြည့်ပြည့်အောင် ရေတွက်ရသောကြောင့်လည်းကောင်း ၊ ခိုင်မာသောပါဠိအဋ္ဌကထာကျမ်းတို့၌ ရုပ်သေးတစ်ရာရေတွက်ပုံ တိုက်ရိုက် မပါရှိသောကြောင့်လည်းကောင်း၊ ထိုသို့ခိုင်ခိုင်မာမာ တိုက်ရိုက်မလာ

---

၁။ စွယ်စုံကျော်ထင် ၀ိသောဓနီ ၊ ၅၂။

ရှိ၍ မိမိတို့လက်လှမ်းမှီရာ နှစ်သက်ရာအာစရိယဝါဒများအရ ရေတွက်ဖော်ပြရသောကြောင့်လည်းကောင်း အမျိုးမျိုးကွဲပြားရခြင်း ဖြစ်ပါသည်။

## ဤကျမ်း၌ ရုပ်သေးရေတွက်ပုံ

အမှန်စင်စစ် "သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးဘယ်မျှရှိသနည်း"ဟုမေးလျှင် "သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးတစ်ရာရသည်" ဟူသောအဖြေကိုလည်း အစွဲမထားသင့်ပါ။ ရှေးဆရာတို့က မည်သို့ယူဆကြသည်ဟူသော ဆရာစွဲကိုလည်း အစွဲမထားသင့်ပါ။ တစ်ရာပြည့်သည်ဖြစ်စေ၊ မပြည့်သည်ဖြစ်စေ ရှေးဆရာတို့က မည်သို့ပင် ယူဆကြသည်ဖြစ်စေ ၊ ဖြစ်သင့်သောအဖြေ သဘာဝကျသောအဖြေ၊ ယုတ္တိရှိသောအဖြေကိုသာ ကြံဆပြီး ဖြေဆိုသင့်ပါသည်။ သို့မှသာ သဘာဝကျပြီး ယုတ္တိရှိသည့် မှန်ကန်သောအဖြေကို ရရှိနိုင်ပေမည်။

သို့ဖြစ်၍ "ခေါက်၍မေး ရုပ်သေးတစ်ရာရသည်"ဟူသော ရှေးဆရာတို့၏အဆိုကို အစွဲမထားဘဲ ဖြစ်သင့်သောအဖြေ၊ သဘာဝကျသောအဖြေကို ကြံဆ၍ဖြေရသော် -

ခေါင်းလောင်းအချင်းချင်း၊ မောင်းအချင်းချင်း၊ ကြေးစည်အချင်းချင်း ထိခိုက်မိရာ၌ နှစ်ခုလုံးအသံမြည်သည်ကို ကြားရပေမည်။ ဤသည်မှာ ခေါက်သောရုပ်၌လည်း အသံဖြစ်ပေါ်၍ အခေါက်ခံရသောရုပ်၌လည်း အသံဖြစ်ပေါ်တတ်ပုံ သဘာဝပင်ဖြစ်ပါသည်။ သို့ဖြစ်၍သက်မဲ့အရာဝတ္ထုချင်း တီးခေါက်စဉ်အခိုက်ဝယ် ခေါက်သောရုပ်ဝတ္ထု၌လည်း အသံရုပ် ၁-ခု၊ အဝိနိဗ္ဘောဂရုပ် ၈-ခု ပေါင်း ၉-ခု

ပါဝင်သော သဒ္ဒနဝကကလာပ်တစ်ခုရ၍ အခေါက်ခံရသော ရုပ်ဝတ္ထု ဘက်၌လည်း ထို့အတူ သဒ္ဒနဝကကလာပ်တစ်ခုရသည်မှာ ထင်ရှား ပါသည်။ သဘာဝယုတ္တိလည်း ရှိပါသည်။ ထို့ပြင် ကလာပ်တစ်ခုတစ် ခု၌ ဥပါဒ်, ဋ္ဌီ, ဘင်ဟုဆိုအပ်သော ဥပစယ , သန္တတိ , ဇရတာ, အနိစ္စတာလက္ခဏာရုပ်ပေါင်း ၄-ခုရနိုင်၍ ယင်းကလာပ်နှစ်ခုအတွက် လက္ခဏာရုပ်ပေါင်း ၈-ခုရပါသည်။ ထိုလက္ခဏာရုပ် ၈-ခုနှင့် နဝက ကလာပ်နှစ်ခု၌ပါသော ရုပ်ပေါင်း ၁၈-ခုကို ပေါင်းလျှင် ဥတုဇရုပ်ချင်း ထိခိုက်ရာ၌အနည်းဆုံး ရုပ်သေးပေါင်း ၂၆-ခု ရနိုင်ပါသည်ဟု ဆိုရ ပေမည်။

ဤသို့ဖြေဆိုခြင်းမှာ - ဖော်ပြခဲ့ပြီးသော စိစစ်ချက်များအရ ရုပ်ချင်းထိခိုက်ရာ၌ နှစ်ခုလုံး အသံမြည်နိုင်သည်ကိုလည်းကောင်း၊ ရုပ်ကလာပ်တစ်ခုတစ်ခု၌ လက္ခဏာရုပ်၄-ခုထက် အယုတ်အလွန်မရ နိုင်ပုံကိုလည်းကောင်း၊ ဥတုဇရုပ်ချင်းထိခိုက်ရာဝယ် ပရိစ္ဆေဒရုပ်များ မရနိုင်ပုံကိုလည်းကောင်း၊ ဗဟိဒ္ဓသန္တာန်၌ လဟုတာဒိတ္တယရုပ် ၃- ခုမရနိုင်ပုံကိုလည်းကောင်း သတိပြု၍ ဖြေဆိုခြင်းဖြစ်ပါသည်။

ဋင်းရုပ်သေးပေါင်း ၂၆-ခုကို အနည်းဆုံးဟု ဆိုရခြင်းမှာ ခေါက်အပ် ခေါက်လာရုပ်နှစ်ခုတို့၌ နဂိုမူလကရှိနေသည့် သုဒ္ဓဋ္ဌက ကလာပ်တို့ကို သဒ္ဒနဝကကလာပ်တို့၌ သဘောတူရာရောပေါင်း၍ ရေတွက်ခြင်းကြောင့်ဖြစ်ပါသည်။ သဘောတူရာ မရောပေါင်းဘဲ ရေတွက်လျှင်ကား အများဆုံးရုပ်သေးရေတွက်ပုံကို ရရှိနိုင်ပေမည်။

သို့ဖြစ်၍အများဆုံးရုပ်သေး ရေတွက်ပုံကိုဆက်လက်ဖော် ပြရလျှင် -

ဥတုဇရုပ်အချင်းချင်း မတီးခေါက်မီ ခေါက်လာသည့်ရုပ်၌လည်း သုဒ္ဓဋ္ဌကကလာပ်၁-ခု၊ အခေါက်ခံရုပ်၌လည်း သုဒ္ဓဋ္ဌကကလာပ်၁-ခု၊ ပေါင်း ရုပ်ကလာပ်၂-ခုရှိနှင့်နေ၏။ ၎င်းရုပ်ကလာပ်၂-ခု၊တီးခေါက်စဉ်အခိုက်ဝယ် ၂-ခုလုံးအသံမြည်၍ ခေါက်လာသည့် ရုပ်ဘက်၌လည်း သဒ္ဒနဝကကလာပ် ၁-ခု၊ အခေါက်ခံရုပ်ဘက်၌လည်း သဒ္ဒနဝကကလာပ် ၁-ခု ပေါင်းရုပ်ကလာပ် ၂-ခု ထပ်မံရရှိလာ၏။ သို့ဖြစ်၍ စုစုပေါင်း ရုပ်ကလာပ်၄-ခု ရုပ်သေးအရေအတွက်အားဖြင့် ၃၄-ခု ဖြစ်လာပါသည်။ ၎င်း ၃၄-ခု၌ ရုပ်ကလာပ်တစ်ခုတစ်ခု၌ လက္ခဏာရုပ် ၄-ခုစီရနိုင်၍ ရုပ်ကလာပ် ၄-ခုအတွက် ရသင့်သော လက္ခဏာရုပ်ပေါင်း ၁၆-ခုကို ထည့်ပေါင်းလျှင် ဥတုဇရုပ်ချင်း ထိခိုက်ရာ၌ အများဆုံးရုပ်သေးပေါင်း ၅၀-အထိသာ ရနိုင်ပါသည်။

ဤအဖြေများမှာ - "သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးဘယ်မျှရှိသနည်း"ဟူသော မေးခွန်းအရ သဘာဝကျကျ ယုတ္တိရှိရှိ ဖြစ်သင့်သော ရုပ်သေးပေါင်း အရေအတွက်များပင် ဖြစ်ပါသည်။

**နံပါတ်(၆)ပြဿနာရှင်းလင်းချက်**

(၆)သက်ရှိချင်းပုတ်ခတ်ရာ၌ ပြဿနာဖြစ်ရသည့် အချက်များတွင်နံပါတ်(၅)အချက်ကို နံပါတ်(၂)အချက်၌ ရှင်းလင်း ပြီးဖြစ်၏။ သို့ဖြစ်၍ ကျန်ရှိနေသည့် နံပါတ်(၆)အချက်ကိုသာ ဆက်လက်ရှင်းလင်းပြပါမည်။

သက်ရှိစတုဇရုပ်ချင်း ပုတ်ခတ်ရာ၌ "ထိုထိုလဟုတာဒိတ္တယ ၃-ခုဖြင့်မြှောက်သော် ၂၅၁၁ဖြစ်၏။ ထိုတွင်လက္ခဏာရုပ် ၄-ခုလောင်း ၂၅၁၅ ဖြစ်၏။"ဟူ၍ မူရင်းကျမ်း၌ ဆိုပါသည်။

ဝင်းရေတွက်ပုံ၌ လဟုတာဒိတ္တယ၃-ခုသည် ဥတုဇ စိတ္တဇ အာဟာရဇရုပ်ကလာပ်စည်းတို့၌ ပါဝင်ပြီးဖြစ်၍ ထပ်မံမြောက်ပွား၍ ထည့်စရာမလိုတော့ပါ။ လက္ခဏာရုပ်၄-ခုလောင်းဟုဆိုရာ၌ ကလာပ် ၂၂-စည်းမှာမှ ဥပစယ , သန္တတိ , ဇရတာ , အနိစ္စတာဟူသော ဥပါဒ်, ဌီ ,ဘင်တစ်ခုသာရသည်ဟုဆိုရာ ရောက်နေ၏။ ထို့ကြောင့် ဝင်းရေတွက်ပုံစကားများလည်း ယုတ္တိမရှိ၊ သဘာဝမကျဟု ဆိုရပေမည်။

**သက်ရှိချင်း ပုတ်ခတ်ရာ၌ ရသင့်သော ရုပ်သေးပေါင်း**

သက်ရှိချင်းပုတ်ခတ်ရာ၌ ရသင့်သောရုပ်ပေါင်းကို ရေတွက်ဖော်ပြရလျှင် သက်ရှိသတ္တဝါတို့သည် စတုဇရုပ်ဖြစ်၍ ထိခိုက်လာသောသတ္တဝါသန္တာန်၌ ကမ္မဇကလာပ်၉-စည်း၊ ရုပ်ပေါင်း ၈၉၊ စိတ္တဇကလာပ် ၆-စည်း၊ ရုပ်ပေါင်း ၆၃၊ ဥတုဇကလာပ် ၄-စည်း၊ ရုပ်ပေါင်း ၄၁၊ အာဟာရဇကလာပ် ၂-စည်း၊ ရုပ်ပေါင်း ၁၉၊ စုစုပေါင်း ကလာပ် ၂၁-စည်း၌ ရုပ်ပေါင်း ၂၁၁-ဖြစ်၏။

ကလာပ်တစ်စည်းတစ်စည်း၌ ပရိစ္ဆေဒရုပ် ၁-ခု၊လက္ခဏာရုပ် ၄-ခုရှိသောကြောင့် ကလာပ်၂၁-စည်းကိုတည်၍ ပရိစ္ဆေဒရုပ် လက္ခဏာရုပ် ပေါင်း၅-ခုဖြင့်မြှောက်၊ ပရိစ္ဆေဒရုပ် လက္ခဏာရုပ် ၁၀၅-ခုရ၏။ ဖော်ပြပါ ကလာပ်ရုပ်သေးပေါင်း ၂၁၁-ခုနှင့်ပေါင်းလျှင် ထိခိုက်လာသောသတ္တဝါသန္တာန်၌ ဖြစ်သည့်ရုပ်သေးပေါင်း ၃၁၆-ခု ရပါသည်။

ဤရေတွက်ပုံကို ပရမတ္ထဝိနိစ္ဆယကျမ်း၌ အောက်ပါအတိုင်း အခိုင်အမာ မိန့်ဆိုထားသည်ကို တွေ့ရပါသည်။

လက္ခဏာကာသရူပါနိ၊ ကလာပေသု တဟိံတဟိံ။
ပဉ္စပဉ္စေဟိ ရူပါနိ၊ တိသတံ သောဠသာဓိကံ။[၁]

တဟိံတဟိံကလာပေသု - ထိုထိုကမ္မဇကလာပ်စသည်တို့၌၊ ပဉ္စပဉ္စေဟိ - ငါးပါးငါးပါးစီဖြစ်ကုန်သော၊ လက္ခဏာကာသရူပါနိ- လက္ခဏာရုပ် ပရိစ္ဆေဒရုပ်တို့သည်၊ ဟောန္တိ- ဖြစ်ကုန်၏။ ဣတိတသ္မာ- ထို့ကြောင့်၊ ရူပါနိ-ရုပ်တို့သည်၊ သောဠသာဓိကံ-တစ်ဆယ့်ခြောက်ခု အလွန်ရှိသော၊ တိသတံ-သုံးရာသည်၊ ဘဝေ-ဖြစ်၏။

ယင်းမိန့်ဆိုချက်အရ ထိခိုက်လာသော သတ္တဝါသန္တာန်၌ ရုပ်သေးပေါင်း(၃၁၆)ခု ရှိပါသည်။ ထိခိုက်ပုတ်ခတ်ခံရသော သတ္တဝါ သန္တာန်၌လည်း ထို့အတူရုပ်သေးပေါင်း (၃၁၆)ခုပင်ရှိ၍ (၂)ရုပ်ပေါင်း သော် ရုပ်သေးပေါင်း(၆၃၂)ခု ဖြစ်ပါသည်။

ထိုရုပ်(၂)ခုထိခိုက်ပုတ်ခတ်သဖြင့် အသံဖြစ်ပေါ်လာရာ၌ ပုတ်ခတ်သည့်ရုပ်၌လည်း သဒ္ဒနဝကကလာပ်(၁)ခု လက္ခဏာရုပ်(၄)ခု၊ ပုတ်ခတ်ခံရသည့်ရုပ်ဘက်၌လည်း သဒ္ဒနဝကကလာပ်(၁)ခုနှင့် လက္ခ ဏာရုပ်(၄)ခု ထပ်မံရရှိလာ၏။ ရုပ်အရေအတွက်အားဖြင့် ရုပ်သေး ပေါင်း (၂၆)ခုထပ်မံရရှိလာ၍ မူလရုပ်(၆၃၂)ခုနှင့် ပေါင်းလျှင်ရုပ်သေး ပေါင်း(၆၅၈)ခု ရရှိလာပါသည်။

ဤအဖြေသည် သက်ရှိသတ္တဝါအချင်းချင်းပုတ်ခတ်ထိခိုက် ရာ၌ ရရှိနိုင်သော ရုပ်သေးအရေအတွက် ဖြစ်၏။

သို့သော် ၎င်းအဖြေသည်အရနိုင်ဆုံး ရောပေါင်းပြဆိုထား သော သာမညအဖြေသာဖြစ်၏။ အဘယ့်ကြောင့်ဆိုသော် ထိခိုက်

---

၁။ အဘိဓမ္မာဝတာရ ၄-ကျမ်းတွဲ(ပရမတ္ထဝိနိစ္ဆယကျမ်း) ၊ ၆၇။

လာသော သတ္တဝါဘက်၌လည်းကောင်း၊ ထိခိုက်ပုတ်ခတ်ခံရသော သတ္တဝါဘက်၌လည်းကောင်း ယောက်ျား , မိန်းမ မခွဲခြားဘဲ ရရှိနိုင်သမျှ ယောက်ျား , မိန်းမအားလုံးရောပေါင်းပြဆိုထားသောကြောင့် ဖြစ်ပါသည်။

ဝိသေသအဖြေမှာ ကလာပ်တစ်ခု၌ အာကာသရုပ်တစ်ခု၊ လက္ခဏာရုပ်လေးခုအားဖြင့် ရုပ်ပေါင်း၅-ခုအတိုးအလျော့ရှိသည်ကို သိရာ၏။ သို့ဖြစ်၍ မိန်းမအချင်းချင်း ပုတ်ခတ်ထိခိုက်ရာ၌ အထက်ပါ ရောပေါင်းပြဆိုထားသော သာမညအဖြေအရ ရုပ်သေးပေါင်း(၆၅၈) ခုတွင် ပုမ္ဘာဝဒသကကလာပ်(၂)စည်း ရုပ်ပေါင်း(၂၀) , အာကာသ ဓာတ်(၂)ခု၊ လက္ခဏာရုပ်(၈)ခုအားဖြင့် ရုပ်(၃၀)နုတ်၍ ရုပ်သေးပေါင်း (၆၂၈)ခုရှိသည်ဟု သိရာ၏။

ယောက်ျားအချင်းချင်း ထိခိုက်ရာ၌လည်း ဣတ္ထိဘာဝဒသကကလာပ်(၂)စည်း ရုပ်ပေါင်း(၂၀)၊ အာကာသဓာတ် (၂)ခု၊ လက္ခဏာရုပ်(၈)ခုအားဖြင့် ရုပ်ပေါင်း(၃၀)နုတ်၍ ရုပ်သေးပေါင်း (၆၂၈)ခု ရှိသည်ဟုသိရာ၏။ ဤနည်းကိုမှီး၍ မိန်းမနှင့်ယောက်ျား ထိခိုက်ရာ၌လည်းကောင်း၊ နပုံးနှင့်မိန်းမထိခိုက်ရာ၌လည်းကောင်း၊ နပုံးနှင့်ယောက်ျားထိခိုက်ရာ၌လည်းကောင်း၊ အကန်းနှင့်အပင်း၊ အကန်းနှင့်အကောင်း၊ အကန်းအချင်းချင်း၊ အပင်းအချင်းချင်းထိခိုက်ရာ၌လည်းကောင်း ရုပ်အတိုးအလျော့နှင့်ရေတွက်ပုံကို သိနိုင်ပါသည်။

## နိဂုံး

အချုပ်အားဖြင့်ဆိုရသော် ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး၏အဖြေ၌ပြဿနာဖြစ်ရခြင်းမှာ "ခေါက်၍မေး ရုပ်သေးတစ်ရာ" ဟူသောအဆိုအရ ၎င်းအဆိုကိုသာ အဓိကထားပြီး၊သဘာဝကျသည် မကျသည်၊ ယုတ္တိရှိသည် မရှိသည်ကို အဓိကမထားဘဲ ရုပ်သေးပေါင်းတစ်ရာမပြည့် ပြည့်အောင်ရေတွက်ဖော်ပြထားသည့် ရှေးဆရာတို့၏အဖြေကိုသာ ဖော်ပြဖြေဆိုထားသောကြောင့် ဖြစ်ပါသည်။ တစ်ဖန်ယင်းရှေးဆရာတို့၏ ရုပ်သေးတစ်ရာအဖြေ၌ ရုပ်ကလာပ်တစ်ခုတည်းအတွင်း မရသင့်သောပရိစ္ဆေဒရုပ်များထည့်သွင်းရေတွက်ပုံကို နည်းယူပြီးသက်ရှိသတ္တဝါချင်းထိခိုက်ရာ၌ ၎င်းနည်းအတိုင်းမရသင့်သောပရိစ္ဆေဒရုပ်များထည့်သွင်းရေတွက်ဖော်ပြထားသောကြောင့်လည်း ပြဿနာဖြစ်ရပြန်ပါသည်။

သို့ဖြစ်၍ ရှေးဆရာတို့၏ လမ်းရိုးများကို အားကိုးတစ်ခုလက်ကိုင်ပြု၍ အကိုးသာဓကအဖြစ်ယူပြန်လျှင် အကျိုး မဲ့ဖြစ်တတ်သည်ဟူသော ဥပဒေသကိုလည်းကောင်း၊ ထို့ပြင်အမှန် တရားကိုရှာဖွေရာ၌ ဆရာစွဲဖြင့် ဤအယူအဆသည် ရှေးဆရာများ၏ အယူဖြစ်၍ အမှန်ချည်းဖြစ်သည်ဟု မယူဆဘဲ သဘာဝကျ , မကျ၊ ယုတ္တိရှိ၊ မရှိကို သေချာစွာ စီစစ်ရှာဖွေမှအမှန်ကို ရရှိနိုင်သောကြောင့် အမှန်တရားကို ရှာဖွေရာ၌ ဆရာစွဲမထားဘဲ သုတေသနပြု ရှာဖွေသင့်သည်ဟူသော ဥပဒေသကိုလည်းကောင်း ညွှန်ပြနေကြောင်း ဖော်ပြအပ်ပါသည်။ ။



# အခန်း(၆)

## အဘကိုသတ် မှန်တုံလတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့်နည်း။(၃၅၅)

### မူရင်းအဖြေ။

"အဘကိုသတ်မှန်တုံလတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့်နည်း"ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-မျက်စိမမြင်ခြင်း၊ မစွမ်းသန်ခြင်းရှိသော အမိကိုလုပ်ကျွေးလျက်နေသော အဘအား သတ်မိသောကြောင့် အမိပါသေသည်ဖြစ်၍ အမိသတ်ကံလည်းထိုက်လေသည်။ စွမ်းသန်သောအမိပင်ဖြစ်သော်လည်း ကြိုးကြာမ၊ ကိန္နရီမတို့သည် အဖိုကိုသတ်လျှင်အမလည်းသေ၍ လိုက်သကဲ့သို့ အဘကိုသတ်လျှင်အမိလည်းသေလိမ့်သတည်းဟု သိလျက် သတ်သောကြောင့် ကံနှစ်ဦးထိုက်၏ဟူပေ။ (ဝဇီရဗုဒ္ဓိ)

### ပြဿနာဖြစ်ပုံ။

အထက်ပါအဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်း၌ ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး ဖြေဆိုထားသော အဖြေဖြစ်ပါသည်။ ယင်းအဖြေ၌ပြဿနာဖြစ်ပုံမှာ-"အဘကိုသတ် မှန်တုံလတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့် နည်း"ဟူသောပုစ္ဆာ၌ မေးလိုရင်း အဓိပ္ပာယ်မှာ-အဖကိုသတ်သည်မှန်သော်လည်း ပိတုဃာတက အဖသတ်ကံမထိုက်ဘဲ မာတုဃာတကအမိသတ်ကံသာထိုက်သည်မှာ အဘယ့်ကြောင့်နည်းဟုမေးလိုရင်းဖြစ်ပါသည်။

ဤသို့မေးသည်ကို အဖြေဆရာတော်က အထက်ပါ အတိုင်း "ပိတုဃာတက- အဘသတ်ကံလည်းထိုက်၏။ မာတုဃာတက- အမိသတ်ကံလည်းထိုက်၏"ဟူ၍ ကံနှစ်ပါးလုံး ထိုက်သည်ကို ဖြေဆို ထားခြင်းကြောင့်၊ ၎င်းအဖြေသည်ပုစ္ဆကအာဘော်မကျဘဲ ပြဿနာ မပြေမလည်ဖြစ်နေပါသည်။

## ပြဿနာရှင်းလင်းချက်။

ယင်းပြဿနာကို ပုစ္ဆကအာဘော်ကျ အဖကိုသတ်သည် မှန်သော်လည်း အဖသတ်ကံမထိုက်ဘဲ အမိသတ်ကံသာထိုက်ပုံကို ဖော်ထုတ်ဖြေဆိုနိုင်လျှင်ကား ပြဿနာပြေလည်သွားမည် ဖြစ်ပေ သည်။

အထက်ပါကျိုးသဲလေးထပ် ဆရာတော်ဘုရားကြီး၏ အဖြေကိုပင် တစ်မျိုးပြင်ဆင်၍ဖြေဆိုလျှင် ပြဿနာပြေလည် နိုင်စရာရှိပါသည်။ မည်သို့ပြင်ဆင်၍ဖြေဆိုရမည်နည်းဟူမူ- "မျက်စိမမြင်ခြင်း၊ မစွမ်းသန်ခြင်းရှိသော အမိကိုလုပ်ကျွေးလျက် နေသော အမိနှင့်အကျင့်သီလဂုဏ်ရည်တူ အဖအားသတ်မိသော ကြောင့် အမိပါသေသည်ဖြစ်၍ အဖသတ်ကံမထိုက်ဘဲ အမိသတ် ကံသာထိုက်လေ၏။ စွမ်းသန်သောအမိပင်ဖြစ်သော်လည်း ကြိုးကြာမ၊ ကိန္နရီမတို့သည် အဖိုကိုသတ်လျှင်အမလည်းလိုက်၍ သေသကဲ့သို့ အမိနှင့်ဂုဏ်ရည်တူအဖကိုသတ်လျှင် အမိလည်း သေလိမ့်သတည်းဟု သိလျက် သတ်သောကြောင့် အဖသတ်ကံမ ထိုက်ဘဲ အမိသတ်ကံသာထိုက်လေ၏" ဟူ၍ပြင်ဆင်ဖြေဆိုရ

ပေမည်။ ဤသို့ပြင်ဆင်ဖြေဆိုလျှင်ကား ပုစ္ဆကအာဘော်လည်းကျ ကျမ်းဂန်တို့နှင့်လည်းညီညွတ်၍ ပြဿနာပြေလည်သွားပေမည်။

အဘယ့်ကြောင့်ဆိုသော် အာနန္တရိယကံသည်-(၁) မာတုဃာတက-အမိကိုသတ်ခြင်း။ (၂) ပိတုဃာတက-အဖကိုသတ်ခြင်း။ (၃) အရဟန္တဃာတက-ရဟန္တာကိုသတ်ခြင်း။ (၄) လောဟိတုပ္ပါဒက-ဘုရားရှင်အားသွေးစိမ်းတည်စေခြင်း။ (၅)သံဃဘေဒက-သံဃာကိုကွဲပြားအောင်ပြုခြင်း=ဟူ၍ငါးမျိုးရှိပါသည်။ ယင်းကံငါးမျိုးတွင် သံဃဘေဒက ကံသည် အပြစ်အကြီးလေးဆုံးဖြစ်၍ အဝီစိငရဲသက်နှင့်အမျှခံရသော ကပ္ပဋ္ဌိတိက ကံမျိုးဖြစ်ပါသည်။

ၚင်းကံငါးမျိုးလုံးကိုကျူးလွန်ရာ၌ အကျိုးပေးမည့်ကံများကိုဖော်ပြရလျှင်-သမ္မောဟဝိနောဒနီအဋ္ဌကထာ၌-

"ယေန စ ပဉ္စပေတာနိ ကမ္မာနိ ကတာနိ ဟောန္တိ၊ တဿ သံဃဘေဒေါယေဝ ပဋိသန္ဓိဝသေန ဝိပစ္စတိ၊ သေသာနိ "အဟောသိကမ္မံ နာဟောသိကမ္မဝိပါကော" ဧဝမာဒိသု သင်္ချံ ဂစ္ဆန္တိ။ သံဃဘေဒါဘာဝေ လောဟိတုပ္ပါဒေါ၊ တဒဘာဝေ အရဟန္တဃာတကော၊ တဒဘာဝေ သစေ ပိတာ သီလဝါ ဟောတိ မာတာ ဒုဿီလာ, နော ဝါ တထာ သီလဝတီ၊ ပိတုဃာတော ပဋိသန္ဓိဝသေန ဝိပစ္စတိ။ သစေ မာတာ၊ မာတုဃာတော၊ ဒွီသုပိ သီလေန ဝါ ဒုဿီလေန ဝါ သမာနေသု မာတုဃာတောဝ ပဋိသန္ဓိဝသေန ဝိပစ္စတိ။ မာတာ ဟိ ဒုက္ကရကာရိနီ ဗဟူပကာရာ စ ပုတ္တာနန္တိ ဧဝမေတ္ထ ပါကတောပိ ဝိညာတဗ္ဗော ဝိနိစ္ဆယော"[၁] ဟူ၍ မိန့်ဆိုထားပါသည်။

---

၁။ ဘိ၊ ဋ္ဌ၊ ၂၊ ၄၀၉။ မ၊ ဋ္ဌ၊ ၄၊ ၇၈။ အံ၊ ဋ္ဌ၊ ၁၊ ၃၅၇။

အဓိပ္ပါယ်မှာ-"အနန္တရိယကံ ငါးမျိုးလုံးကိုကျူးလွန်လျှင် သံဃဘေဒက ကံကအကျိုးပေးပါသည်။ ကြွင်းသောကံတို့သည် ဖြစ်ပြီး၍ အကျိုးမပေးသော-အဟောသိကမ္မ နာဟောသိကမ္မဝိပါက စသောကံတို့၌ အကျုံးဝင်သွားပါသည်။ သံဃဘေဒကကံမှတစ်ပါး ကျန်လေးပါးသောကံတို့ကိုကျူးလွန်လျှင် လောဟိတုပ္ပါဒက ကံက အကျိုးပေးပါသည်။ သံဃဘေဒက, လောဟိတုပ္ပါဒကတို့မှတစ်ပါး ကျန်ကံသုံးပါးကိုကျူးလွန်လျှင် အရဟန္တဃာတကကံက အကျိုးပေးပါသည်။ မာတုဃာတက,ပိတုဃာတကကံနှစ်ပါးကိုကျူးလွန်လျှင် အဖက အမိထက်ပို၍ သီလရှိပါက ပိတုဃာတကကံသာထိုက်၏။ အမိအဖနှစ်ဦးလုံး သီလရှိချင်းတူညီကြလျှင် မာတုဃာတကကံ သာထိုက်ပါသည်။ အမိကသီလရှိပြီး အဖကသီလမရှိလျှင်လည်း မာတုဃာတကကံ သာထိုက်ပါသည်။ ဤသို့အမိအဖနှစ်ဦး အကျင့် တူရာ၌ ပိတုဃာတကကံမထိုက်ဘဲ မာတုဃာတကကံသာထိုက်ရ ခြင်းမှာ-အမိသည် သားသမီးတို့အား ခဲယဉ်းသောအမှုတို့ကိုပြုလေ့ရှိ၍ ကျေးဇူးများသောကြောင့် ဖြစ်သည်"ဟုဆိုလိုပါသည်။

ဤမိန့်ဆိုချက်များကိုထောက်ဆ၍ အထက်ပါတစ်မျိုး ပြင်ဆင်၍ဖြေဆိုထားသော အဖြေကို မှန်ကန်သောအဖြေ၊ ကျမ်းဂန်နှင့်ညီညွတ်၍ ပြဿနာပြေလည်နိုင်သောအဖြေမျိုး ဖြစ်သည်ဟု ဆိုခြင်းဖြစ်ပါသည်။ ဤအဖြေသည် အဘိဓမ္မာနှင့် သုတ္တန်တို့၌လာသော အဖြေဖြစ်၏။ ဝိနည်း၌လာသောအဖြေ တစ်မျိုးလည်းရှိသေး၏။

## ဖခင်ထက်မိခင်ကပို၍ဒုက္ခခံရပုံ

ဖော်ပြပါဖြေဆိုချက်အရ အကျင့်တူသူမိဖနှစ်ပါးကိုသတ်မိရာ၌ ပိတုဃာတက ကံမထိုက်ဘဲ မာတုဃာတက ကံသာထိုက်ရကြောင်းမှာ-အမိသည်သားသမီးတို့အား လွန်စွာခဲယဉ်းသောအမှုတို့ကိုပြုလေ့ရှိ၍၊ လွန်စွာကျေးဇူးများသောကြောင့်ပင်ဖြစ်ကြောင်းသိရပါသည်။

မှန်ပါသည်။ လောက၌မိခင်သည် သားသမီးများအတွက် ဖခင်ထက်ပို၍ ဒုက္ခခံရသူ၊ ပို၍ခဲယဉ်းသော အမှုတို့ကိုပြုရသူဖြစ်ပါသည်။ ၎င်းကိုထင်ရှားအောင်ဖော်ပြရလျှင်-

မိခင်သည် မိမိ၌ကိုယ်ဝန်ရှိမှန်းသိသည့်အချိန်မှစပြီး အပူ, အစပ်,အခါး စသောမသင့်သည့်အစားအစာများကို အင်္ကတ်ခံပြီးရှောင်ကြဉ်၏။ ကိုယ်ဝန်ဆောင်မိခင်တို့ဓမ္မတာအတိုင်း စားချင်သောက်ချင်မှု ချင်ခြင်းမည်မျှပင်တပ်စေကာမူ ကလေးနှင့် မတည့်ဟုအထင်ရှိလျှင်ပင် တို့ရုံမျှမတို့ဘဲ ဒုက္ခခံပြီးရှောင်ကြဉ်ကြလေ၏။

အဘယ့်ကြောင့် ဤသို့အဆင်းရဲခံ,အင်္ကတ်ခံပြီး အစားရှောင်ရသနည်းဟုဆိုလျှင်၊ မိခင်စားသောအစာအာဟာရသည် သန္ဓေသား၏ကိုယ်တွင်းသို့ ချက်ကြောမှတစ်ဆင့်ပျံ့နှံ့ကာ စိမ့်ဝင်လေ၏။ သူငယ်၏ချက်တံသည် မိခင်ဝမ်းရေနှင့်တစ်စပ်တည်းဖြစ်၏။ ထိုချက်တံသည်ကြာရိုးကဲ့သို့ အပေါက်ကြီး,အပေါက်ငယ်ရှိ၏။ ထိုအပေါက်များမှအာဟာရသည် သက်ဝင်ပျံ့နှံ့၍ သူငယ်၏အာဟာရဇရုပ်ကိုဖြစ်စေပါသည်။

သို့ဖြစ်၍မိခင်စားမျိုက သူငယ်စားမျိုသည်နှင့်အတူတူပင် ဖြစ်လေ၏။ ထို့ကြောင့် မိခင်ဖြစ်သူက အလွန်အေးသောရေကို သောက်သည့်အခါ သူငယ်သည်အလွန်အေးသောငရဲ၌ ကျရောက်သကဲ့သို့ ခံစားရ၏။ မိခင်ဖြစ်သူက အလွန်ပူသောဆံပြုတ်၊ ထမင်း၊ ပြုတ်သီး စသည်တို့ကိုစားမျိုသောအခါ သူငယ်သည်ရဲရဲပူသော မီးကျီးထဲ ပစ်ချခံရသကဲ့သို့ ပူလောင်လေ၏။ မိခင်ဖြစ်သူက အချဉ်၊ အငန်စသည်တို့ကိုစားမျိုသောအခါ သူငယ်သည်လှံဖြင့်ဆွ၍ ဆားဖြင့်လိမ်းကျံခြင်းခံရသကဲ့သို့ ခံစားရ၏။[၁] ထိုသို့သောဆင်းရဲဒုက္ခများကို သားသွီးများမခံစားစေလိုသောကြောင့် မိခင်ဖြစ်သူသည် အဆင်းရဲခံ၊ အငတ်ခံပြီး အစားအသောက်ရှောင်ကြဉ်ခြင်းဖြစ်ပါသည်။

ထိုမျှမကသေး ကိုယ်ဝန်ဆောင်မိခင်သည် အနေအထိုင် အသွားအလာကိုလည်း ဆင်ခြင်ရ၏။ အဘယ့်ကြောင့်နည်းဆိုလျှင်- အမိဝမ်း၌တည်သောသန္ဓေသားသည် အမိဝမ်းဗိုက်ကို ကျောပေးကာ ကျောဘက်ကိုမျက်နှာမူပြီး အစာသစ်အိမ်ကို ခေါင်းဖြင့်ရွက်လျက် အစာဟောင်းအိမ်ပေါ်၌ဆောင့်ကြောင့်ထိုင်နေရ၏။ လက်နှစ်ဖက်ဆုပ်လျက် မေး၌ထောက်ပြီး မိုးရွာသည့်အခါ သစ်ခေါင်း ထဲရှိမျောက်အိုကဲ့သို့ အလွန်ကျပ်တည်းကျဉ်းမြောင်းစွာကုပ်ကုပ်လေးနေကြရ၏။ ထိုသို့နေကြရာ၌ မိခင်ကအနေအထိုင် မဆင်ခြင်ဘဲ လျင်မြန်စွာသွားခြင်း၊ လာခြင်း၊ ထိုင်ခြင်း၊ ကော့ခြင်း၊ ကုန်းခြင်း စသည်တို့ကိုပြုလုပ်သောအခါ အရက်သမားလက်တွင်း

---

၁။ ဘိ၊ ၄၊ ၂၊ ၉၀။

ရောက်သည့် ဆိတ်ငယ်ကဲ့သို့လည်းကောင်း၊ အလမ္ပါယ်လက်တွင်း ရောက်သည့် မြွေငယ်ကဲ့သို့လည်းကောင်း တည့်တည့်ဆွဲလိုက်၊ ဟိုက သည်ကဆွဲလိုက်၊ အောက်နှိပ်လိုက်၊ အထက်မြောက်လိုက်၊ လှန်လိုက် စသည်ဖြင့်ပြုလုပ်သည့် ဆင်းရဲကိုခံစားကြရ၏။[၁] ထိုသို့သော ဆင်းရဲများကို သားသမီးများမခံစားစေလိုသောကြောင့် မိခင်များ အနေအထိုင်ဆင်ခြင်ရခြင်းဖြစ်ပါသည်။

ထိုမျှမကသေး ဖွားမြင်သောအခါ၌လည်း မိခင်ဖြစ်သူများ သည် "ယောကျ်ားဖေါင်စီး-မိန်းမမီးနေ" ဆိုသည့်ဆိုရိုးစကား အတိုင်း သေဘေးနှင့်အနီးကပ်ဆုံး ရင်ဆိုင်ကြရ၍ "သေရမည် လော၊ ရှင်ရမည်လော"-ဟု တွေးတောကာ မောကြရ၏။ ဤသို့ သေမင်းနှင့်သူနိုင်၊ ကိုယ်နိုင်အပြိုင်ကျဲကုန်လျက် သေမင်းထံအသက် ကိုအပ်နှံကြကာ ခက်ခက်ခဲခဲဖြင့် မွေးဖွားရလေ၏။ ယင်းသို့ မွေးဖွား ရာ၌ အဆင်မပြေလျှင် ခွဲခြင်း၊ ဖြတ်ခြင်း-စသည်တို့ကို လိုအပ်သလို ပြုလုပ်ကြသဖြင့် မိခင်ဖြစ်သူများသည် ဆင်းရဲကြီးစွာ ခံစားကြရ၏။ အလွန်ကျဉ်းမြောင်းလှသော သံကောက်ပေါက်မှ ဆင်ပြောင်ကြီး ကို အလွန်ခက်ခက်ခဲခဲ ဆွဲထုတ်ရ၍ ထွက်လာရသကဲ့သို့ ထိုအတူပင် သူငယ်ကို အလွန်ကျဉ်းမြောင်းလှစွာသော အရပ်မှ ခက်ခက်ခဲခဲ ဆွဲထုတ်ရ, ထွက်ရသဖြင့် မိခင်များသည် မေ့မြောကြကာ အသက် ထွက်လုမတတ် ဆင်းရဲဒုက္ခကိုခံစားကြရပါသည်။

ထို့ပြင် ဖွားမြင်လာသောအခါ၌လည်း မစင်အညစ် အကြေးများကို မရွံမရှာကိုင်ပြီး သုတ်သင်ကြရ၏။ မစင်စသော

၁။ ဘီ၊ ၄၊ ၂၊ ၉၀။

အညစ်အကြေးများ ပေနေသည့် အဝတ်များကိုလည်း မရွံမရှာကိုင်တွယ်ဖွပ်လျှော်ကြရ၏။ အလွန်အိပ်ကောင်းသည့် ညဥ့်နက်သန်းခေါင်ပင် ဖြစ်စေကာမူ ကလေးငိုလျှင် နိုးထတိုက်ပြီး အငိုတိတ်အောင်ချော့ရလေ၏။

ဤအကြောင်းများကြောင့် မိခင်သည်သားသမီးတို့အတွက် ဖခင်ထက် ပို၍ဒုက္ခခံရသူ၊ ဖခင်ထက်ပို၍ ပြုနိုင်ခဲသောအမှုတို့ကိုပြုလုပ်ရသူ ဖြစ်သည်ဟု ဆိုခြင်းဖြစ်ပါသည်။

**ဖခင်ထက် မိခင်ကပို၍ချစ်ပုံ**

ထိုသို့မိခင်က သားသမီးများအတွက် ဖခင်ထက်ပို၍ဒုက္ခခံစားရခြင်း၊ ပို၍ပြုနိုင်ခဲသောအမှုတို့ကို ပြုလုပ်ရခြင်း-စသည်တို့ကြောင့် မိခင်သည်သားသမီးတို့အား ပို၍ချစ်သည်ဟု ဆိုရပေမည်။ ၎င်းကိုသာဓကအားဖြင့် ဖော်ပြရလျှင်-

ဘုရားရှင်သက်တော်ထင်ရှားရှိတော်မူစဉ် အချိန်တွင် သောရေယျမြို့မှ ကလေးနှစ်ယောက် ဖခင်သောရေယျသူဌေးသားသည် မိတ်ဆွေများနှင့်အတူလှည်းစီး၍ မြို့ပြင်သို့ ရေချိုးထွက်လာ၏။ ထိုအချိန်တွင် အရှင်မဟာကစ္စည်းမထေရ်သည်လည်း သောရေယျမြို့သို့ ဆွမ်းခံဝင်ရန် မြို့ပြင်၌သင်္ကန်းရုံနေ၏။ ယင်းအခိုက်သောရေယျသူဌေးသားသည် ရဟန္တာအရှင်ကစ္စည်းမထေရ်မြတ်၏ ရွှေအဆင်းကဲ့သို့ ဝါဝင်းသောအသားရောင်ကို ဖူးမြင်ရလျှင် "သြော် ဤမထေရ်သည် ငါ၏မယားဖြစ်ပါမူကား ကောင်းလေစွ၊ ငါ၏မယားသည်လည်း ဤမထေရ်ကဲ့သို့ ဖြစ်ပါမူကား ကောင်းလေစွ"-ဟူ၍ စိတ်ဖြင့်ကြံစည်ပြစ်မှားမိလေ၏။ ထိုသို့

ကြံ့စည် ပြစ်မှားကာမျှဖြင့်ပင် ထိုသူဌေးသားသည် ယောကျ်ားအဖြစ်မှမိန်းမအဖြစ်သို့ ပြောင်းလဲသွားလေ၏။ ထိုအမျိုးသမီးသည် ရှက်လွန်းသဖြင့် အိမ်မပြန်တော့ဘဲ တက္ကသိုလ်ပြည်ဘက်သို့ ထွက်လာခဲ့၏။ သူ၏မိဘများက သူသေပြီထင်၍ ဆွမ်းသွတ်လိုက်ကြသည်။

တက္ကသိုလ်ပြည်သို့ရောက်သောအခါ တက္ကသိုလ်မှသူဌေးသားတစ်ယောက်နှင့် အိမ်ထောင်ကျပြီး ကလေးနှစ်ယောက်ထပ်ရပြန်၏။ ဤသို့ဖြင့် သောရေယျ၌ ယခင်ယောကျ်ားဘဝက ကလေးနှစ်ယောက်၊ ယခုမိန်းမဘဝက ကလေးနှစ်ယောက်အားဖြင့် ကလေးလေးယောက်ရှိချေပြီ။ ထိုအခါတွင် သောရေယျမြို့မှ တက္ကသိုလ်သို့လာသော မိမိငယ်သူငယ်ချင်း သူဌေးသားနှင့်တွေ့ဆုံပြီး အကြောင်းစုံပြောပြရာ၊ သူငယ်ချင်းသူဌေးသားက "သြော်ရှင်မ၏အမှုကား ဝန်လေးပေစွ၊ ဤကိစ္စသည် အရှင်မဟာကစ္စည်းမထေရ်မြတ်ကို တောင်းပန်ကန်တော့မှ အဆင်ပြေမည်"-ဟု ပြောဆိုတိုက်တွန်းလေ၏။ ၎င်းညွှန်ကြားချက်အတိုင်း အရှင်မြတ်ကို ပင့်ပြီး ကန်တော့တောင်းပန်ရာ သောရေယျအမျိုးသမီးသည် ယခင်အတိုင်း ယောကျ်ားအဖြစ်သို့ပြန်ရောက်သွားပြန်လေ၏။

ယောကျ်ားဘဝကိုပြန်ရရှိလာသော သောရေယျသည် တစ်ဘဝတည်း၌ပင် မိမိ၏ ဖောက်ဖောက်ပြန်ပြန် ဖြစ်လွန်းလှပုံကို များစွာသံဝေဂဖြစ်ပြီး အရှင်မဟာကစ္စည်းမထေရ်ထံတွင်ပင် ရဟန်းပြုလိုက်လေ၏။ အရှင်မဟာကစ္စည်းမထေရ်သည်ထို သောရေယျရဟန်းတော်ကို နောက်လိုက်ရဟန်းအဖြစ်သာဝတ္ထိမြို့သို့ခေါ်လာ၏။ ထိုသတင်းကို ကြားသိကြသောအနီးဝန်းကျင်မှ

ရွာသူရွာသားများသည် အုတ်အုတ်ကျက်ကျက်ဖြစ်လာကြ၏။ အရှင်သောရေယျထံသို့ သူထက်ငါဝင်ရောက်ဖူးမြော်ပြီး မေးမြန်းလျှောက်ထားကြသည်မှာ- "အရှင်ဘုရား. . အရှင်ဘုရား၏ မိန်းမဘဝက ဝမ်းနှင့်လွယ်၍ ဖွားမြင်ခဲ့ရသောသားနှစ်ယောက်နှင့် ယောကျာ်းဘဝက အရှင်ဘုရားကို အစွဲပြု၍ရရှိခဲ့သော သားနှစ်ယောက်တို့တွင် မည်သည့်သားကိုပို၍ ချစ်ပါသနည်း"- ဟူ၍ မေးမြန်းကြလေ၏။ ထိုအခါ သောရေယျရဟန်းတော်သည်- "ဒါယကာတို့ မိန်းမဘဝက ဝမ်းနှင့်လွယ်၍ ဒုက္ခခံကာ မွေးဖွားခဲ့ရသောသားကို ပို၍ချစ်ပါသည်"-ဟူ၍ ဖြေကြားတော်မူပါသည်။

ဤဖြေကြားချက်စကားသည် တစ်ဘက်မြင်ပုဂ္ဂိုလ်၏ တစ်ဘက်သတ်ဆန်သော ဖြေကြားချက်မဟုတ်၊ မိခင်အဖြစ်၌သာ ရပ်တည်ဖူးသော ပုဂ္ဂိုလ်၏ ဖြေကြားချက်စကားလည်းမဟုတ်၊ စင်စစ်အားဖြင့် တစ်ဘဝတည်း မိခင်အဖြစ်၊ ဖခင်အဖြစ်ဘဝနှစ်မျိုးလုံး၌ ကိုယ်တိုင်ကျင်လည်ခဲ့ဖူးသော ဘက်စုံပုဂ္ဂိုလ်၏ ကိုယ်တွေ့ခံစားချက်အရထွက်ပေါ်လာသော အဖြေစကားဖြစ်ပါသည်။

သို့ဖြစ်၍ ယင်းဖြေကြားချက်စကားအရ၊ ဖခင်ထက်မိခင်က ပိုဒုက္ခခံရ၍ ပိုပြီးချစ်ကြောင်းမှာ ထင်ရှားပါသည်။

ဤသို့ မိခင်သည် သားသမီးများအတွက် ဖခင်ထက်ပိုပြီး ဒုက္ခခံခြင်း၊ ပိုပြီးပြုနိုင်ခဲ့သောအမှုတို့ကို ပြုလုပ်ခြင်း၊ ပို၍ချစ်ခင်ခြင်းစသော အကြောင်းများကြောင့် ပိုပြီးကျေးဇူးများသူဖြစ်ပါသည်။ ထို့ကြောင့်ပင်လျှင် အကျင့်တူမိဘနှစ်ပါးကို သတ်မိရာ၌ မာတုဃာတကကံသာ ထိုက်ရခြင်းဖြစ်သည်ဟုဆိုခြင်း ဖြစ်ပါသည်။

## သုံးသပ်ချက်

ယင်းသို့ အကျင့်တူသူမိဘနှစ်ပါးကို သတ်မိရာ၌ ပိတုဃာတကကံမထိုက်ဘဲ မာတုဃာတကကံသာထိုက်ရခြင်း၏ အဓိက အကြောင်းမှာ - မိခင်က ဖခင်ထက်ပိုပြီး ကျေးဇူးများခြင်း ဟူသော အကြောင်းကို တွေ့ရပါသည်။ တစ်ဖန်ထပ်၍ ကျေးဇူးများရကြောင်းကိုရှာလျှင် မိခင်သည်သားသမီးများအတွက် ဖခင်ထက်ပိုပြီး ဒုက္ခခံရခြင်း၊ ပိုပြီးပြုနိုင်ခဲသောအမှုတို့ကို ပြုလုပ်ရခြင်း၊ ယင်းအချက်များကြောင့် ပိုပြီးချစ်ခင်ခြင်း-စသည့်အကြောင်းအရာများကို တွေ့ရပေမည်။

အကယ်၍ ဖခင်သည်လည်း သားသမီးများအတွက် မိခင်ထက်ပိုပြီး ဒုက္ခခံနိုင်မည်ဆိုလျှင်၊ ပိုပြီးပြုနိုင်ခဲသောအမှုတို့ကို ပြုလုပ်နိုင်မည်ဆိုလျှင်၊ ပိုပြီးချစ်ခင်ခြင်း ရှိမည်ဆိုလျှင်၊ ယင်းအချက်များကြောင့် ပိုပြီးကျေးဇူးများသူဖြစ်ပေမည်။ သို့ဖြစ်လျှင် မာတုဃာတကကံမထိုက်ဘဲ၊ ပိတုဃာတကကံသာ ထိုက်စရာရှိပါသည်။

မှန်ပါသည် အကျင့်တူသူမိဘနှစ်ဦးကို သတ်မိရာ၌ အမိအတွက်သာ ခံရသည် အဖအတွက်သာခံရသည်ဟူသော အဆုံးအဖြတ်သည် မိခင်ဖခင်တို့၏ ပို၍ကျေးဇူးများခြင်း၊ မများခြင်း အပေါ်မူတည်နေသောကြောင့်ပင် ဖြစ်ပါသည်။

သို့ဖြစ်၍ အကျင့်တူသူမိခင်နှစ်ပါးကို သတ်မိရာ၌၊ သားသမီးတို့အတွက် ပို၍ဒုက္ခခံရသော၊ ပို၍ပြုနိုင်ခဲသောအမှုတို့ကို ပြုလုပ်ရသော၊ ပို၍ချစ်ခင်မြတ်နိုးခြင်းရှိသော (ဤအကြောင်းများ

ကြောင့်) ပို၍ကျေးဇူးကြီးမားသော မိခင်အတွက် (သို့မဟုတ်) ဖခင် အတွက် ကြီးလေးသော အပြစ်ကိုခံရလိမ့်မည်-ဟူ၍ ကောက်ချက် ချ မှတ်သားသင့်ပေ၏။ သို့မှသာသဘာဝကျပေမည်။

## ဝိနည်း၌လာသောအဖြေ

ဝိနည်း၌လာသောပုစ္ဆာကအာဘော်ကျ အဖြေမှန်တစ်မျိုး ကိုလည်း ဆက်လက်ထုတ်ဖော်ပြပါဦးမည်။ "အဘကိုသတ် မှတ်တုံ လတ် မိသတ်ကံထိုက်ဘယ့်ကြောင့်နည်း"-ဟူသော ပုစ္ဆာ၏အဖြေ ဝိသဇ္ဇနာကား - ဇနေတ္တိမည်သော အမိရင်းစစ်သည် ဖခင်တုအဖြစ် လိင်ပြန်နေသောကြောင့် ဟုဆိုရပေမည်။ ချဲ့ဦးအံ့ ဇနေတ္တိ မည်သော အမိရင်းစစ်သည် မိန်းမအဖြစ်မှယောက်ျား အဖြစ်သို့ လိင်ပြန်ခဲ့ သည်ရှိသော် ထိုသူကို လောကဝေါဟာရအားဖြင့် အဖဟူ၍သာ ခေါ်ဝေါ်ရပေမည်။ ထိုအဖကိုသတ်လျှင် ဇနကမည်သောအဖရင်း စစ်မဟုတ် (အဖအတုသာဖြစ်နေ)သောကြောင့် ပိတုဃာတက အဖသတ်ကံမထိုက်ဘဲ ထိုအဖသည် ဇနေတ္တိမည်သောအမိရင်း စစ်သာဖြစ်သောကြောင့် မာတုဃာတက အမိသတ် ကံသာထိုက် ပါသည်။ ဤသို့သောအဖြေကိုရည်ရွယ်၍ "အဘကိုသတ်၊ မှန်တုံ လတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့်နည်း"-ဟူ၍ ပုစ္ဆာထုတ်ထားခြင်း ဖြစ်ပါသည်။

"အမိကိုသတ်၊ မှန်တုံလတ်၊ ဖသတ်ကံထိုက်ဘယ့်ကြောင့် နည်း"-ဟု ပုစ္ဆာထုတ်ခဲ့သည်ဖြစ်အံ့။ အဖြေမှာ- ဇနကမည်သော ဖခင်အရင်း ဖခင်အစစ်သည် မိခင်တုအဖြစ်လိင်ပြန်နေသော

ကြောင့်ဟူ၍ ပြောဆိုရပေမည်။ မှန်ပါသည် ဇနကမည်သောဖခင် အရင်းသည် မိန်းမအဖြစ် လိင်ပြန်ခဲ့သည်ရှိသော် ထိုသူကို လောက ဝေါဟာရအားဖြင့် အမိဟူ၍သာ ခေါ်ရပေမည်။ သို့သော် မိခင် အရင်းကား မဟုတ်ပေ၊ မိခင်အတုသာဖြစ်ပါသည်။ ထိုအမိကို သတ်မိလျှင် ဇနေတ္တိမည်သော မိခင်အရင်းမဟုတ်သောကြောင့် မာတုဃာတကကံ မထိုက်ပါ။ ထိုမိခင်သည် ဇနကမည်သော ဖခင် အရင်းသာဖြစ်သောကြောင့် ပိတုဃာတကကံသာထိုက်ပါသည်။

ဤအဖြေမှန်သည် ဝိနည်းပရိဝါဠ်လာရှိသော အဖြေ ဖြစ်ပါသည်။ ၎င်းကိုလက်ရင်းကျကျလေ့လာသိရှိရန် မူရင်းအတိုင်း ဖော်ပြရလျှင် -

> ဣတ္ထိံ ဟနေ န မာတရံ ၊ ပုရိသဉ္စ နပိတရံ ဟနေ
> ဟနေယျ အနရိယံမန္ဒော ၊ တေန စာနန္တရံ ဖုသေ
> ပဉှာ မေသာ ကုသလေတိ စိန္တိတာ။[၁]

အနက်။ ။ ယောမန္ဒော- အကြင်လူမိုက်သည်၊ နမာတရံ- ဇနေတ္တိ[၂]မည်သော အမိရင်းစစ်မဟုတ်သော၊ ဣတ္ထိံ- မိန်းမကို၊ ဟနေ- သတ်အံ့၊ နပိတရံ-ဇနက[၃] မည်သော အဖရင်း စစ်မဟုတ်သော၊ ပုရိသဉ္စ-ယောကျ်ားကိုလည်း၊ ဟနေ- သတ်အံ့၊ အနရိယံ- အရိယာမဟုတ်သော မိန်းမယောကျ်ားကို၊ ဟနေယျ- သတ်ငြားအံ့၊ သောမန္ဒော-ထိုလူမိုက်သည်၊ တေန-ထိုသို့သတ်ခြင်း ကြောင့်၊ အာနန္တရံစ- အာနန္တရိယကံသို့လည်း၊ ဖုသေ-ရောက်ရာ၏။ ဧသာပဉှာ-ဤပြဿနာကို၊ ကုသလေဟိ- လိမ်မာ ကျွမ်းကျင်ကုန် သော ပညာရှိတို့သည်၊ စိန္တိတာ- ကြံစည်အပ်ကုန်၏။

---

၁။ ဝိ၊ ပါ-၅၊ ၃၇၆။ ၂။ ဇနေတ္တိ-ဖြစ်စေတတ်၊ မွေးဖွားတတ်သူ (မိခင်ရင်း)
၃။ ဇနက- (ဖြစ်စေတတ်သူ) ဖခင်။

အဓိပ္ပါယ်ကား- လူမိုက်သည်အရိယာမဟုတ်သော, ဇနေတ္တိမည်သော မိခင်ရင်းလည်း မဟုတ်သောမိန်းမကိုသော်လည်း သတ်ရာ၏။ အရိယာမဟုတ်သော, ဖခင်အရင်းအချာလည်း မဟုတ်သောယောကျ်ားကိုသော်လည်း သတ်ရာ၏။ ထိုသို့ အရိယာမဟုတ်သော မိခင်အရင်းမဟုတ်သူ၊ ဖခင်အရင်းမဟုတ်သူတို့ကို သတ်သော်လည်း အာနန္တရိယကံမှကား မလွတ်ချေ။ မာတုဃာတကကံ၊ ပိတုဃာတကကံထိုက်လေ၏။ ဤပြဿနာကိုပညာရှိတို့ကြံ၍ ဖြေကြပါဟုဆိုလိုပါသည်။

ဤမေးခွန်းမျိုးသည် အာနန္တရိယကံအရာ၌ လိမ္မာကျွမ်းကျင်မှုရှိ, မရှိ၊ စမ်းသပ်သောအနေအားဖြင့် ဉာဏ်စမ်းပုစ္ဆာပြုလုပ်၍မေးအပ်သော မေးခွန်းမျိုးဖြစ်ပါသည်။ ၎င်းဉာဏ်စမ်းမေးခွန်းကို အဋ္ဌကထာဆရာဖြေဆိုထားပုံမှာ -

အယံ ပဉှာ လိင်္ဂပရိဝတ္တနေန ဣတ္ထိဘူတံ ပိတရံ ပုရိသဘူတဉ္စ မာတရံ သန္ဓာယဝုတ္တံ။

အနက်။ ။ အယံပဉှာ- ဤပြဿနာကို၊ လိင်္ဂပရိဝတ္တနေန-လိင်ပြန်ခြင်းကြောင့်၊ ဣတ္ထိဘူတံ- မိန်းမဖြစ်၍ဖြစ်သော၊ ပိတရံစ- အဖကိုလည်းကောင်း၊ ပုရိသဘူတံ- ယောကျ်ားဖြစ်၍ဖြစ်သော၊ မာတရံစ- အမိကိုလည်းကောင်း၊ သန္ဓာယ- ရည်၍၊ ဝုတ္တာ- ဟောတော်မူအပ်၏-ဟူ၍ ဖြေဆိုထားပါသည်။

အဓိပ္ပါယ်မှာ- ဖခင်းရင်းဘဝမှ လိင်ပြန်ခြင်းကြောင့် မိန်းမဖြစ်နေသူကို သတ်လျှင်လည်း၊ ပိတုဃာတကကံမှမလွတ်နိုင်ပါ။ မိခင်အရင်းဘဝမှလိင်ပြန်ခြင်းကြောင့် ယောကျ်ားဖြစ်နေသူကို သတ်လျှင်လည်း မာတုဃာတကကံမှ မလွတ်မြောက်နိုင်ပါ။

ဤသို့သောအဓိပ္ပါယ်ကို ရည်ရွယ်၍ ဘုရားရှင်ဟောတော်မူသည်ဟု ဆိုလိုပါသည်။

ထို့ကြောင့် ဥတ္တရဝိနိစ္ဆယကျမ်း၌လည်း ဤအဓိပ္ပါယ် အတိုင်းပင် အမေးဂါထာ၊ အဖြေဂါထာတို့ဖြင့် ပြဆိုထားပါသည်။ ထိုပြဆိုချက်ကို ဆက်လက်၍ ဖော်ပြရလျှင် -

အမေး။ ပုရိသံ အပိတရံ ဟန္တွာ၊ ဣတ္ထိံဟန္တွာ အမာတရံ၊
အာနန္တရိယကံကမ္မံ၊ အာပဇ္ဇတိ ကထံ နရော။[၁]

အနက်။ ။အပိတရံ- ဇနကမည်သော အဖရင်းစစ် မဟုတ်သော၊ ပုရိသံ- ယောက်ျားကို၊ ဟန္တွာ-သတ်သော၊ နရောစ- လူသည်လည်းကောင်း၊ အမာတရံ- ဇနေတ္တိမည်သောအမိရင်း စစ်မဟုတ်သော၊ ဣတ္ထိံ- မိန်းမကို၊ ဟန္တွာ- သတ်သော၊ နရောစ- လူသည်လည်းကောင်း၊ အာနန္တရိယကံကမ္မံ- အာနန္တရိယမည်သော မာတုဃာတက၊ ပိတုဃာတကကံသို့၊ ကထံ အာပဇ္ဇတိ- အဘယ် အကြောင်းကြောင့် ရောက်သနည်း။

အဖြေဂါထာ။ ပရိဝတ္တေတု လိင်္ဂသ္မိံ၊ ပိတရံ ဣတ္ထိတံဂတံ၊
မာတရံ ပုရိသတ္တံတု၊ ဂတံ ဟန္တွာ ဂရုံဖုသေ။

အနက်။ ။ လိင်္ဂသ္မိံ- လိင်သည်၊ ပရိဝတ္တေတု- ပြန်သည်ရှိရသော်ကား၊ ဣတ္ထိတံ- မိန်းမ၏အဖြစ်သို့၊ ဂတံ- ရောက်သော၊ ပိတရံ- ဇနကမည်သောအဖရင်းစစ်ကို၊ ဟန္တွာစ- သတ်သောသူသည်လည်းကောင်း၊ တု-ထိုမှတစ်ပါး၊ ပုရိသတ္တံ- ယောက်ျား၏အဖြစ်သို့၊ ဂတံ- ရောက်သော၊ မာတရံ- ဇနေတ္တိမည်

၁။ အရှင်အာစရိယဗုဒ္ဓဒတ္တမထေရ်၏ ဝိနယဝိနိစ္ဆယောတထာ ဥတ္တရဝိနိစ္ဆယော ကျမ်း၊ ရန်ကုန်မြို့၊ သာသနာရေးဦးစီးဌာနပုံနှိပ်တိုက်၊ ၁၉၆၂-ခုနှစ်၊ ၃၇၄။

သောအမိရင်းစစ်ကို၊ ဟန္တာစ- သတ်သောသူသည်လည်းကောင်း၊ ဂရုံ- အာနန္တရိယကံသို့၊ ဖုသေ- ရောက်ရာ၏။

အဓိပ္ပါယ်မှာ- အထက်ပါအဓိပ္ပါယ်နှင့်အတူတူပင် ဖြစ်၍ အထူးဖော်ပြစရာမလိုပါ။ ဤကား ဝိနည်း၌လာသော အဖြေ ဖြစ်ပါသည်။

## အာနန္တရိယကံသဘော

ဤနေရာ၌ အာနန္တရိယကံနှင့်စပ်၍ရင်း ကံ၏သဘောကို ဖော်ပြရလျှင်၊ အာနန္တရိယကံဟူသည် စုတိ၏အခြားမဲ့၌အကျိုးပေး မြဲသောကံဖြစ်ပါသည်။ စုတိစိတ်ဖြစ်ပြီး သေပြီးသည်နှင့် တစ်ပြိုင် နက်ချက်ချင်းအပါယ်ငရဲ ပဋိသန္ဓေအကျိုးကို မချွတ်မလွဲအမြဲမုချ ဖြစ်ပေါ်လာစေတတ်သော ကံဟုဆိုလိုပါသည်။ ထို့ပြင် အန္တရာယ် အနှောင့်အယှက် အဖျက်အဆီးမရှိသောကံလည်း ဖြစ်ပါသည်။ အပါယ်ငရဲပဋိသန္ဓေအကျိုးကို မပေးနိုင်စေခြင်းငှါ အခြားသော ဆန့်ကျင်ဘက်ကံများက အန္တရာယ်မပြု၊ မတားမြစ်၊မဖျက်ဆီးနိုင် သောကံမျိုးဖြစ်သည်ဟု ဆိုလိုပါသည်။

ထိုမှတစ်ပါး၊ အာနန္တရိယကံကို (ဒုတိယဘဝ) သေပြီး နောက်ဘဝ၌ အကျိုးပေးသော ဥပပဇ္ဇဝေဒနီယကံဟူ၍လည်း ကောင်း၊ အပြစ်ကြီးလေးသော ဂရုကကံဟူ၍လည်းကောင်း၊ အကျိုးပေးမြဲသော ဓုဝဝိပါကကံဟူ၍လည်းကောင်း အဋ္ဌကထာ တို့၌ အမျိုးမျိုးဖွင့်ဆိုကြပါသည်။[၁]

---

၁။ တိပိဋကပါဠိမြန်မာအဘိဓာန် (အတွဲ-၄-အပိုင်း-၁) နှာ၁၇၀/၂။

မည်သို့ပင်ဆိုစေ ထိုအဆိုများကို အနှစ်ချုပ်ကြည့်လျှင် သေပြီးသည်နှင့်တစ်ပြိုင်နက် ချက်ချင်းအပါယ်ငရဲသို့ မုချရောက်စေတတ်သည်ဟူသော အဓိပ္ပါယ်တစ်မျိုးတည်းကိုသာ တွေ့ရမည်ဖြစ်ပေသည်။ မှန်ပါသည်။ ပုထုဇဉ်တို့သန္တာန်၌ဖြစ်သည့် ပေါထုဇ္ဇနိကသဒ္ဓါတရားနှင့်ပြည့်စုံပြီး ဘုရားရှင်ကို ကြည်ညိုသူတို့တွင် အဇာတသတ်မင်းကို မှီသူတစ်စုံတစ်ယောက်မျှ မရှိချေ။ ထိုသို့ အဇာတသတ်မင်းသည် ပုထုဇဉ်လူသားတို့တွင် ဘုရားရှင်ကို အကြည်ညိုဆုံးပုဂ္ဂိုလ်ပင်ဖြစ်ပါသော်လည်း ဖခင်ဗိမ္ဗိသာရမင်းကြီးအား သတ်ခဲ့သောပိတုဃာတကကံကြောင့် သေသည်နှင့်တစ်ပြိုင်နက်ချက်ချင်းငရဲကျသွားပါသည်။ ထိုသို့ငရဲကျိန်းသေသောကံ ဖြစ်၍ မည်သို့မျှကုစား၍လည်း မရ၊ မည်သူမျှလည်း မကယ်နိုင်၊ ဘုရားရှင်ပင်မကယ်နိုင်၊ တောင်းပန်ကန်တော့၍လည်း မပြေပျောက်နိုင်သောကြောက်စရာအလွန်ကောင်းသောကံမျိုးဖြစ်ပါသည်။

**နိဂုံး**

ဆိုအပ်ပြီးသော ဤစကားရပ်တို့ဖြင့် "အဘကိုသတ်၊ မှန်တုံလတ်၊ မိသတ်ကံထိုက် ဘယ့်ကြောင့်နည်း"ဟူသော စွယ်စုံကျော်ထင်အမေးပုစ္ဆာ၏ အဖြေမှန်ကို ပြဆိုခဲ့ပေပြီ။ ထို့ပြင် ၎င်းအဖြေ၌ရရှိနိုင်သော နည်းဥပဒေသများကို ဖေါ်ပြရလျှင် ရတနာသုံးပါးမိဘစသူတို့သည်အလွန်ကျေးဇူးကြီးမားကြ၏။ ထိုသို့ ကျေးဇူးကြီးမားသည့်အတွက်ကြောင့်ပင် ပြစ်မှားလျှင်လည်း အပြစ် ကြီးလေးသည်ဟူသော ဥပဒေသ၊ အကယ်၍ စိတ်ဖြင့်မဟုတ်ဘဲ ကိုယ်ထိ လက်ရောက် ကျူးလွန်မိလျှင်ကား ခံစားရမည့်အပြစ် များမှာ ဆိုဖွယ်ရာ

ပင်ရှိမည် မဟုတ်ချေ။ ကုစား၍လည်းမရ၊ ကန်တော့ တောင်းပန်၍လည်း မရနိုင်သော အာနန္တရိယကံကြီးထိုက်ပြီး အလွန်ကြောက်စရာကောင်းသောအပါယ်ငရဲသို့ မုချဧကန် ကျရောက်ခံစားရလေတော့၏။ ဤသို့အပါယ်ကျမည့် ဘေးဆိုးကြီးကို သံဝေဂယူပြီး ရတနာသုံးပါး၊ မိဘစသူတို့ကို ကိုယ်ထိ,လက်ရောက်ပြစ်မှား စော်ကားခြင်းမှ အထူးရှောင်ကြဉ် သင့်သည် ဟူသော ဥပဒေသ၊ ထိုကျေးဇူးရှင်တို့ကို ရိုသေလေးစားစွာ ပြုစု လုပ်ကျွေးဆည်းကပ်ကိုးကွယ်ပူဇော်လျှင်လည်း အလွန်အကျိုးကြီးလှ၏။ အပါယ်မီးငြိမ်းပြီး အလိုရှိအပ်သော လောကီ,လောကုတ္တရာ နိဗ္ဗာန်ချမ်းသာရသည်အထိ အကျိုးပြီးနိုင်၏။ သို့ဖြစ်၍ ဆင်းရဲဒုက္ခအမျိုးမျိုးမှ ကင်းဝေးပြီး၊ ကောင်းကျိုးချမ်းသာ အမျိုးမျိုးတို့ ပြည့်ဝလာစေရန် ကျေးဇူးကြီးမားသည့် ရတနာသုံးပါး၊ မိဘစသူတို့အား စိတ်ဖြင့်ပင်မပြစ်မှားဘဲ ရှိခိုးပူဇော်ခြင်း၊ ရိုသေ လေးစားစွာ ပြုစုလုပ်ကျွေးခြင်း၊ ဆည်းကပ်ကိုးကွယ်ခြင်း စသော အမှုတို့ဖြင့် တတ်နိုင်သမျှ ကျေးဇူးဆပ်ရမည်ဟူသော ဥပဒေသ၊ မာတုဃာတကကံ ပိတုဃာတကကံ ထိုက်သည်၊ မထိုက် သည်ကို ဆုံးဖြတ်ရာ လိင်မည်မျှပင်ပြောင်းပြောင်း ပဓာနကျသည့် မူလက မိခင်ရင်း,ဖခင်ရင်း အဖြစ်ကိုသာ ကြည့်ပြီး ဆုံးဖြတ်ရမည်ဟူသော ဥပဒေသများကိုဖော်ပြနေကြောင်း တင်ပြအပ်ပါသည်။



# အခန်း(၇)

## သတ္တဝါစိတ်၊ ဘုရားစိတ်၊
## ဘယ်စိတ်သာ၍လျင်သနည်း။ (၄၆၃)

### မူရင်းအဖြေ

"သတ္တဝါစိတ်၊ ဘုရားစိတ်၊ ဘယ်စိတ်သာ၍လျင်သနည်း" ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား -

ဗုဒ္ဓါနဉ္စ ဘဝင်္ဂပရိဝါသော လဟုကော၊ ဒန္တာဝရဏံ
သုဖုသိတံ၊ မုခါဒါနံ သိလိဋ္ဌံ၊ ဇိဝှါမုဒုတာ သဒ္ဒေါ မဓုရော၊
ဝစနံ လဟုပရိဝတ္တံ၊ တသ္မာ တံ မုဟုတ္တံ ဒေသိတမ္မောပိ
ဧတ္တကော ဟောတိ။

-အစရှိသည်ဖြင့် အဋ္ဌသာလိနီ၌လာသည်။

အဓိပ္ပါယ်ကား- ဘုရားသခင်တို့အား ဘဝင်ကျခြင်းသည် လျင်၏။ နှုတ်ခမ်းတော်နှစ်ဖက်သည်ကောင်းစွာ ထိခိုက်၏၊ ခံတွင်းကိုဖွင့်ခြင်း၊ ပိတ်ခြင်းစသည်ဖြည်းညှင်း၏။ လျှာတော်သည်နူးညံ့၏။ အသံတော်သည် အလွန်သာယာ၏။ စကားတော်သည် လျင်သောအဖြစ်ရှိ၏။ ထို့ကြောင့် တမုဟုတ်မျှဟောတော်မူသောတရားတော်သည်၊ ဤဒီဃနိကာယ်,မဇ္ဈိမနိကာယ်ပမာဏရှိသည်ဖြစ်၏ဟူ၍ ဆိုသောကြောင့် သတ္တဝါတို့၏ စိတ်ထက် ဘုရားသခင်စိတ်သည် အဆအရာမကသာ၍ လျင်မြန်၏ဟု သိရမည်။

ဤအဋ္ဌကထာပါဠိ၌ ဘုရားသခင်၏စကားတော် လျင်ကြောင်းကိုသာ တိုက်ရိုက်ပါသည်။ စိတ်လျင်ကြောင်းကို မပါ တကားဟူငြားအံ့၊ အကျိုးဖြစ်သောစကားတော်၏ လျင်ကြောင်းကို ဆိုသဖြင့် အကြောင်းဖြစ်သော ဝိညတ္တိသမုဋ္ဌာပက စိတ်၏လျင်ဟန်သည်လည်း၊ ဖလာနုမာနနည်း၊ အဝုတ္တသိဒ္ဓိနည်းအားဖြင့် ပြီးပြည့်စုံတော့သည်ဟူပေ။

တစ်နည်းလည်း- ဘဝင်ကျခြင်း၏ လျင်ဟန်ကို တိုက်ရိုက်ဆိုသဖြင့် ထိုအကြား၌ဖြစ်သော ဝီထိစိတ်တို့၏ လျင်မြန်သောအဖြစ်သည်လည်း ပရိကပ္ပသိဒ္ဓိနည်းအားဖြင့် ပြီးပြည့်စုံတော့သည်ဟူပေ။

ဤအဖြေကား စွယ်စုံကျော်ထင်ကျမ်း၌ တိုက်ရိုက်လာသောအဖြေဖြစ်၏။

## ပြဿနာဖြစ်ရသည့်အချက်

ယင်းအဖြေ၌ပြဿနာဖြစ်ရသည့်အချက်မှာ "သတ္တဝါတို့၏ စိတ်ထက် ဘုရားသခင်စိတ်သည် အဆအရာမကသာ၍ လျင်မြန်၏။"ဟူသော အချက်ပင်ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

အဖြေဆရာတော်၏ အဓိကကျသောအကြောင်းပြချက်မှာ ဘုရားရှင်သည် ဘဝင်ကျခြင်း လျင်မြန်သောကြောင့်၊ ထိုအကြား၌ဖြစ်သော ဝီထိစိတ်တို့၏ လျင်မြန်သောအဖြစ်သည်လည်း ပရိကပ္ပသိဒ္ဓိနည်းအားဖြင့် ပြီးပြည့်စုံတော့သည်-ဟူ၍ ဆိုပါသည်။

ပုစ္ဆကဆရာက မျက်စိတစ်မှိတ်အတွင်း၌ များစွာသော ဝီထိစိတ်ကို ရည်ရွယ်၍မေးလျှင်၊ ယင်းအဖြေမှန်ပါသည်။ အဘယ့်ကြောင့်ဆိုသော်-

ဘဝင်္ဂပရိဝါသော လဟုကော-၏ ဆိုလိုရင်းအဓိပ္ပါယ်မှာ ရှေ့ဝီထိနှင့် နောက်ဝီထိအကြား၌ သတ္တဝါတိုင်းမှာ ဘဝင်များစွာ ကျရိုးဖြစ်၏။ သို့သော် ဘုရားရှင်အား ထိုသို့မဟုတ် ဘဝင်နှစ်ကြိမ်၊ သုံးကြိမ်ကျရုံမျှဖြင့် ကိစ္စပြီး၏။ ထိုသို့ဘုရားရှင်အား ဘဝင်ကျသော အကြိမ်နည်းခြင်းကိုပင် ဘဝင်္ဂပရိဝါသော လဟုကော-ဟု ဆိုခြင်းဖြစ်ပါသည်။

သို့ဖြစ်၍ မျက်စိတစ်မှိတ်အချိန်ကာလအတွင်း၌ စိတ်ပေါင်း ကုဋေတစ်သိန်းမက ဖြစ်ပျက်ရာတွင် သတ္တဝါများအဖို့ ဘဝင်စိတ် (မသိစိတ်) ကအဖြစ်များပြီး၊ ဝီထိစိတ်(သိစိတ်)က အဖြစ်နည်းသော်လည်း၊ ဘုရားရှင်အဖို့မှာမူ ဘဝင်စိတ်ကအဖြစ်နည်းပြီး၊ ဝီထိစိတ်ကအဖြစ်များသည်မှာ ထင်ရှားနေပေသည်။

မှန်ပါသည် ထို့ကြောင့်ပင် မြတ်စွာဘုရားသည် လက်ျာမျက်လုံးတော်မှ မီးအလျှံ၊ လက်ဝဲမျက်လုံးတော်မှ ရေအယဉ်၊ လက်ချောင်းခြေချောင်းတော်တို့မှ မီးအလျှံ၊ လက်ချောင်းခြေချောင်းတော်ဆယ်ဆူတို့၏ အကြားအကြားမှ၊ ရေအယဉ်၊ မွေးညှင်းတော်တစ်ဆူ့တစ်ဆူမှ မီးအလျှံ၊ အခြား့အခြားသော မွေးညှင်းတော်တစ်ဆူ့တစ်ဆူမှ ရေအယဉ်၊ ဤသို့စသည်ဖြင့် ရေ့မီးအစုံ့အစုံ တန်ခိုးပြာဋိဟာကိုပြတော်မူသောအခါတွင် မီးအလျှံနှင့်ရေအယဉ်တို့သည် တစ်ပြိုင်နက်တည်းဖြစ်သကဲ့သို့ ထင်မှတ်ကြရပါသည်။

သို့သော်တစ်ပြိုင်နက်တည်းမဟုတ်၊ အဘယ့်ကြောင့်ဆိုသော်၊ စိတ်နှစ်ခုတစ်ပြိုင်နက်တည်း မဖြစ်ကောင်းသောကြောင့် ပင်ဖြစ်ပါသည်။ မီးအလျှံထွက်ရန်တေဇောကသိုဏ်းစျာန်ကို ဝင်စား၍ ရေအယဉ်ထွက်ရန် အာပေါကသိုဏ်းစျာန်ကို ဝင်စားရပါသည်။ မီးအလျှံကို ဖန်ဆင်းသည်ကား တစ်ကာလ၊ ရေအယဉ်ကိုဖန်ဆင်းသည်ကား တစ်ကာလဖြစ်၏။ ဤသို့ကာလကွာခြားသော်လည်း မြတ်စွာဘုရား၏ တစ်ဝီထိနှင့်တစ်ဝီထိအကြား ဘဝင်ကျမှုနည်းပါးပြီး၊ ဝီထိစိတ်များအဖြစ်များသောကြောင့်လည်းကောင်း၊ ဝသီဘော်ငါပါးအထွက်အထိပ်သို့ ရောက်တော်မူသောကြောင့်လည်းကောင်း၊ တစ်ပြိုင်နက်တည်းဖြစ်သည်ဟု ထင်မှတ်ကြရပါသည်။[၁]

ဤသာဓကအရ ဘုရားရှင်၏စိတ်တော်သည် ဘဝင်စိတ်အဖြစ်နည်းပြီး၊ ဝီထိစိတ်အဖြစ်များပုံကို သိနိုင်ပါသည်။

မျက်စိတစ်မှိတ် အချိန်ကာလအတွင်း၌ ယင်းသို့ဘုရားရှင်၏ စိတ်သည် သတ္တဝါတို့၏စိတ်ထက် ဘဝင်စိတ်အဖြစ်နည်းပြီး၊ ဝီထိစိတ်အဖြစ်များသည်ကို မြတ်စွာဘုရား၏ ဝီထိစိတ်သည်အဖြစ်မြန်သည်ဟု ပုစ္ဆကဆရာတော်ယူဆပြီး မေးလျှင်ယင်းအဖြေမှန်ပါသည်။

ထိုသို့မဟုတ် ဘဝင်စိတ်၊ ဝီထိစိတ်မခွဲခြားဘဲ၊ ဘဝင်စိတ်၊ ဝီထိစိတ်အလုံးစုံကိုရည်ရွယ်၍မေးလျှင် ဝါ-စိတ္တလက္ခဏတစ်ခုချင်း၏ သက်တမ်းကာလကို ရည်ရွယ်၍မေးလျှင် ယင်းအဖြေမမှန်ပါ။

---

၁။ ဒီ၊ဋ္ဌ-၊ ၅၇။ ဘီ၊ဋ္ဌ-၁၁၆။

"ဘဝင်္ဂပရိဝါသော လဟုကော"၏ အဓိပ္ပါယ်မှာ- ဖော်ပြခဲ့ပြီးသည့်အတိုင်း ဘဝင်စိတ်အနည်းငယ်မျှသာဖြစ်ပြီး၊ ဇောဝီထိစိတ်များစွာဖြစ်သည်ဟု-ဆိုလိုပါသည်။ မြတ်စွာဘုရား၏အလုံးစုံသောစိတ်တော်သည် သတ္တဝါတို့စိတ်ထက် ဖြစ်ခြင်းလျင်မြန်သည်ကိုမဆိုလိုပါ။ အလျင်အမြန်ဖြစ်ခြင်းကား၊ သတ္တဝါစိတ်နှင့်ဘုရားရှင်စိတ်တော်သည် ထူးခြားမှုမရှိ၊ အတူတူပင်လျင်မြန်ကြ၏-ဟူ၍ဖြေဆိုရပေမည်။

မှန်ပါသည်။ စိတ်တစ်ခု,တစ်ခု၌ ဖြစ်ပေါ်ရာကာလ ဥပါဒ်ခဏ၊ တည်တန့်ရာကာလဌီခဏ၊ ချုပ်ပျက်ရာကာလ ဘင်ခဏ-ဟု အခိုက်အတန့်ကာလ ခဏငယ်(၃)ခုရှိ၏။ ယင်းခဏ ငယ်(၃)ခုအပေါင်းသည် စိတ်တစ်ခု၏သက်တမ်းကာလ စိတ္တက္ခဏတစ်ခု (ခဏကြီးတစ်ခု) ဖြစ်ပါသည်။ စိတ်မှန်လျှင် မည်သူ၏ စိတ်မဆိုယင်းခဏငယ် (၃) ချက်သက်တမ်းထက်အပိုအလိုမရှိစေရ။ ဤသည်မှာ စိတ်ပရမတ္ထ၏သက်တမ်းနှင့် ပတ်သက်သော မှန်ကန်သည့် နိယာမသဘောတရားပင် ဖြစ်ပါသည်။

ယင်းစိတ္တက္ခဏတစ်ခုသည် မျက်စိတစ်မှိတ်၊လျှပ်တစ်ပြက်၊ လက်ဖျစ်တစ်တွက်အချိန်ကာလကို ကုဋေတစ်သိန်းစိတ်လျှင် တစ်စိတ်ခန့်မျှသာ ရှည်ကြာပါသည်။[၁]

သို့ဖြစ်၍ မျက်စိတစ်မှိတ်အချိန်ကာလအတွင်း၌ဥပါဒ်,ဌီ, ဘင်နှင့်ပြည့်စုံသောစိတ်ပေါင်း (ဝါ) စိတ္တက္ခဏပေါင်း ကုဋေတစ်သိန်းဖြစ်ပျက်နိုင်ပါသည်။

---

၁။ ပရမတ္ထဒီပနီ-၁၄၈။

ထို့ကြောင့် အဋ္ဌကထာတို့၌ -
ဧကစ္စရက္ခဏေ ကောဋိသတသဟဿသင်္ချာ
ဥပ္ပဇ္ဇိတွာ နိရုဇ္ဈတိ။[၁] -ဟူ၍လည်းကောင်း။
ဧကသ္မိံ ဟိ အစ္ဆရာက္ခဏေ အနေကာနိစိတ္တ
ကောဋိသတသဟဿာနိ ဥပ္ပဇ္ဇန္တိ။[၂]- ဟူ၍လည်းကောင်း
မိန့်ဆိုကြ၏။

အဓိပ္ပါယ်မှာ- လျှက်ဖက်တစ်တွက်ကာလအတွင်း၌ စိတ် (စေတသိက်)တို့သည် (အကြိမ်ပေါင်း) ကုဋေတစ်သိန်း (ရှေ့နောက်ဆက်၍) ဖြစ်ပျက်ကုန်၏-ဟု ဆိုလိုပါသည်။

သို့ဖြစ်၍ စိတ်မှန်လျှင် မည်သူ့စိတ်မဆို မျက်စိတစ်မှိတ် လက်ဖျက်တစ်တွက်ကာလအတွင်း၌ ကုဋေတစ်သိန်းဖြစ်ပျက်နိုင်သည်ဟု ဆိုရပေမည်။ သို့မှသာမျက်နှာမလိုက်သော ပရမတ္ထသဘောတရားနှင့် ကိုက်ညီပေမည်။

ထိုသို့မဟုတ် သတ္တဝါတို့၏ စိတ်သည်မျက်စိတစ်မှိတ် အတွင်း၌ အနည်းငယ်မျှသာဖြစ်ပျက်ပြီး ဘုရားရှင်၏စိတ်တော်မှာမူ ကုဋေတစ်သိန်းမက ဖြစ်ပျက်သည်ဟုဆိုလျှင် သဘာဝကျမည် မဟုတ်ချေ။

ထို့ကြောင့် သတ္တဝါတို့၏ စိတ်နှင့်ဘုရားရှင်၏စိတ်တော်သည် (ဝါ) စိတ္တက္ခဏတစ်ခုချင်း၏ သက်တမ်းကာလသည် အလျင်အမြန်ချင်း မထူးခြား အတူတူပင် လျင်မြန်ကြသည်ဟု ဆိုခြင်း ဖြစ်ပါသည်။

---

၁။ ဘိ၊ဋ္ဌ-၂ ၃၁။ ၂။သံ၊ ဋ္ဌ-၂၉၂။

## နိဂုံး

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် အဖြေဆရာတော် ဖြေဆိုထားသော "သတ္တဝါတို့၏စိတ်ထက် ဘုရားသခင်စိတ်သည် အဆအရာမက သာ၍လျင်မြန်၏"ဟူသော အဖြေသည် ပုစ္ဆက ဆရာက လက်ဖျက်တစ်တွက် ကာလအတွင်း၌အဖြစ်များသော ဝီထိစိတ်ကို ရည်ရွယ်၍မေးလျှင် ၎င်းအဖြေမှန်ပါသည်။ ထိုသို့ မဟုတ်ဘဝင်စိတ်, ဝီထိစိတ် မခွဲခြားဘဲ အလုံးစုံသော စိတ်ကို ရည်ရွယ်၍မေးလျှင် ၎င်းအဖြေမမှန်ကန်ပါ။ စိတ္တက္ခဏတစ်ခုချင်း ၏သက်တမ်းကာလမှာ အတူတူပင် ဖြစ်ပါသည်။ ဘုရားရှင်၏ စိတ္တက္ခဏတစ်ခုသည်လည်း ဥပါဒ်,ဋ္ဌီ,ဘင်ဟူသော ခဏငယ်သုံးချက်၊ သတ္တဝါတို့၏ စိတ္တက္ခဏတစ်ခုသည်လည်း ၎င်းခဏငယ် သုံးချက်မျှ သာအသက်ရှည်ကြပါသည်။ မျက်စိတစ်မှိတ် လက်ဖျစ်တစ်တွက် ကာလအတွင်း၌ ဘုရားရှင်၏စိတ်တော်သည် ကုဋေတစ်သိန်းဖြစ်, ပျက်နိုင်လျှင် သတ္တဝါတို့၏စိတ်သည်လည်း ကုဋေတစ်သိန်းဖြစ်, ပျက်နိုင်ပေမည်။ မည်သူ့စိတ်မှပို၍ မြန်ခြင်း၊ နှေးခြင်းမရှိပါ။ သို့မှသာ မျက်နှာမလိုက်သော ပရမတ္ထသဘာဝနှင့် ညီညွတ်သော အဖြေဖြစ်ပေမည်။ ထို့ကြောင့် သတ္တဝါတို့၏ စိတ်နှင့် ဘုရားရှင်၏ စိတ်တော်သည် အလျင်အမြန်ချင်း ထူးခြားမှု မရှိ၊ အတူတူပင်ဖြစ် သည်ဟူ၍-မှတ်ယူရမည်ဖြစ်ကြောင်း လေ့လာတင်ပြအပ်ပါ သတည်း။ ။



# အခန်း (၈)

## စုတေနီးစိတ်၊ သုံးနိမိတ်၊ ဆုံးပိတ်ရဟန္တာထင်လိမ့်နည်း။ (၄၆၉)

### မူရင်းအဖြေ

"စုတေနီးစိတ်၊ သုံးနိမိတ်၊ ဆုံးပိတ်ရဟန္တာ ထင်လိမ့်နည်း"ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ရဟန္တာတို့ အား နိဗ္ဗာန်ယူသောအခါ စုတိ၏အနီးဖြစ်သောစိတ်သည် နိဗ္ဗာန်ကိုသာ အာရုံပြုရကား၊ "နိမိတ်သုံးပါးသည် မထင်ပြီ"ဟု ဖြေ။

ဤ၌ အဓိပ္ပါယ်ကို သိသာအောင်ဆိုလိုက်ဦးအံ့- အလုံးစုံသောသတ္တဝါတို့အား သေခါနီးကာလ၌ နိမိတ်သုံးပါးတို့တွင် တစ်ပါးပါးသည်ကံအားလျော်စွာ ထင်မြဲဟုဆိုသော်လည်း နောင်ပဋိသန္ဓေ မနေလတ့်သောရဟန္တာတို့အား ထင်ပါဦးအံ့လော-ဟူသော စောဒနာကို ဖြေလို၍ ဋီကာကျော်၌-

ယထာရဟန္တိ တံတံ ဂတိသု ဥပ္ပဇ္ဇနက သတ္တာနုရူပံ၊ ကတ္တစိ ပန အနုပ္ပဇ္ဇမာနဿ ခီဏာသဝဿ ယထော ပဋ္ဌိတံ နာမရူပမတ္တာဒိကမေဝ စုတိပရိယောသာနံ ဂေါစရဘာဝံ ဂစ္ဆတိ၊ နကမ္မ ကမ္မနိမိတ္တာဒယော-

ဟူ၍ မိန့်သည်။

အနက်ကား။ ။ ယထာရဟန္တိ- ယထာရဟံဟူသည်ကား၊ တံတံဂတီသု- ထိုထိုသို့သောဂတိတို့၌၊ ဥပ္ပဇ္ဇနက သတ္တာနုရူပံ၊ ဖြစ်ထိုက်သော သတ္တဝါအားလျော်စွာ၊ ကမ္မံဝါ- ကံသည်လည်းကောင်း၊ ကမ္မနိမိတ္တံဝါ- ကမ္မနိမိတ်သည်လည်းကောင်း၊ ဂတိနိမိတ္တံဝါ၊ ဂတိနိမိတ်သည်လည်းကောင်း၊ ပစ္စုပဋ္ဌာတိ- ရှေးရှုထင်၏။ ပန- မထင်သည်ကိုဆိုလိုက်ဦးအံ့၊ ကတ္ထစိ- တစ်စုံတစ်ခုသောဂတိ၌၊ အနုပ္ပဇ္ဇမာနဿ- မဖြစ်ထိုက်သော၊ (ဝါ) မဖြစ်လတ့်သော၊ ခီဏာသဝဿ- ရဟန္တာပုဂ္ဂိုလ်အား၊ ယတောပဋ္ဌိတံ - အကြင်အကြင်ထင်တိုင်းသော၊ နာမရူပဓမ္မာဒိကမေဝ- နာမ်ရုပ်တို့၏ အနိစ္စသဘောအစရှိသည်သာလျှင်၊ စုတိပရိယောသာနံ- စုတိအဆုံးရှိသောမရဏာသန္နဝီထိစိတ်တို့၏၊ ဂေါစရဘာဝံ- အာရုံ၏ အဖြစ်သို့၊ ဂစ္ဆတိ- ရောက်၏။ ကမ္မကမ္မနိမိတ္တာဒယော- ကံ,ကမ္မနိမိတ်အစရှိသည်တို့သည်၊ ဂေါစရဘာဝံ၊ အာရုံ၏အဖြစ်သို့၊ နဂစ္ဆတိ- မရောက်။

အဓိပ္ပါယ်ကား။ ။ ထိုထိုသို့သော ဂတိတို့၌ဖြစ်ထိုက်သော သတ္တဝါအားလျော်စွာသာလျှင် နိမိတ်သုံးပါးတွင် တစ်ပါးပါးသည်ထင်၏။ တစ်စုံတစ်ခုသောဘဝဂတိ၌ မဖြစ်လတ္တံ့သော ရဟန္တာပုဂ္ဂိုလ်ကား အကြင်အကြင်ဝိပဿနာဉာဏ်ဖြင့်တင်၍ ထင်ခဲ့တိုင်းသော နာမ်ရုပ်တရားတို့၏ ခယဝယသဘောသာလျှင် စုတိအဆုံးရှိသော မရဏာသန္နဝီထိစိတ်တို့၏ အာရုံအဖြစ်သို့ ရောက်၏။ ကံ,ကမ္မနိမိတ်,ဂတိနိမိတ်သုံးပါးတို့တွင် တစ်ပါးပါးသည် အာရုံအဖြစ်သို့မရောက်ပြီဟုဆိုလိုသည်။

ဤအရာ၌ ဆရာတို့ဝါဒကွဲသည်ကား များ၏။ အဘယ်ကဲ့သို့ ကွဲသနည်းဟူမူကား-

"ပဋိသန္ဓေ,ဘဝင်,စုတိစိတ်တို့သည် ဘူမိ,ဇာတိ, သမ္ပယုတ္တဓမ္မ,သင်္ခါရ,အာရုံအားဖြင့်တူမြဲ-ဟု အဋ္ဌကထာဆရာပင် ဆိုရကား ရဟန္တာ၏ စုတိသည်လည်း ထင်တိုင်းသောသင်္ခါရတို့၏ ခယ,ဝယသဘောစသည်ကို အာရုံမပြုသင့်၊ အကယ်၍ပြုသည်ဖြစ်အံ့၊ ပဋိသန္ဓေ,ဘဝင်နှင့် စုတိသည်အာရုံမတူဖြစ်၍ အဋ္ဌကထာနှင့် ဆန့်ကျင်ရာ၏။ ထို့ကြောင့် "စုတိပရိယောသာနံ" ဟူသောဋီကာပါဌ်ကို အတဂ္ဂုဏသမာသ်ကြံ၍ အညပုဒ်၏အရကို စုတိမှတစ်ပါးသောဝီထိစိတ်ယူရမည်၊ ထိုစိတ်တို့၏အာရုံသာလျှင် ထင်တိုင်းသောသင်္ခါရတို့၏ ခယ,ဝယသဘောဖြစ်သည်။ "စုတိမူကား ယူမြဲတိုင်းသောနိမိတ်သုံးပါးတွင် တစ်ပါးပါးပင် ဖြစ်သင့်သည်"ဟူ၍ ဟံသာဝတီဆင်ဖြူရှင်လက်ထက်ရေးသော အဖေဂ္ဂုသာရဒီပနီ ဆရာ ဆိုသည်။

ထိုကဲ့သို့ ပေါက္ကံဆရာတော်လည်း အယူရှိသည်၊ ထို့ကြောင့် အဘိဓာန်ဋီကာကိုစီရင်သော စတုရင်္ဂဗလအမတ်က ဤပြဿနာကိုကဗျာစီ၍ မေးလျှောက်ရာ ၎င်းပေါက္ကံဆရာတော်က-

တို့စောထွက်လျှင်၊ မဉ္ဇူတ်နိဗ္ဗာ၊ ဝင်သောခါ၌၊ အနိစ္စာ- ဒုက္ခ, အနတ္တသာ၊ ဈာန်အင်္ဂါကို၊ ပစ္စဝေက္ခဏာဇော၊ လျင်လျင်စောမှု၊ တီတောအောင်ထွန်၊ မစ္စုမာရ်ကို၊ လွန်ခဲ့ ကျော်ဘိ၊ စုတိတော်စိတ်၊ အတိတ်နှင်နှင်၊ သုံးပါးတွင်တွင်၊ ထင်၏ တစ်စိ၊ ဂတိနိမိတ်၊ တိဟိတ် ပဋိသန္ဓေ၊ ယူနေသောခါ၊ တုသိတာမှ၊ ပဥ္စာလောကန၊ ကြည့်ပြီးမှလျှင်၊ ဘဝပြောင်း

လာ၊ ဤကြောင်းချာကို၊ ပညာရှိထွေ၊ ကြံမိစေလော့၊
သန္တေဘဝင်၊ သုံးအင်စုတိ၊ တူဘိအာရုံ၊ ပြုတုံမချွတ်၊
ပရမတ်သည်၊ ဟောမှတ်ဇကန်သာတမ္ဘ်။ -ဟူ၍ ဖြေဆိုသည်။

ဤသို့ပမာဏပြုလောက်သော ဆရာတို့ပင်ဘုရား,ရဟန္တာတို့၏ စုတိစိတ်သည် နိမိတ်သုံးပါးတွင် တစ်ပါးပါးကို အာရုံပြုကြောင်းကို ပြဆိုသောကြောင့် နောက်နောက်သောပညာရှိတို့လည်း ထိုဆရာတို့၏ နည်းတူပင် ယူသူလည်းယူသည်၊ ဝိထိလက်ရိုးကို စီရင်သောနန်းကျောင်းဆရာ၊ တောင်တွင်းကျော်ဆရာတို့ကား စုတိနှင့်တကွသော မရဏာသန္နစိတ်ဟူသမျှသည် ထင်တိုင်းသောသင်္ခါရကို အာရုံပြုသည်ဟု သင်ရိုးပြုကြသည်။

ဤစွယ်စုံကျော်ထင်ပုဏ္ဏာကိုစီရင်သော ကျည်းကန်ဆရာတော်ကြီးလည်း မုံရွေးဆရာအမေး ၅၅-ရပ်ကို ဖြေဆိုရာ၌ စုတိစိတ်သည် နိဗ္ဗာန်ကိုအာရုံပြုကြောင်းဖြင့် ဖြေဆိုသည်။ ဤသို့ ဝါဒကွဲပြားကြသည်။

ဤသို့ကွဲပြားကြရာ၌ ဆင်ခြင်ရာသည်ကား- အဖေဂ္ဂုဋီကာ၊ ပေါက္ကံဆရာတော်တို့၏ စကားအတိုင်း စုတိမှတစ်ပါးသော မရဏာသန္နစိတ်တို့လျှင် ထင်တိုင်းသောသင်္ခါရကိုအာရုံပြု၍ စုတိစိတ်သည် ဂတိနိမိတ်ကို အာရုံပြုခဲ့သော် ထိုဂတိနိမိတ်လည်း ပစ္စုပ္ပန်ရူပါရုံဖြစ်ရကား ထိုရူပါရုံသည် စုတိတည်းဟူသောစိတ်တစ်ချက်သာ အသက်ရှိခဲ့ရာ၏။ ယင်းသို့ စိတ်တစ်ချက်သာ အသက်ရှိခဲ့သော် "တာနိ ပန သတ္တရသ စိတ္တက္ခဏာနိ ရူပမ္မာနမာယူ"ဟူသော အဋ္ဌကထာစကားနှင့်လည်း ဆန့်ကျင်ရာ၏။ အဘယ့်ကြောင့်နည်းဟူမူ ဝိညတ်ဒွေး,လက္ခဏာရုပ်မှတစ်ပါးသော ရုပ်တို့သည်

သတ္တရသာယုကဖြစ်ကြောင်း သာလာသည်။ ထို့ကြောင့် အဖေဂ္ဂု ဆရာတို့၏ စကားသည် ငါးတစ်ကိုသာမြင်၍ ကြော့ကွင်းကို မမြင် သကဲ့သို့ဖြစ်သည်။

ပရိနိဗ္ဗာနသုတ် အဋ္ဌကထာ၌-

"သန္တိမာရဗ္ဘာတိ အနုပါဒိသေသံ နိဗ္ဗာနံအာရဗ္ဘ

ပဋိစ္စသန္ဓာယ ယံကာလံ အကရိ"

စသည်ဖြင့် ဘုရားသခင်နိဗ္ဗာန်ကိုအာရုံပြု၍ စုတိကြောင်း ကိုဆိုသည်။ ထိုစကားနှင့်လည်း ဆန့်ကျင်ရာသည်။ ထို့ကြောင့် အဖေဂ္ဂုဏာဆရာတို့၏ ဝါဒသည် သာရမရှိထင်ပေသည်။ ဝီထိလက် ရိုးဆရာတို့၏ စကားအတိုင်း စုတိနှင့်တကွသော မရဏာသန္နစိတ် တို့သည် ထင်တိုင်းသောသင်္ခါရဟုဆိုအပ်သော နိဗ္ဗာန်ကို အာရုံပြု၏ ဟုမှတ်ရာသည်။

ထိုသို့ယူမူ "ပဋိသဒ္ဓိဘဝင်္ဂ၊ တထာစဝနမာနသံ"ဟူသော ဂါထာနှင့်ညီပါတော့အံ့လော-ဟူငြားအံ့၊ ဤဂါထာစကားသည် ဘဝ မဆုံးသေးသောသူကိုသာရည်၍ဆိုသောစကားဖြစ်ရကား ထိုစကားနှင့်မညီသော်လည်း အပြစ်မရှိပေ။

## ပြဿနာဖြစ်ရသည့်အချက်များ

အထက်ပါအဖြေကား စွယ်စုံကျော်ထင်ကျမ်း၌ လာသောမူ ရင်းအဖြေဖြစ်၏။ ယင်းအဖြေ၌ ပြဿနာဖြစ်ရသောအချက်များမှာ-

(၁) အဖြေဆရာတော်၏ ရှေ့အဖြေ၌ "ရဟန္တာတို့အားနိဗ္ဗာန် ယူသောအခါ စုတိ၏အနီးဖြစ်သော စိတ်တို့သည် နိဗ္ဗာန်ကိုသာ အာရုံပြုရကား နိမိတ်သုံးပါးသည် မထင်ပြီ"ဟူသော အချက်သည် လည်းကောင်း။

(၂) အဖြေဆရာတော်၏ နောက်အဖြေ၌ "စုတိနှင့်တကွသောမရဏာသန္နစိတ်တို့သည် ထင်တိုင်းသောသင်္ခါရဟုဆိုအပ်သော နိဗ္ဗာန်ကိုအာရုံပြု၏ဟု မှတ်ရာသည်" ဟူသော အချက်သည်လည်းကောင်း ပြဿနာဖြစ်ရသည့် အဓိကအချက်များပင်ဖြစ်ပါသည်။

ထိုတွင် အဖြေဆရာတော်၏ ရှေ့အဖြေစကားအရ "စုတေနီးစိတ်သုံးနိမိတ်"စသော လင်္ကာ၌ စုတေနီးစိတ်အရ စုတိစိတ်ကို မယူဘဲ စုတိစိတ်၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ်ကိုယူထားပြီး ၎င်းစိတ်တို့သည် နိဗ္ဗာန်ကိုအာရုံပြု၏-ဟု ဆိုထားကြောင်းတွေ့ရ၏။

နောက်အဖြေစကား၌ "စုတေနီးစိတ်"အရ စုတိစိတ်နှင့် မရဏာသန္နဝီထိစိတ်နှစ်ခုလုံးကို ယူထားပြီး၎င်းစိတ်တို့သည် နိဗ္ဗာန်ကိုအာရုံပြု၏-ဟုဆိုထားကြောင်း တွေ့ရ၏။ ဤအချက်များသည် မူရင်းအဘိဓမ္မာပါဠိတော် အဋ္ဌကထာဋီကာကျမ်းတို့နှင့် ညီညွတ်မှုမရှိသောကြောင့် ပြဿနာဖြစ်ရသည့် အချက်များဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

### နံပါတ်(၁)ပြဿနာရှင်းလင်းချက်

"စုတေနီးစိတ်"ဟူသော စကားရပ်၏အဓိပ္ပါယ်ကို ဂ,ဃ န,ဏ-သိရှိစေရန်နှင့် သဒ္ဒါနည်းရှင်းလင်းချက်များကိုပါသိရှိနိုင်စေရန် တဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗီဟိသမာသ်နှင့် အတဂ္ဂုဏ သံဝိညာဏ ဗဟုဗ္ဗီဟိသမာသ်တို့၏ အဓိပ္ပါယ်တို့ကို နားလည် သဘောပေါက်ထားရန်လိုပါသည်။ သို့မှသာ ပြဿနာရှင်းလင်းချက်များကို အလွယ်တကူသဘောပေါက်နားလည်နိုင်ပေမည်။ ဗဟုဗ္ဗီဟိ သမာသ် အမျိုးမျိုး

ရှိသည်တွင် တဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီဟိနှင့် အတဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီဟိသမာသ်တို့လည်း ပါဝင်လျက်ရှိပေ၏။

ထိုတွင် တဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗီဟိဟူသည် သမာသ်ပုဒ်၏အနက်နှင့် အညပုဒ်၏အနက် ဤအနက်နှစ်မျိုးလုံးကိုယူရသောသဘောရှိ၏။ ပုံစံအားဖြင့်-

"လမ္ဗော ကဏ္ဏော ယဿာတိ လမ္ဗကဏ္ဏော။ လမ္ဗကဏ္ဏော အာဂစ္ဆတိ"-စသည်တည်း။

အနက်။ ။ ယဿ-အကြင်ပုဂ္ဂိုလ်အား၊ လမ္ဗော-ရှည်သော၊ ကဏ္ဏော-နားသည်၊ အတ္ထိ-ရှိ၏၊ ဣတိတသ္မာ-ထို့ကြောင့်၊ သော-ထိုပုဂ္ဂိုလ်သည်၊ လမ္ဗကဏ္ဏော- လမ္ဗကဏ္ဏမည်၏၊ လမ္ဗကဏ္ဏော-ရှည်သောနားရှိသူသည်၊ အာဂစ္ဆတိ- လာ၏။

ဤပုံစံ၌ "ရှည်သောနား" ဟူသောအနက်သည် "လမ္ဗကဏ္ဏ" ဟူသော သမာသ်ပုဒ်၏အနက်ဖြစ်၏။ ရှည်သောနား ရှိသူဒြပ်သည်၊ "ယဿ"ဟူသော အညပုဒ်၏အနက်ဖြစ်၏။ ရှည်သောနားရှိသူလာ၏ဟု ဆိုရာ၌၊ ၎င်းအနက်နှစ်မျိုးလုံးရနိုင်၏။

ဆိုလိုသည်မှာ- ရှည်သောနားနှင့်အတူ၊ ရှည်သောနားရှိသူနှစ်မျိုးလုံးရောက်လာ၏။ ရှည်သောနားဟူသော သမာသ်ပုဒ်အနက်လည်း မကျန်ခဲ့၊ ရှည်သောနားရှိသူဒြပ်လည်း မကျန်ခဲ့ဟုဆိုလိုပါသည်။

အတဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗီဟိဟူသည် သမာသ်ပုဒ်အနက်ကို မယူရ၊ သမာသ်ပုဒ်အနက်မှ တစ်ပါးသော အညပုဒ်၏အနက်ကိုသာယူရသော သဘောရှိ၏။ ပုံစံအားဖြင့်-

"ဗဟူနိ ညောနိ ဧတဿာတိ ဗဟုဉော၊ ဗဟုဉော အာဂစ္ဆတိ"-စသည်တည်း။

အနက်။ ။ ဧတဿ- ထိုသူအား၊ ဗဟူနိ-များစွာကုန်သော၊ ညောနိ-စပါးတို့သည်၊ သန္တိ-ရှိကုန်၏။ ဣတိတသ္မာ-ထို့ကြောင့်၊ ဗဟုဉော- ဗဟုဉေမည်၏။ ဗဟုဉော-များသောစပါးရှိသောသူသည်၊ အာဂစ္ဆတိ- လာ၏။

ဤပုံစံ၌ များသောစပါး-ဟူသောအနက်သည် ဗဟုဉေ ဟူသော သမာသ်ပုဒ်၏အနက်ဖြစ်၏။ များသောစပါးရှိသူဒြပ်သည် ဧတ-ဟူသော အညပုဒ်၏အနက်ဖြစ်၏။ များသောစပါးရှိသူလာ၏ ဟုဆိုရာ၌ ၎င်းအနက်နှစ်မျိုးလုံးမရနိုင်၊ များသော စပါးရှိသူဒြပ်ဟူသော အညပုဒ်အနက်တစ်မျိုးသာရနိုင်ပါသည်။ ဆိုလိုသည်မှာ- များသောစပါးရှိသူလာရာ၌ များသောစပါးရှိသူ ပုဂ္ဂိုလ်ဒြပ်သာလာ၍ စပါးများ မပါလာဟုဆိုလိုသည်။

လိုရင်းမှတ်ရန်မှာ-တဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီဟိဟု ဆိုလျှင် သမာသ်ပုဒ်အနက်နှင့် အညပုဒ်အနက်နှစ်မျိုးလုံး ရနိုင်၍ အတဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီဟိဟုဆိုလျှင် သမာသ်ပုဒ်အနက်မရ အညပုဒ်အနက်တစ်မျိုးသာရသည်ဟု မှတ်ရပါမည်။

စုတေ့နီးစိတ်-ဟူသော လက်ာစာပုဒ်ကို စုတိ၏အနီး၌ဖြစ်သောစိတ်ဟု အကျယ်ပြန်ဆိုလျှင် တပ္ပုရိသ်သမာသ်ဖြစ်၍၊ စုတိစိတ်ကိုမရ၊ စုတိစိတ်၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ်ကိုရ၏။ ယင်းစာပိုဒ်ကိုပင် "စုတိလျှင်အနီးရှိသောစိတ်"-ဟု အကျယ်ပြန်ဆိုလျှင် ဗဟုဗ္ဗီဟိသမာသ်ဖြစ်၍ အတဂ္ဂုဏသံဝိညာဏ

ဗဟုဗ္ဗိဟိ-ဟုဆိုလိုက စုတိစိတ်ကိုမရ၊ စုတိစိတ်၏အနီးဖြစ်သော မရဏာသန္နဝီထိစိတ်ကိုသာရ၏။ ဆိုခဲ့ပြီးသော တပ္ပုရိသ်သမာသ် နှင့်အရတူပင်ဖြစ်၏။ တဂ္ဂုဏသံဝိညာဏဗဟုဗ္ဗိဟိ ဟုဆိုလိုက စုတိစိတ်နှင့် ယင်းစိတ်၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ် နှစ်ခုလုံးကို ရပါသည်။ ထို့ကြောင့် ပုစ္ဆကဆရာ၏အာဘော်သည် နှစ်မျိုးဖြစ်နိုင်သည်ဟု ဆိုရပေမည်။

ပုစ္ဆကဆရာသည် မည်သည့်အာဘော်နှင့်မေးသနည်း၊ အတဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗိဟိသမာသ်အရ (ဝါ) တပ္ပုရိသ်သမာသ် အရ ရဟန္တာတို့၏ စုတိစိတ်အနီး၌ ဖြစ်သော မရဏာသန္န ဝီထိစိတ် သည် ကံ, ကမ္မနိမိတ်,ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါးကို အာရုံ ပြုသေးသလော။ ဤသို့အာဘော်ရှိခဲ့သော်၊ ဘဝတစ်ပါးသို့လားလတ္တံ့ မဟုတ်သောရဟန္တာတို့၏ မရဏာသန္နဝီထိစိတ်သည် ကံ, ကမ္မနိမိတ်, ဂတိနိမိတ်သုံးပါးတို့တွင် တစ်ပါးပါးကိုသော်မှ အာရုံပြုခြင်းမရှိပေ။ ထင်လာတိုင်းသောရုပ်,နာမ်ဓမ္မသင်္ခါရ စသည်ကိုသာအာရုံပြုသည် ဟု ဖြေဆိုရပေမည်။ အထောက်သာဓကမှာ အဖြေဆရာတော် ထုတ်ပြခဲ့သော-

ယထာရဟန္တို တံတံဂတိသု ဥပ္ပဇ္ဇနကသတ္တာနံ့ရူပံ၊ ကတ္ထစိ ပန အနုပ္ပဇ္ဇနဿ ခီဏာသဝဿ ယတော ပဋ္ဌိတံ နာမရူပဓမ္မာဒိ ကမေဝ စုတိပရိယောသာနံ ဂေါစရဘာဝံဂစ္ဆတိ။ နကမ္မ ကမ္မ နိမိတ္တာဒယော။ -ဟူသော ဋီကာကျော်ပါဌ်ပင်ဖြစ်ပါသည်။ ဤသာဓကနှင့် အဖြေ စကားရပ်တို့၌ ရဟန္တာတို့ စုတိစိတ်၏ အနီး၌ ဖြစ်သော မရဏာသန္နဝီထိစိတ်သည် ရုပ်နာမ်ဓမ္မ သင်္ခါရကိုသာ

အာရုံပြုကြောင်း ပါရှိသည်ကိုတွေ့ရ၏။ အဖြေဆရာတော် ဖြေဆိုသကဲ့သို့နိဗ္ဗာန်ကိုအာရုံပြုကြောင်းပါရှိသည်ကို မတွေ့ရပေ။

သို့ဖြစ်၍ အဖြေဆရာတော်သည် အတဂ္ဂဏာသံဝိညာဏဗဟုဗ္ဗီဟိသမာသ်အဖြစ်ကြံ၍ ရှေးဦးစွာဖြေဆိုထားသော "ရဟန္တာတို့အား နိဗ္ဗာန်ယူသည့်အခါ စုတိစိတ်၏အနီးဖြစ်သော စိတ်တို့သည် နိဗ္ဗာန်ကိုသာအာရုံပြု၏"ဟူသော အဖြေစကားသည် ယုတ္တိမရှိသောစကားဖြစ်သည်ဟုဆိုရပေမည်။

## နံပါတ် (၂) ပြဿနာရှင်းလင်းချက်

တဂ္ဂဏာသံဝိညာဏ ဗဟုဗ္ဗီဟိသမာသ်အရ ရဟန္တာတို့၏ စုတိစိတ်နှင့်တကွ ယင်းစိတ်၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ်တို့သည် ကံ, ကမ္မနိမိတ်, ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါးကိုအာရုံပြုသေးသလော- ဤသို့ အာဘော်ရှိခဲ့သော် စုတိစိတ်၏အာရုံနှင့် မရဏာသန္နဝီထိစိတ်၏အာရုံသည် မတူညီသောကြောင့် တစ်ခုစီခွဲခြား၍ ဖြေဆိုရပေမည်။ ရဟန္တာတို့၏ စုတိစိတ်ကား လောကီကာမစိတ်ဖြစ်သော မဟာဝိပါက်ဉာဏသမ္ပယုတ်စိတ်လေးခုပင်ဖြစ်၏။ ထို့ကြောင့် လောကုတ္တရာစိတ်၏ အာရုံဖြစ်သော နိဗ္ဗာန်ကို အာရုံမပြုနိုင်။ ပဋိသန္ဓေစိတ်သည် ယူအပ်ပြီးသော ကာမအာရုံဖြစ်သည့် ကံ, ကမ္မနိမိတ်, ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါးကိုသာ မုချအာရုံပြုရပေမည် မရဏာသန္နဝီထိစိတ်မှာမူကား အထက်ကဖြေဆိုခဲ့သည့်အတိုင်း - ရဟန္တာပုဂ္ဂိုလ်မှာ ဘဝတစ်ပါးသို့လားလတ္တံ့မဟုတ်သောကြောင့် ကံ, ကမ္မနိမိတ်,ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါး

ကိုသော်မှ အာရုံမပြု၊ နိဗ္ဗာန်ကိုလည်း အာရုံမပြု၊ ထင်လာတိုင်းသော ရုပ်နာမ်ဓမ္မသင်္ခါရ စသည်ကိုသာ အာရုံပြု၏ဟူ၍ ဖြေဆိုရပေမည်။

မှန်ပါသည် ဥပေက္ခာသန္တီရဏစိတ်နှစ်ခု၊ မဟာဝိပါက်စိတ်ရှစ်ခုနှင့် မဟဂ္ဂုတ်ဝိပါက်ကိုးခု ပေါင်း(၁၉)ခုသော စိတ်တို့သည် ဝီထိစိတ် (၈၀)၌ မပါဝင်သောကြောင့်၊ ဝီထိစိတ်မှလွတ်သော ဝီထိမုတ်စိတ်များဖြစ်ကြပါသည်။ တစ်နည်းအားဖြင့် ၎င်းစိတ်တို့သည် ပဋိသန္ဓေအခါ, ဘဝင်အခါ, စုတိအခါတို့၌သာဖြစ်သောကြောင့် ပဋိသန္ဓေစိတ်,ဘဝင်စိတ်,စုတိစိတ်အမည်ကိုလည်း ရကြပါသည်။ သို့ဖြစ်၍ ပဋိသန္ဓေစိတ်, ဘဝင်စိတ်, စုတိစိတ်ဟုဆိုလျှင် အခြားစိတ်မဟုတ်၊ ၎င်းဝီထိမုတ်စိတ် (၁၉)ခုပင် ဖြစ်ကြောင်း သိရပါသည်။[၁]

သို့သော် ဘုံအလိုက်ကွဲပြားမှုကားရှိ၏။ အရူပဘုံ၏ ပဋိသန္ဓေ, ဘဝင်,စုတိဟုဆိုလျှင် အရူပဝိပါက် ၄-ခုကို ဆိုကြောင်းသိပါ။ ရူပဘုံ၏ ပဋိသန္ဓေ,ဘဝင်,စုတိဟုဆိုလျှင် ရူပဝိပါတ် ၅-ခုဟုသိပါ။ ကာမဘုံ ပဋိသန္ဓေ,ဘဝင်,စုတိဟုဆိုလျှင် ဥပေက္ခာသန္တီရဏ ၂-ခုနှင့် မဟာဝိပါက်စိတ် ၈-ခုကို ဆိုကြောင်းသိပါ။ ကာမဘုံသားတိဟိတ်ရဟန္တာ ပုဂ္ဂိုလ်တို့၏ ပဋိသန္ဓေ,ဘဝင်,စုတိဟုဆိုလျှင် ကာမတိဟိတ်ပဋိသန္ဓေဖြစ်သည့် မဟာဝိပါက် ဉာဏသမ္ပယုတ်စိတ်လေးခုတွင် တစ်ခုခုဖြစ်ကြောင်း သိရပါသည်။ သို့ဖြစ်၍ ရဟန္တာတို့၏ စုတိစိတ်သည် လောကီစိတ်၊ ကာမစိတ်သာဖြစ်၏။ လောကုတ္တရာစိတ်မဟုတ်၊ ထို့ကြောင့် နိဗ္ဗာန်ကိုအာရုံမပြုနိုင် ကာမအာရုံဖြစ်သည့်

---

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ၊ -၄၃-၄၄။

ကံ, ကမ္မနိမိတ်, ဂတိနိမိတ် သုံးပါးတွင် တစ်ပါးပါးကိုသာ အာရုံပြု၏ ဟု ဖြေဆိုခြင်းဖြစ်ပါသည်။

၎င်းအဖြေမှန်ကန်ကြောင်း ခိုင်မာသောအထောက် သာ ဓကများကိုထုပ်ဆင့်၍ ထုတ်ပြရလျှင်-

ကတမေဓမ္မာ ပရိတ္တာရမ္မဏာ၊ သဗ္ဗော ကာမာဝစရဿ ဝိပါကော ကိရိယာ မနောဓာတု ကိရိယာဟေတုက မနောဝိညာဏ ဓာတု သောမနဿသဟဂတာ၊ ဣမေ ဓမ္မာ ပရိတ္တာရမ္မဏာ။[၁]

အနက်။ ။ ပရိတ္တာရမ္မဏာ- ကာမအာရုံကို အာရုံပြု ကုန်သောတရားတို့သည်၊ ကတမေဓမ္မာ- အဘယ်တရားတို့နည်း၊ သဗ္ဗော- အလုံးစုံသော၊ ကာမာဝစရဝိပါကော- ကာမာဝစရဝိပါတ် တေဝီသလည်းကောင်း၊ ကိရိယာမနောဓာတု- ပဉ္စဒွါရာဝဇ္ဇန်း စိတ်လည်းကောင်း၊ ကိရိယာဟေတုက မနောဝိညာဏဓာတု သောမနဿသဟဂတာ-ဟသိတုပ္ပါဒ်စိတ်လည်းကောင်း၊ ဣတိ- ဤသို့၊ ဣမေဓမ္မာ- ဤ၂၅-ပါးသော တရားတို့သည်၊ ပရိတ္တာ ရမ္မဏာ-ကာမအာရုံကို အာရုံပြုသောတရားတို့ မည်ကုန်၏။

ဤဓမ္မသင်္ဂဏီပါဠိဖြင့် ကာမဝိပါက်၂၃-ပါး၊ ပဉ္စဒွါရာ ဝဇ္ဇန် ၁-ပါးနှင့်ဟသိတုပ္ပါဒ်စိတ် ၁-ပါး၊ ပေါင်း ၂၅-ပါးသော စိတ်တို့သည် ကာမတရားကို ဧကန်အာရုံပြုသောတရားများ ဖြစ်သည်ကို ပြပါသည်။ သို့ဖြစ်၍ ကာမဝိပါက်စိတ်မှန်က ကာမအာရုံကိုသာ ဧကန်အာရုံပြုနိုင်၍ နိဗ္ဗာန်ကိုလုံးဝ အာရုံမပြု နိုင်ကြောင်းမှာ အလွန်သေချာပါသည်။

---

၁။ ဘိ၊ပါ-၁၊၂၇၁။

ထို့ပြင်လည်း အဋ္ဌသာလိနီအဋ္ဌကထာ၌ "အဋ္ဌပန သဟေတုကာ ဝိပါက စိတ္တုပ္ပါဒါ ဧတ္ထ ဝုတ္တနယေနေဝ တဒါရမ္မဏ ဝသေန ပဋိသန္ဓိဘဝင် စုတိဝသေနစ ပရိတ္တဓမ္မေယေဝ အာရဗ္ဘ ပဝတ္တန္တိ" ဟူ၍ မိန့်ဆိုထားပြန်၏။[၁]

အနက်။ ။ ပန-ဥပေက္ခာသဟဂုတ်စိတ်နှစ်ခု၏ ကာမ အာရုံကို အာရုံပြုပုံမှတစ်ပါး မဟာဝိပါက်စိတ်ရှစ်ခု၏ ကာမအာရုံ ကိုအာရုံပြုပုံကို ဆိုဦးအံ့၊ အဋ္ဌသဟေတုကဝိပါက စိတ္တုပ္ပါဒါ- မဟာ ဝိပါက်စိတ် ရှစ်ခုတို့သည်၊ ဧတ္ထ- ဤဥပေက္ခာသဟဂုတ်စိတ်နှစ်ခု ၌၊ ဝုတ္တနယေနေဝ- ဆိုအပ်ပြီးသောနည်းဖြင့်သာလျှင်၊ တဒါရမ္မဏ ဝသေနစ- တဒါရုံတို့၏အစွမ်းအားဖြင့်လည်းကောင်း၊ ပဋိသန္ဓိ ဘဝင် စုတိဝသေနစ- ပဋိသန္ဓေ,ဘဝင်,စုတိတို့၏ အစွမ်းအားဖြင့် လည်းကောင်း၊ ပရိတ္တဓမ္မေယေဝ- ကာမတရား,ကာမအာရုံတို့ကို သာလျှင်၊ အာရဗ္ဘ-အာရုံပြု၍၊ ပဝတ္တန္တိ- ဖြစ်ကုန်၏။

ဤအဋ္ဌကထာ ပရိတ္တဓမ္မေယေဝ-၌ ဧဝသဒ္ဒါဖြင့် မဟာ ဝိပါက်စိတ်မှန်က ကာမတရားကိုသာ ကေန်အာရုံပြု၏။ အဘယ် အခါကာလမှ မဟဂ္ဂုတ်အာရုံ၊ နိဗ္ဗာန်စသော လောကုတ္တရာ အာရုံ၊ ပညတ်အာရုံများကို အာရုံမပြုဟူသော အနက်အဓိပ္ပါယ်ကို ဖော်ပြ ပါသည်။

ထိုသို့ ကေန်အာရုံပြုသည့်အကြောင်းကို ၎င်းအဋ္ဌကထာ ၌ပင် "ဧဝမိမေ ပဉ္စဝီသတိ စိတ္တုပ္ပါဒါ ဧကန္တေနေဝ ပရိတ္တာ ရမ္မဏာတိ ဝေဒိတဗ္ဗာ" ဤ၂၅-ပါးသောစိတ်တို့ကို ကေန်စင်စစ်

---

၁။ ဘိ၊ဋ္ဌ၊၁၊၃၀၆။

အားဖြင့် ကာမတရားသာလျှင် အာရုံရှိကုန်၏ဟူ၍ သိအပ်ကုန်၏။ ဟူ၍လည်းကောင်း။[၁] "ကေန္တ ပရိတ္တာရမ္မဏာနိတိ ကာမာဝစရ ဝိပါကာနိ" ကာမဝိပါက် ၂၃-ပါးတို့သည် စင်စစ်ကာမအာရုံကိုသာ အာရုံပြုကုန်၏ ဟူ၍လည်းကောင်း ထပ်၍မိန့်ဆိုထားပါသည်။[၂]

ထို့ပြင် အဘိဓမ္မာဝတာရ အဋ္ဌကထာ၌လည်း "ကာမာဝစရ ဝိပါကာနံ ဧကန္တပရိတ္တာ ရမ္မဏတ္တာ"- ကာမဝိပါက်မှန်ကကာမ တရားကို ဧကန်အာရုံပြု၏- ဟူ၍လည်းကောင်း။

၎င်းအဖွင့်အဘိဓမ္မာဝတာရဋီကာ၌ "ဝိပါကဿ သက်ပွေ တ္တာ အာရမ္မဏာ ဂဟဏာ ဘာဝတော ကမ္မာနုရူပမေဝ ပဝတ္တတီတိ ပရိတ္တကမ္မဝိပါကော ပရိတ္တာရမ္မဏေယေဝ ပဝတ္တိတု မရဟတိ၊ နမဟဂ္ဂတ အပ္ပမာဏာရမ္မဏေတိ ဝုတ္တံ ပရိတ္တမေ့ပရိယာပန္နေ သုတိ"- ဝိပါက်တရား၏ ကြံစည်တွေးတော၍ အာရုံကိုမယူနိုင် သည်၏အဖြစ်ကြောင့် ကံအားလျော်စွာ သာလျှင်ဖြစ်ရ၏။ ဤသို့ သောအကြောင်းကြောင့် ကာမဝိပါက် ၂၃-ပါးသည် ကာမအာရုံ ၌သာလျှင်ဖြစ်ခြင်းငှါထိုက်၏။ မဟဂ္ဂုတ်အာရုံ,နိဗ္ဗာန်စသော လောကုတ္တရာ အာရုံ၌ဖြစ်ခြင်းငှါမထိုက်-ဟူ၍လည်းကောင်း မိန့်ဆိုထားသည်ကို တွေ့ရ၏။

ထိုမျှမကသေး အဘိဓမ္မတ္ထသင်္ဂြိုဟ်ကျမ်းနှင့် ၎င်းအဖွင့် ဋီကာကျော်တို့၌လည်း "ပဉ္စဝီသပရိတ္တမှိ"[၃] ကာမဝိပါက်၂၃-ပါး၊ ပဉ္စဒွါရာဝဇ္ဇန်းဟသိတုပ္ပါဒ်အားဖြင့် ၂၅-ပါးသောစိတ်တို့သည် ကာမအာရုံသာလျှင် ဖြစ်ကုန်၏-ဟူ၍လည်းကောင်း။

---

၁။ ဘိ၊ဌ-၁၊ ၄၃၈။ ၂။ ဘိ၊ဌ၊ ၁၊ ၃၀၆။ ၃။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ၊၅၂။

"တေဝီသတိ ကာမာဝစရ ဝိပါက ပဉ္စဒွါရာဝဇ္ဇနဟာသန ဝသေန ပဉ္စဝီသတိ စိတ္တာနိ ပရိတ္တမ္ဟိကာမာဝစရာရမ္မဏေယေဝ ဘဝန္တိ"- ကာမဝိပါက်၂၃-ပါး၊ ပဉ္စဒွါရာဝဇ္ဇန်း ဟသိတုပ္ပါဒ်စိတ်တို့၏အစွမ်းဖြင့် ၂၅-ပါးသောစိတ်တို့သည် ကာမအာရုံ၌သာလျှင် ဖြစ်ကုန်၏-ဟူ၍လည်းကောင်း မိန့်ဆိုကြပါသည်။

ပဋိသန္ဓေ,ဘဝင်,စုတိစိတ်တို့သည် ကာမအာရုံကိုသာ အာရုံပြု၍၊ အခြားနိဗ္ဗာန်စသော အာရုံကိုအာရုံမပြုကြောင်းမှာ အထက်ပါ စကားရပ်များအရ ထင်ရှားပါသည်။ ယင်းစိတ်တို့ ကာမအာရုံ သုံးမျိုးကိုသာ အာရုံပြုကြောင်းကို အဘိဓမ္မတ္ထသင်္ဂဟ ကျမ်း၌ အောက်ပါအတိုင်း ပြဆိုထားပါသည်။

"ဝီထိမုတ္တာနံ ပန ကမ္မ ကမ္မနိမိတ္တ၊ ဂတိနိမိတ္တဝသေန တိဝိဓာ ဟောတိ ဝိသယပဝတ္တိ။"[၁]

အနက်။ ။ပန-ဆက်ဦးအံ့၊ ဝီထိမုတ္တာနံ- ပဋိသန္ဓေ ဘဝင်,စုတိဟုဆိုအပ်သော ဝီထိမုတ်စိတ်တို့၏။ ဝိသယပဝတ္တိ- အာရုံတို့၌ စိတ်တို့၏ဖြစ်ခြင်းသည်၊ ကမ္မ ကမ္မနိမိတ္တ ဂတိနိမိတ္တ ဝသေန-ကံ,ကမ္မနိမိတ်, ဂတိနိမိတ်တို့၏ အစွမ်းအားဖြင့်၊ တိဝိဓာ- သုံးပါးအပြားရှိသည်၊ ဟောတိ-ဖြစ်၏။

ဤစကားရပ်ကိုထောက်၍ ပဋိသန္ဓေ,ဘဝင်,စုတိဟုဆိုအပ် ကုန်သော ဝီထိမုတ်စိတ်တစ်ခုယုတ်နှစ်ဆယ်တို့သည် ကံ, ကမ္မနိမိတ်, ဂတိနိမိတ်သုံးပါးကိုသာ အာရုံပြုကြောင်းသိရ၏။

ထို့ပြင် "ဒွါရဝိမုတ္တာနဉ္စ ပဋိသန္ဓိဘဝင် စုတိသင်္ခါတာနံ ဆဗ္ဗိဓမ္ပိ ယထာသမ္ဘဝံ ယေဘုယျေန ဘဝန္တရေ ဆဒွါရဂ္ဂဟိတံ

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ၊ ၅၂။

ပစ္စုပ္ပန္နမတီကံ ပညတ္တိ ဘူတံဝါ ကမ္မကမ္မနိမိတ္တ ဂတိနိမိတ္တ သမ္မတံ အာရမ္မဏံဟောတိ"[၁]ဟူသော အဘိဓမ္မတ္ထသင်္ဂဟစကားကို ထောက်ထား၍လည်း ပဋိသန္ဓေဘဝင် စုတိဟုဆိုအပ်ကုန်သော ဒွါရဝိမုတ်စိတ် (ဝါ) ဝီထိဝိမုတ်စိတ် ၁၉-ခုတို့၏ အာရုံသည် ကံ, ကမ္မနိမိတ်, ဂတိနိမိတ်ဟု သမုတ်အပ်သော ၆-ပါးအပြားရှိသော အာရုံသည်သာ ထိုက်သည့်အားလျော်စွာဖြစ်၏။ ဤမှတစ်ပါး အခြားအာရုံ မရှိပြီဟု သိနိုင်ပါသည်။

ထိုပဋိသန္ဓေစိတ်,ဘဝင်စိတ်,စုတိစိတ်တို့သည် အမည်သာ ကွဲပြား၍အရမကွဲပြားသောစိတ်များဖြစ်၏။ ထိုသို့အရမကွဲပြားသောကြောင့်လည်း အာရုံချင်းကွဲပြားမှုမရှိဘဲ တူညီနေခြင်းဖြစ်ပါသည်။ ထိုသို့ အာရုံတူညီကြောင်းကို သင်္ဂဟကျမ်း၌-

ပဋိသန္ဓိ၊ ဘဝင်္ဂ၊ တထာစဝနမာနသံ၊

ဧကမေဝ တထေ ဝေကာ၊ ဝိသယဥ္စေက ဇာတိယံ။[၂]

-ဟူ၍ မိန့်ဆိုထား၏။

အနက်။ ။ ဧကဇာတိယံ- တစ်ခုသောဘဝ၌၊ ပဋိသန္ဓိ-ပဋိသန္ဓေစိတ်သည်လည်းကောင်း၊ ဘဝင်္ဂ-ဘဝင်စိတ်သည်လည်းကောင်း၊ စဝနမာနသံ- စုတိစိတ်သည်လည်းကောင်း၊ ဧကမေဝ- တစ်မျိုးတည်းသာလျှင်၊ ဟောတိ-ဖြစ်၏။ တထာ-ထို့အတူ၊ ဧကဝိသယံဧဝစ-တူသောအာရုံရှိသည်သာလျှင်လည်း၊ ဟောတိ-ဖြစ်၏။

အဓိပ္ပါယ်မှာ တစ်ဘဝ တစ်ဘဝ၌ ပဋိသန္ဓေ,ဘဝင်,စုတိစိတ်တို့သည် တစ်မျိုးတည်းသာဖြစ်ရိုးတည်း၊ ဥပမာပဋိသန္ဓေစိတ်က

၁။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ၊ ၅၁။ ၂။ အဘိဓမ္မတ္ထသင်္ဂဟပါဠိ၊ ၈၁။

မဟာဝိပါက်ပထမစိတ်ဖြစ်ခဲ့လျှင် ပဝတ္တိအခါတစ်ဘဝလုံးဖြစ်နေသောဘဝင်များလည်း မဟာဝိပါက်ပဌမစိတ်သာဖြစ်၍ စုတိကျသည့်အခါလည်း မဟာဝိပါက်ပဌမစိတ်ပင် ဖြစ်ရမည်ဟုဆိုလိုပါသည်။

အာရုံအားဖြင့်လည်း တူရိုးတည်း၊ ပဋိသန္ဓေစိတ်ကကံကိုအာရုံပြုလျှင် ဘဝင်စိတ်များလည်း ကံကိုချည်းအာရုံပြုရမည်၊ ပဋိသန္ဓေစိတ်က ကမ္မနိမိတ်ကိုအာရုံပြုလျှင် ဘဝင်,စုတိများလည်း ကမ္မနိမိတ်ကိုအာရုံပြုရမည်၊ ပဋိသန္ဓေစိတ်က ဂတိနိမိတ်ကိုအာရုံပြုလျှင် ဘဝင်,စုတိများလည်း ဂတိနိမိတ်ကိုချည်းအာရုံပြုရမည်ဟုဆိုလိုပါသည်။[၁]

ဤဆိုအပ်ပြီးသော အဘိဓမ္မာပါဠိတော် ၎င်းအဖွင့်အဋ္ဌသာလိနီအဋ္ဌကထာ ၎င်းအဖွင့်ဋီကာ အဘိဓမ္မတ္ထသင်္ဂဟကျမ်း ၎င်းအဖွင့်ဋီကာကျော်၌ လာသောစကားအရပ်ရပ်တို့ဖြင့် ရဟန္တာတို့၏စုတိစိတ်သည် နိဗ္ဗာန်ကိုအာရုံမပြုနိုင်၊ ကံ,ကမ္မနိမိတ်,ဂတိနိမိတ် သုံးပါးတွင်တစ်ပါးပါးကိုသာ အာရုံပြုသည်ဟု ဆိုရာ၌ အလွန်ခိုင်မာသည့်မူရင်းကျမ်းအထောက်အထား သာဓကများပင်ဖြစ်ပါသည်။

## ခြုံငုံသုံးသပ်ချက်

အဖြေဆရာတော်သည် သူ၏နောက်အဖြေ၌ "ဝိထိလက်ရိုးဆရာတို့၏ စကားအတိုင်း၊ စုတိနှင့်တကွသော မရဏာသန္နစိတ်တို့သည် ထင်တိုင်းသောသင်္ခါရဟုဆိုအပ်သော နိဗ္ဗာန်ကိုအာရုံပြု၏ဟုမှတ်ရာသည်"ဟူသော နောက်အဖြေစကားထောက်ဆ၍ "စုတေ့နီးစိတ်"ဟူသော ပုဒ်ကို အတဂ္ဂဏသံဝိညာဏသမာသ်ပုဒ်

---

၁။ အခြေပြုသင်္ဂြိုဟ်၊ ၂၈၂။

အဖြစ်အလိုမရှိ၊ တဂ္ဂုဏာသံဝိညာဏသမာသ်ပုဒ်အဖြစ်သာ အလိုရှိကြောင်း သိသာပါသည်။ သို့သော် ပဌမဦးစွာဖြေဆိုရာ၌ တဂ္ဂုဏသံဝိညာဏ သမာသ်အဖြစ်ဖြင့်မဆို၊ အတဂ္ဂုဏသံဝိညာဏသမာသ် အဖြစ်ဖြင့် "ရဟန္တာတို့အား နိဗ္ဗာန်ယူသောအခါ စုတိ၏အနီးဖြစ်သောစိတ်တို့သည် နိဗ္ဗာန်ကိုသာ အာရုံပြုရကား နိမိတ်သုံးပါးသည်မထင်ပြီ"ဟု မရဏာသန္နဝီထိစိတ်ကိုသာ ဖြေဆိုတော်မူ၏။ စုတိစိတ်ကို ဖြေဆိုတော်မမူ။ သို့ဖြစ်၍ ရှေ့အဖြေစကားနှင့် နောက်အဖြေစကား ညီညွတ်မှုမရှိကြောင်း တွေ့ရ၏။

ထို့ပြင်ပဌမအဖြေစကား၌ "စုတိစိတ်အနီးဖြစ်သောစိတ်တို့သည် နိဗ္ဗာန်ကိုသာအာရုံပြုရကား နိမိတ်သုံးပါးမထင်ပြီ" ဟု နိဗ္ဗာန်ကိုအာရုံပြုကြောင်း ဖြေဆိုတော်မူပြီး၊ ယသာရဟန္တ-စသောဋီကာကျော်ပါဌ်ကို သာဓကပြဆိုထား၏။ သို့သော်ငင်းဋီကာကျော်ပါဌ်၌ နိဗ္ဗာန်ကိုအာရုံပြု၏ဟူသော စကားမပါ။ "ယထောပဋ္ဌိတံ နာမရူပ ဓမ္မာဒိက" ထင်လာတိုင်းသော နာမ်ရုပ်စသောသင်္ခါရတရားကိုသာ အာရုံပြုကြောင်းပါရှိ၏။ သို့ဖြစ်၍ သာဓျစကားနှင့် သာဓကစကားလည်း ညီညွတ်မှုမရှိ ဆန့်ကျင်နေကြောင်း တွေ့ရ၏။

အဖြေဆရာတော်သည် "စုတိနှင့်တကွသော မရဏာသန္နစိတ်ဟူသမျှသည် ထင်တိုင်းသောသင်္ခါရကို အာရုံပြုသည်"ဟူသော နန်းကျောင်းဆရာတော်နှင့် တောင်တွင်းကျော်ဆရာတော်တို့၏ အဖြေကိုလည်းကောင်း၊ "ကမ္မဂတိဖြစ်တုံဘိကား၊ တြိအာရုံမြဲမကြုံရှင့်၊ ဘုံနိဗ္ဗာန်ထဲအာရုံမြဲ၏။ မှတ်ကုန်လှည့်လော့"-ဟူ၍ ဘုရား

ရဟန္တာတို့၏ စုတိစိတ်သည် နိဗ္ဗာန်ကိုအာရုံပြုကြောင်း ဖြေဆိုသည့် ကျည်းကန်ဆရာကြီး၏အဖြေကိုလည်းကောင်း၊ နှစ်ခြိုက်သဘော ကျမှုရှိကြောင်း တွေ့ရ၏။ သို့သော် ထိုဆရာတို့၏ အဖြေသည် အထက်ပါ အဘိဓမ္မာပါဠိ,အဋ္ဌကထာ, ဋီကာစသော ကျမ်းဂန် အထောက် အထားများအရ မှန်ကန်မှုမရှိကြောင်း တွေ့ရပါသည်။

အဘိဓမ္မာအရာ လိမ္မာကျွမ်းကျင်သည့် ရှေးဆရာတော် များလည်း ၎င်းအဖြေမသင့်ကြောင်းကို ဆုံးဖြတ်တော်မူခဲ့ကြ၏။

ထိုဆရာတော်များအနက် လယ်တီဆရာတော်ဘုရား ကြီး၏ ဆုံးဖြတ်ချက်ကိုထုတ်ပြရလျှင် ဆရာတော်သည်သူ၏ "လယ်တီ ဝိနိစ္ဆယသူစိ"ကျမ်း စုတိစိတ်အဆုံးအဖြတ်၌ -

"ယခင်ဋီကာကျော်ပါဌ်၌" စုတိပရိယောသာနံ"ဟူသော ပုဒ်ကို"စဝနသင်္ခါတံ စုတိစိတ္တံ ပရိယောသာနံ ဩသာနံ အဩ္ဌာ ယေသန္တိ စုတိပရိယောသာနာနိ" ဗဟုဗ္ဗီဟိသမာသ်ပြု၊ တဂ္ဂုဏ သံဝိညာဏဗဟုဗ္ဗီဟိ၊ အတဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗီဟိနှစ်ပါးတို့တွင် စုတိပရိယောသာနဟူသော သမာသ်ပုဒ်အရဖြစ်သော အဆုံးဆုံး ဖြစ်သောစုတိစိတ်ကို စွန့်ပစ်သင့်,စွန့်ပစ်ထိုက်၊ လွှတ်သင့်,လွှတ်ထိုက် ရကား အတဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီဟိသမာသ်ဟု ဆတ်ဆတ်မုချ ဧကန္တမှတ်ယူပါသည်။ ထို့ကြောင့် မဟုတ်လော ဤဋီကာကျော် အဖွင့် အဖေဂ္ဂုသာရဒီပနီကျမ်း၌ -

"ပရိယောသာနသဒ္ဒေါ အနဘိဝိဓျတ္တော အတဂ္ဂုဏတ္တော၀ ဒဋ္ဌဗ္ဗော၊ က္ကတရထာ စုတိ ပဋိသန္ဓိနံ သမာနာရမ္မဏာတာ န သိယာ"-ဟု မိန့်အပ်ပြီး။

အနက်။ ။ ပရိယောသာနဒွေါ-ကို၊ အနဘိဝိဓျတ္တော၀ -အနဘိဝိမိအနက်ရှိ၏ဟူ၍သာလျှင်၊ အတဂ္ဂုဏတ္တော၀- အတဂ္ဂုဏ အနက်ရှိ၏ဟူ၍သာလျှင်၊ ဝါ- အတဂ္ဂုဏသံဝိညာဏ ဗဟုဗ္ဗီ သမာသ်ဟူ၍သာလျှင်၊ ဒဋ္ဌဗ္ဗော- ၏၊ ဣတရတာ- ဤငါဆိုအပ်ခဲ့ပြီးအနက်မှတစ်ပါး အဘိဝိမိအနက် တဂ္ဂုဏသံဝိညာဏဗဟုဗ္ဗီ သမာသ်ဟူ၍၊ ဂယှမာနေ-ယူအပ်သည်ရှိသော်၊ စုတိ ပဋိသန္ဓိနံ- စုတိ,ပဋိသန္ဓေစိတ်တို့၏။ သမာနာရမ္မဏတာ- အာရုံတူမြဲထုံးစံသည်၊ နသိယာ-မဖြစ်နိုင်ရာ။

ဤအဖဂ္ဂုသာရဒီပနီဆရာသည် ပါဠိ,အဋ္ဌကထာ,ဋီကာတို့နှင့် ညီညွတ်သောကြောင့်သင့်မြတ်ပေစွ။

မြတ်စွာဘုရား၏ စုတိစိတ်အာရုံကို မုံရွေးဆရာတော်က မေး၍ ကြည့်ကန်ရှင်ကျော်က "နိဗ္ဗာန်ဘုံထဲအာရုံမြဲ၏"ဟု ဖြေလိုက်သည်မှာ အမှားအလွဲဟု ကေန်အမှန်မုချဟူ၍မှတ်၊ အဘယ့်ကြောင့်နည်းဟူမူသုတ္တန်,အဘိဓမ္မာ,ပါဠိတော်,အဋ္ဌကထာ,ဋီကာ, ဋီကာကျော်, မဏိမဥ္ဇူသာ, အဖေဂ္ဂုသာရဒီပနီ-အစရှိသော အလုံးစုံသောကျမ်းဂန်တို့နှင့် ဆန့်ကျင်သောကြောင့်လည်းကောင်း၊ နိဗ္ဗာန်ကိုအာရုံ ပြု၏ဟုဆိုရာ၌အကြောင်း အမြွက်မျှမရလေသောကြောင့် လည်းကောင်းတည်း။

ဋီကာကျော်ပါဌ်၌ "စုတိပရိယောသာနံ"ပုဒ်ကို တဂ္ဂုဏသံဝိညာဏသမာသ်ယူ၍ ရဟန္တာတို့၏ စုတိသည်လည်း ထင်တိုင်းသာဖြစ်သော နာမ်ရုပ်တရားကိုအာရုံပြုဟန်နှင့် ဝိထိပုံ ချရိုးပြုကြသည်လည်းအမှား ကေန်ပင်။

သဂြိုဟ်နိဿယသစ်၌ကား "ထိုသို့ဝီထိချရိုးပြုကြသည်ကို အဖေဂ္ဂုသာရဒီပနီနှင့် မညီသောကြောင့် မသင့်ဟုမဆိုသာ၊

အဖေဂ္ဂုသာရဒီပနီနှင့်ညီခြင်းမညီခြင်းသည် အကြောင်းမဟုတ်၊ မှန်-မမှန်သာ အကြောင်းဖြစ်သည်၊ မှန်သည်- မမှန်သည်ကိုလည်း ပဋိသမ္ဘိဒါပတ္တပုဂ္ဂိုလ်မြတ်များကို ထား၍တစ်ပါးသောသူတို့သည် သိနိုင်ခဲ၏။ ဤကားခဲရပ်"ဟု မှာထားခဲ့သည်။

ထိုသို့မှာထားခြင်းသည်လည်း ဉာဏ်မနိုင်သောကြောင့်သာ မှာထားရှာသည်၊ အမှုမှာအလျဉ်းမဟုတ်ချေ၊ အဘယ့်ကြောင့်နည်း ဟူမူ အဖေဂ္ဂုသာရဒီပနီနှင့်သာ ညီရုံမဟုတ်၊ ကာမဝိပါက်မှန်က ကာမအာရုံကိုသာ အာရုံပြုနိုင်၏ဟူ၍လည်းကောင်း၊ ပဋိသန္ဓေစိတ်,ဘဝင်စိတ်, စုတိစိတ်တို့သည်အာရုံတူမြဲဟူ၍လည်းကောင်း၊ ဟောတော်မူ,ဆိုတော်မူကြသောအလုံးစုံသော ပါဠိ, အဋ္ဌကထာ, ဋီကာတို့နှင့်လည်း မညီသောကြောင့်လည်းကောင်း၊ တစ်ပါးသော သတ္တဝါတို့၏ ပဋိသန္ဓေစိတ်၊ ဘဝင်စိတ်၊ စုတိစိတ်တို့၏ အာရုံစသော အဘိဓမ္မာအရာများကို ပဋိသမ္ဘိဒါပတ္တမဟုတ်သော်လည်း၊ ပါဠိ, အဋ္ဌထထာ,ဋီကာတို့ဖြင့် သိသင့်သိထိုက်သောကြောင့်လည်းကောင်းတည်း။[၁] -ဟူ၍ ဝိနိစ္ဆယပြုတော်မူခဲ့၏။

အဖြေဆရာတော်သည် သူ၏အဖြေ၌ "စုတိစိတ်သည် ဂတိနိမိတ်ကိုအာရုံပြုခဲ့သော် ထိုဂတိနိမိတ်လည်း ပစ္စုပ္ပန်ရူပါရုံဖြစ်ရကား၊ ထိုရူပါရုံသည် စုတိတည်းဟူသောစိတ်တစ်ချက်သာ အသက်ရှိခဲ့ရာ၏။ ယင်းသို့ စိတ်တစ်ချက်သာအသက်ရှိခဲ့သော် "တာနိ ပန သတ္တရသ စိတ္တက္ခဏာနိ ရူပဓမ္မာနမာယူ"ဟူသော အဋ္ဌကထာစကားနှင့်လည်း ဆန့်ကျင်ရာ၏။"-ဟူ၍ အပြစ်တင်စကားမိန့်ဆိုပြန်၏။

---

၁။ လယ်တီဆရာတော်ဝိနိစ္ဆယသုစိ၊ စာ-နှာ-၁၆။

စုတိစိတ်အာရုံပြုသော ထိုဂတိနိမိတ်သည် ပဋိသန္ဓေစိတ် ယူအပ်ပြီးသောအာရုံဖြစ်သောကြောင့် ပစ္စုပ္ပန်မဟုတ်၊ အတိတ်အာရုံသာဖြစ်၏။ ထိုသို့အတိတ်အာရုံဖြစ်သောကြောင့် သတ္တရသစိတ္တက္ခဏမရကောင်း၊ စိတ္တက္ခဏတစ်ချက်သာ အသက်ရှိ၏ဟု မှတ်ရပါမည်။ ထို့ကြောင့် ယင်းအပြစ်တင်စကားကိုလည်း မဆိုသင့်ပြီ။

အဖြေဆရာတော်သည် "သန္တိမာရမ္ဘာတိ အနုပါဒိသေသံ နိဗ္ဗာနံ အာရဗ္ဘ ပဋိစ္စသန္ဓာယ ယံကာလံ အကရိ"ဟူသော မဟာပရိနိဗ္ဗာနသုတ် အဋ္ဌကထာကိုသာကေပြု၍ ဘုရားရှင် နိဗ္ဗာန်ကို အာရုံပြု၍ စုတိကြောင်းကိုဆို၏။ ယင်းအဆိုသည် သုတ္တဒေသနာတော်ဖြစ်၍ ဝေါဟာရဒေသနာ၏ အဆိုဖြစ်၏။ ဝေါဟာရဒေသနာတော်ဖြင့် ပရမတ္ထမေ့ကို ဆုံးဖြတ်ခြင်းသည် မသင့်လျော်ပေ။ စုတိစိတ်တို့၏ အာရုံနှင့်ပတ်သက်၍၊ အဘိဓမ္မာကျမ်းများ၌ အပြည့်အစုံဖော်ပြထားသော အခန်းကဏ္ဍများရှိ၏။ အဖြေဆရာတော်သည် အဘိဓမ္မာ၌ အပြည့်အစုံရှိသည့် ထိုအာရုံပြုပုံအခန်းကဏ္ဍများကို မကြည့်ဘဲ ချန်ထားပြီး၊ သုတ္တန်ဝေါဟာရဒေသနာဖြင့် ပရမတ္ထမေ့ကိုဆုံးဖြတ်ခြင်းသည် အံချော်နေသော အချက်ပင်ဖြစ်ပါသည်။ သို့ဖြစ်၍ စိစစ်ဖွယ်ပင်မလိုချေ၊ သို့သော် လေ့လာသူများသုတပွားစေရန် စိစစ်ဖော်ပြရသော် -

ဘုရားရှင်၏ စုတိစိတ်တော်သည် နိဗ္ဗာန်ကိုအာရုံမပြုပါ။ အဘယ့်ကြောင့်ဆိုသော် မည်သည့်အဘိဓမ္မာပါဠိ, အဋ္ဌကထာ, ဋီကာမှာမှ နိဗ္ဗာန်ကိုအာရုံပြုကြောင်း အရိပ်အမြွက်မျှပင် မပါရှိ

သောကြောင့် ဖြစ်ပါသည်။ ကာမဝိပါက်မှန်လျှင် ကာမတရားကိုပင်အာရုံပြုသောကြောင့် ဖြစ်ပါသည်။ ကာမဝိပါက်မှန်လျှင် ကာမတရားကိုပင် အာရုံပြု ရိုးဖြစ်၏။ ဘုရားရှင်သည် ပဋိသန္ဓေနေတော်မူခဲ့စဉ်က မဟာဝိပါက်ပဌမစိတ်ဖြင့် ပဋိသန္ဓေနေတော်မူခဲ့၏။ နိမိတ်လည်း လူ့ပြည်ဂတိနိမိတ်ကိုအာရုံပြုခဲ့၏။ သို့ဖြစ်၍ ဘုရားရှင်၏ စုတိစိတ်တော်သည်လည်း ထိုမဟာဝိပါက်ပဌမစိတ်ဖြစ်၍ ထိုဂတိနိမိတ်ကိုပင် ပြန်၍အာရုံပြုရပေမည်။ အဘိဓမ္မာသဘောမှာ မျက်နှာကြီးငယ်လိုက်ရိုးထုံးစံမရှိပေ။ ဤအကြောင်းနှင့်စပ်၍ ပါဠိတော်, အဋ္ဌကထာ, ဋီကာလာအကိုး သာဓကများကိုဖော်ပြခဲ့ပြီးဖြစ်ပါသည်။

အဖြေဆရာတော်ထောက်ထားသည့် "သန္တိမာရဗ္ဘ"၏ အဓိပ္ပါယ်မှာ ပရိနိဗ္ဗာန်စံတော့မည်ဖြစ်၍ ထိုနိဗ္ဗာန်ကိုခပ်စောစောကပင်ရည်ရွယ်လျက် နေတော်မူသည်ကို ဆိုလိုပါသည်။ အကယ်၍ နိဗ္ဗာန်ကိုအာရုံပြုသည်ဟု ဆိုလိုပါက- "သန္တိမာရဗ္ဘာတိ သန္တိံ နိဗ္ဗာနံ အာရဗ္ဘ အာရမ္မဏံ ကတွာ"- ဟူ၍ အာရမ္မဏံ ကတွာ ပုဒ်တို့ကို ထည့်၍ ဖွင့်ရာ၏။ ယခုထိုသို့ကား မဖွင့် "အာရဗ္ဘ ပဋိစ္စ သန္ဓာယ" ဟူ၍ရည်ရွယ်ခြင်းအနက်ရှိသော သန္ဓာယပုဒ်ဖြင့် ဖွင့်ပြထား၏။ ထို့ကြောင့် နိဗ္ဗာန်ကို ခပ်စောစောကပင်ရည်ရွယ်လျက် နေတော်မူသည်ဟုဆိုခြင်းဖြစ်ပါသည်။

တစ်နည်းအားဖြင့် စိစစ်ကြည့်လျှင်လည်း ၎င်းအဖြေသည် သဘာဝကျကြောင်းတွေ့ရ၏။ မှန်ပါသည် မြတ်စွာဘုရားရှင်သည် ပရိနိဗ္ဗာန်စံခါနီး၌ သမာပတ်ဝင်စားတော်မူပြီး ဈာန်အင်္ဂါတို့ကို

ဆင်ခြင်တော်မူပါသည်။ ယင်းသို့ဈာန်အင်္ဂါတို့ကို ဆင်ခြင်သော ဝီထိစိတ်၏ အဆုံး၌ စုတိစိတ်တော်ကျခြင်း ဖြစ်၏။ စုတိမရောက် ခင်ဈာန်အင်္ဂါကို ဆင်ခြင်ခိုက်၌ ဈာန်အင်္ဂါများအာရုံ၌ ထင်လာရ ပေမည်။ သမာပတ်ဝင်စားခိုက်၌လည်း သမာပတ်အာရုံဖြစ်သော ကသိုဏ်းပညတ်စသည်တို့ထင်လာရပေမည်။ ထိုအခိုက်မှာနိဗ္ဗာန် အာရုံထင်လာဖွယ်မရှိပါ။ စုတိအခိုက်မှာလည်း ဂတိနိမိတ်ထင်နေ၍ မည်သည့်နည်းနှင့်မျှနိဗ္ဗာန်ကိုအာရုံပြုခွင့်မရနိုင်ပါ။ ထို့ကြောင့်သမာ ပတ်မဝင်စားမီ ခပ်စောစောက နိဗ္ဗာန်ကိုရည်ရွယ်လျက်နေတော်မူ သည်ဟူသောအဖြေသည်သာ သဘာဝကျသော အဖြေဖြစ်ပါသည်။

ထို့ပြင် အဖြေဆရာတော်သည် "စုတိစိတ်နှင့်တကွသော မရဏာသန္နစိက်တို့သည်ထင်တိုင်းသော သင်္ခါရဟုဆိုအပ်သော နိဗ္ဗာန်ကိုအာရုံပြု၏။"-ဟု မိန့်ဆိုထားပြန်၏။ ယင်းသို့ဆိုက ဝိသေသနဖြစ်သော သင်္ခါရနှင့်ဝိသေသျဖြစ်သော နိဗ္ဗာန်တို့ အတူတူပင် ဖြစ်နေ၏။ သင်္ခါရသည် နိဗ္ဗာန်ဖြစ်ပြီး၊ နိဗ္ဗာန်သည် လည်းသင်္ခါရဖြစ်နေ၏၊ ယင်းသို့ဖြစ်လျှင် အနိစ္စသဘော, ဒုက္ခသဘော, ပြုပြင် အပ်သောသဘောရှိသောသင်္ခါရကို နိစ္စ, သုခ, အသင်္ခတ သဘောရှိသည်ဟူ၍လည်းကောင်း၊ နိစ္စ, သုခ, အသင်္ခတသဘောရှိ သောနိဗ္ဗာန်ကိုအနိစ္စသဘော, ဒုက္ခသဘော , ပြုပြင်အပ်သောသ ဘောရှိသည်ဟူ၍လည်းကောင်း ကပြောင်းကပြန်ဆိုရာရောက် နေ ၏။ထို့ကြောင့်ယင်းစကားသည်လည်း မသင့်သောစကားပင် ဖြစ်သည်။

**နိဂုံး**

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် အဖြေဆရာတော် သည် "စုတေ့နီးစိတ်"ဟူသော စကားအရ စုတိစိတ်နှင့်ယင်းစိတ်

၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ်တို့သည် နိဗ္ဗာန်ကို အာရုံ ပြုသည်ဟူ၍ ယူမှားရခြင်းမှာ- "သန္တိမာရဗ္ဘ"စသော သုတ္တန် ဒေသနာတော်ကို အဓိပ္ပါယ်တစ်မျိုးယူထားခြင်းကြောင့် ဖြစ်ပါ သည်။ အမှန်စင်စစ်စိတ်တို့၏ အာရုံပြုဆိုင်ရာပြဿနာသည် အဘိဓမ္မာပြဿနာဖြစ်၍ အဘိဓမ္မာလာအာရုံပြုဆိုင်ရာ အခန်း ကဏ္ဍများကို ကြည့်၍သာဖြေရှင်းသင့်၏။ ဝေါဟာရသုတ္တန် ဖြင့်မဖြေရှင်းသင့်ပါ။ သုတ္တန်ဒေသနာဖြင့်ဖြေရှင်းလျှင်လမ်း ကြောင်းလွဲနေ၍ ပြဿနာပြေလည်မည်မဟုတ်ပေ။ သို့ဖြစ်၍ ပြဿနာကို ဖြေရှင်းရာ၌ဖြစ်စေ၊ အခြားအရာ၌ဖြစ်စေလမ်း ကြောင်းမလွဲသင့်၊ လမ်းကြောင်းလွဲလျှင် အကျိုးမဲ့ဖြစ်တတ် သည်ဟူ၍ ကောက်ချက်ချနိုင်ပါသည်။ ထို့ပြင် ရဟန္တာတို့၏ စုတိစိတ်နှင့်မရဏာသန္နစိတ်တို့သည် နိဗ္ဗာန်ကိုအာရုံပြုသည်ဟူ၍ မူရင်းကျသော အဘိဓမ္မပါဠိ၊အဋ္ဌကထာ၊ဋီကာတို့၌ စကားအရိပ် အမြွက်မျှပင်မပါ။ ရဟန္တာတို့၏ စုတိစိတ်သည် အတိတ်ဖြစ်သော ကံ၊ကမ္မနိမိတ်၊ ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါးကိုအာရုံပြုသည် ဟူ၍လည်းကောင်း၊ စုတိ၏အနီး၌ဖြစ်သော မရဏာသန္နဝီထိစိတ် သည် ထင်တိုင်းသော ရုပ် နာမ်ဓမ္မသင်္ခါရစသည်ကိုသာ အာရုံပြု သည်ဟူ၍လည်းကောင်း ဆိုသင့်ပါသည်။ သို့မှသာ အဘိဓမ္မာ ပါဠိ၊အဋ္ဌကထာ၊ဋီကာလာ မျက်နှာမလိုက်သော အဘိဓမ္မာသဘော တရားတို့နှင့်ညီညွတ်ပြီး မှန်ကန်သည့် အဖြေဟုဆိုရမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။



# အခန်း(၉)

## သုံးဆယ့်နှစ်မည်၊ မြို့ကြီးတည်၊ မည်မျှလူမျိုးနေသနည်း။ (၇၄၀)

### မူရင်းအဖြေ

“သုံးဆယ့်နှစ်မည်၊ မြို့ကြီးတည်၊ မည်မျှလူမျိုး နေသနည်း” ဟူသော အမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ကေသာလောမာစသော ဒွတ္တိံသာကာရ၏ အစုဖြစ်သော လူတို့၏ ခန္ဓာကိုယ်သည် ခန္ဓာပုရမြို့မည်၏။ ထိုမြို့၌ အကုသိုလ်စိတ် ဒွါဒသတို့နှင့် သမ္ပယုတ်ဖြစ်သော စေတသိက်သတ္တဝီသတည်း ဟူသောလူဆိုး လူသွမ်းတစ်မျိုး၊ ကုသိုလ်စိတ်ကောဝီသတိနှင့် သမ္ပယုတ်ဖြစ်သောစေတသိက် အဋ္ဌတိံသတည်းဟူသော လူကောင်း သူကောင်းတစ်မျိုး၊ ဝိပါက်စိတ် ဆတ္တိံသတို့နှင့် သမ္ပယုတ်ဖြစ်သော စေတသိက် အဋ္ဌတိံသတည်းဟူသောသူမြတ်တစ်မျိုး၊ ကိရိယာစိတ် ဝီသ၊ စေတသိက် ပဉ္စတိံသတည်းဟူသော သူလွန်သူမြတ်တစ်မျိုး၊ ဤလေးမျိုးသော သူတို့သည် နေ၏ဟူပေ။

သဒ္ဒိသူပစာဖြင့်ဆိုသော ပုစ္ဆာဖြစ်၍ လူတို့၏ကိုယ်ကိုယူ သင့်ကြောင်းဖြင့် ဆရာဖြေသော် ဤခန္ဓာကိုယ်ကို မြို့ဆို၍ ဟော ပြသော ဘုရားဒေသနာရှိပါ၏လောဟူငြားအံ့-

အဋ္ဌိနံ့ နာဂရံ ကတံ၊ မံသလောဟိတလေပနံ။
ယတ္ထ ဇရာစ မစ္စူစ၊ မာနော မက္ခော စ ဩဟိတော။
-ဟူ၍နှုမတော် ဇနပဒကလျာဏီအား ဘုရားဟောသောဒေသနာ ရှိ၏။ ထိုဒေသနာကို ဓမ္မပဒ၌ သံဂါယနာတင်၏ဟူပေ။

နဋ္ဌေ- ရူပနန္ဒာသညာတွင်ညီ ကလျာဏီ၊ အယံကာယော- ဤကိုယ်ဟူသည်ကား၊ မံသလောဟိတလေပနံ- အသားအသွေးတို့ဖြင့် လိမ်းကျံအပ်သော၊ အဋ္ဌိနံ-အရိုးတို့၏။ နဂရံ-မြို့ကို၊ ကတံ- ပြုအပ်၏။ ယတ္ထ-အကြင်ကိုယ်ဟူသော မြို့၌၊ ဇရာစ- အိုခြင်းသည်လည်းကောင်း၊ မစ္စူစ- သေခြင်းသည်လည်းကောင်း၊ မာနောစ- ထောင်လွှားခြင်းသည်လည်းကောင်း၊ မက္ခောစ- သူ့ကျေးဇူးကို ချေခြင်းသည်လည်းကောင်း၊ ဩဟိတော- တည်၏။

ဤအတူဟောတော်မူသော နဂရူပ ဒေသနာကားများ၏။ ဤကိုမှီ၍ ရှေးဆရာတို့လည်း ခန္ဓာပုရမြို့ကြီး၌၊ သီသပဗ္ဗတ-တောင်ရှိကြောင်း၊ မုခဒွါရတံခါးမကြီး၊ ဇိဝှါမည်သောနင်းကြမ်းကြီးရှိကြောင်း၊ နာသဂုဟာမည်သော မလွယ်တံခါးနှစ်ပေါက်၊ ကဏ္ဏမည်သော တံခါးနှစ်ပေါက်ရှိကြောင်း၊ စက္ခုမုစလိန္ဒာအိုင် ရှိကြောင်းတို့ဖြင့် တင့်တယ်စွာမြို့အင်္ဂါနှင့် ပြည့်စုံဟန်ကိုစီမံ၍ ထားသော စာငယ်များလည်း ထင်ရှားရှိသည်ပင်ဖြစ်သည်။

**ပြဿနာဖြစ်ရသည့်အချက်**

ဤအဖြေသည်မူရင်း စွယ်စုံကျော်ထင်ကျမ်း၌ လာသော အဖြေဖြစ်ပါသည်။ ဤအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်မှာ- “ထိုမြို့၌ အကုသိုလ်စိတ် ဒွါဒသတို့နှင့် သမ္ပယုတ်ဖြစ်သော

စေတသိက် သတ္တဝီသတည်းဟူသော လူဆိုးလူသွမ်းတစ်မျိုး၊ ကုသိုလ်စိတ်ကောဝီသတို့နှင့် သမ္ပယုတ်ဖြစ်သော စေတသိက်အဋ္ဌတိံသတည်းဟူသော လူကောင်းသူကောင်းတစ်မျိုး၊ ဝိပါက်စိတ် ဆတ္တိံသတို့နှင့်သမ္ပယုတ်ဖြစ်သော စေတသိက်ပဉ္စတိံသတည်းဟူသောသူမြတ်တစ်မျိုး၊ ကိရိယာစိတ်ဝီသ၊ စေတသိက် ပဉ္စတိံသတည်းဟူသော သူလွန်သူမြတ်တစ်မျိုး ဤလေးမျိုးသောသူတို့သည်နေ၏" ဟူသောအချက်ပင်ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

ကုသိုလ်,အကုသိုလ်,ဝိပါက်,ကိရိယာဖြစ်သော စိတ်စေတသိက်များကို လူမျိုးအနေဖြင့် ဖေါ်ပြပါက ပုစ္ဆကအာဘော်ကျမည်မဟုတ်ပေ။ အဘယ့်ကြောင့်ဆိုသော် ပုစ္ဆကဆရာသည် "မည်မျှလူမျိုးနေသနည်း"ဟူ၍ အမျိုး၏အစွမ်းဖြင့် ပုစ္ဆာထုတ်ထားခြင်းဖြစ်၏။ အဖြေ၌အကုသိုလ်,ကုသိုလ်,ဝိပါက်,ကိရိယာဖြစ်သောအယုတ်,အလတ်,အမြတ်အားဖြင့် ဖြေဆိုထားခြင်းဖြစ်၏။ ထို့ကြောင့် ပုစ္ဆကအာဘော်မကျဟု ဆိုခြင်းဖြစ်ပါသည်။ ထို့ပြင် "မည်မျှလူမျိုးနေသနည်း"ဟူသော အမေးပုစ္ဆာအရ တစ်ပြိုက်နက် တစ်ချိန်တည်းတွင် အတူတကွနေထိုင်သော အမျိုးအစား အရေအတွက်ကို ပုစ္ဆကသိလိုဟန်ရှိ၏။ ကျီးသဲဆရာတော်ဖြေဆိုသော အကုသိုလ်, ကုသိုလ်, ဝိပါက်, ကိရိယာစိတ်နှင့် သမ္ပယုတ်စေတသိက်များတစ်ချိန်တည်းတွင် အတူတကွဖြစ်နိုင်ကြသည်မဟုတ်၊ တစ်ခုချုပ်ပြီးမှ တစ်ခုဖြစ်လေ့ရှိ၏။ တစ်ပြိုင်နက်အတူနေခြင်းသဘောမဆောင်၊ ထို့ကြောင့် ပုစ္ဆက၏အာဘော်ကို ထင်ဟပ်ခြင်းမရှိဖြစ်ရသည်။ အမျိုး၏အစွမ်းဖြင့် မေးထား၍ အဖြေကိုလည်း အမျိုး၏

အစွမ်းဖြင့်ပင် ဖြေဆိုမှသာ ပုစ္ဆကအာဘော်ကျပေမည်။

**'အမျိုး'ဟူသောဝေါဟာရအဓိပ္ပါယ်**

ဤ၌အမျိုးဟူသည်-

(၁) သွေးသားတော်စပ်သူ၊ ဆွေမျိုးကိုအမျိုးဟုခေါ်၏။

(၂) ဘိုး,ဘွား,မိဘအစဉ်အဆက်မပြတ် အလုပ်အကိုင်ဆက်ခံဆင်းသက်ပေါက်ဖွားလာသော မျိုးရိုးကိုလည်းအမျိုးဟုခေါ်၏။ သာဓကမှာ "သေနာပတိကုလေ စစ်သူကြီးအမျိုး၌၊ ဇာတော- ဖြစ်ပါ၏" နိသျ၊ ၉၂။

(၃) သက်ရှိသက်မဲ့တို့၏ သဘာဝသွင်ပြင် စွမ်းအင်သတ္တိစသည် တူရာကို ခွဲခြားသတ်မှတ်ထားသောအစုကို လည်း၊ အမျိုးဟုခေါ်၏။ သာဓကမှာ "ဘိုးနတ်စံတည်၊ မြကျောက်ရည်သို့၊ လှသည်အမျိုး၊ လှယဉ်တိုး၍" မြား၊ ၉၃။[၁]

ဤသို့အနက်သုံးမျိုး၌ဖြစ်သော်လည်း ဤနေရာတွင် (၃) နံပါတ်အနက်၌သာ အကျုံးဝင်၍ ၎င်းအနက်ကိုသာယူရပါမည်။ ဤကားအမျိုးဟူသော စကား၏အဓိပ္ပါယ်ဖြစ်ပါသည်။

အကယ်၍ "လူအမျိုး"ဟု မခွဲဘဲ "လူမျိုး"၌ မျိုးဟူသောစကားအဓိပ္ပါယ်ကို ဖော်ပြပါဟုဆိုလျှင်၊ မျိုးဟူသည်-

(၁) သဘာဝသွင်ပြင်၊ စွမ်းအင်၊ သဘောစရိုက်-စသည် တစ်နည်းတစ်ဖုံးကိန်းအောင်းသောအရာတို့တွင် သီးခြားတူရာအစု၊ အတန်းအစား စသည်သတ်မှတ် ပိုင်းခြားချက်ကို မျိုး-ဟုခေါ်၏။ သာဓက "ပြည့်စုံ သောအစည်းအရုံးမျိုး၊ ဖြူးကာနဲဖြစ်ပေါ်၍မလာနိုင်" မတ်စ်၊ ၁၂၆။

---

၁။ မြန်မာအဘိဓာန်အကျဉ်းချုပ် 'အတွဲ (၅)၊ စာနှာ-၁၀၄။

"လေးမျိုး (၈၀)၊ သည်းခြေမျိုး(၄၀)၊ သလိပ်မျိုး(၂၀)" ဆေးဖော်၊ ၁၁၉။[၀] ပိုးမျိုး(၈၀)[၂] ၊လူမျိုး(၁၀၁)[၃]ပါး။

(၂) မိဘအနွယ်တစ်စုံတစ်ရာမှ သွေးသားဆက်စပ်၍ တစ်ဆက်တည်းဆင်းသက်လာသူများ၊ အမျိုးကိုလည်းမျိုး-ဟုခေါ်၏။ သာဓက "အားသုံးထောင်ထား၊ မျိုးလေးပါးတို့" ကိုး၁။

(၃) အနွယ်ဆက်ပွားစေနိုင်သောအစေ့၊ အမြစ်၊ ပင်စသည် စသည့်အရာများကိုလည်း "မျိုး"ဟု ခေါ်၏။ သာဓက "မျိုးပဲစပါး၊ ကွဲပွားစွန့်ရှောင်း" မဃ-၄၉၀။

(၄) အကျိုးဖြစ်ထွန်းစေနိုင်သောအကြောင်းခံကိုလည်း "မျိုး"ဟု ခေါ်၏။ သာဓက"သဒ္ဓါလှူမျိုး တစ်ကြိမ်ပျိုးက" ကိုး-၂၂။

(၅) တိရစ္ဆာန်တို့၏ အမျိုးအနွယ်ဆက်ပွားသော ဗီဇသား လောင်း၊ ဥ-ကိုလည်း "မျိုး"ဟု ခေါ်၏။ သာဓက "ကိုယ်ဝန်ဆောင် သောသတ္တဝါကို မျိုးရှိသည်ဆို၏သို့" ဝိဋ္ဌနီ၊ တ၊ ၄၉၂။

ဤသို့ "မျိုး"၏အနက် (၅)မျိုးရှိသည်တွင် ဤနေရာ၌ "မျိုး" အရနံပါတ်(၁) အနက်၌သာအကျုံးဝင်၍ရင်း အနက်ကိုသာ ယူရပါမည်။ ထို(၁)နံပါတ်အနက်တွင် ပါဝင်သည့်လေမျိုး(၈၀)၊ ပိုးမျိုး(၈၀)၊ လူမျိုး(၁၀၁)ပါး-စသည်တို့တွင်လည်း ပိုးမျိုး(၈၀)ကို သာယူရပါမည်။ အခြားအမျိုးများကိုမယူရပါ။ အဘယ်ကြောင့်ဆို သော် "မည်မျှလူမျိုးနေသနည်း"ဟူသော စကားသည် မုချစကား မဟုတ် ဥပစာစကားဖြစ်သောကြောင့် လည်းကောင်း၊ ခန္ဓာကိုယ်

၁။ မြန်မာအဘိဓာန်အကျဉ်းချုပ် 'အတွဲ (၃)၊ စာနှာ-၁၇၇။

၂။ မြန်မာအဘိဓာန်အကျဉ်းချုပ် 'အတွဲ (၃)၊ စာနှာ-၂၅။

၃။ မြန်မာအဘိဓာန်အကျဉ်းချုပ် 'အတွဲ (၄)၊ စာနှာ-၇၄။

အတွင်း၌ အမျိုး၏အစွမ်းဖြင့်ပိုးမျိုး(၈၀)တို့ နေကုန်၏ဟူသော အဋ္ဌကထာစကားများရှိသောကြောင့်လည်းကောင်း ဖြစ်ပါသည်။

**ဥပစာသဘော**

ဥပစာစကားဟူသည် တင်စား၍ ပြောဆိုရေးသားသော စကားဖြစ်သည်။ တင်စားခြင်းဆိုသည်မှာ စကားတစ်ခုကိုဝေါဟာရပြောရိုးအနက်မှန်အတိုင်းမပြောဘဲ အနက်မှန်မဟုတ်သော တစ်ပါးသောအနက်၌ ပြောဆိုခြင်းမျိုးဖြစ်သည်။ ထိုဥပစာသည် (၁) ကာရဏူပစာ၊ (၂) ဖလူပစာ၊ (၃) သဒိသူပစာ၊ (၄)ဌာနူပစာ (၅)ဌာန္ယူပစာ၊ (၆) ဂုဏူပစာ၊ (၇) ဧကဒေသူပစာ၊ (၈) သမီပူပစာ၊ (၉) တဒ္ဓမ္မူပစာ၊ (၁၀) ဘေဒူပစာအားဖြင့် (၁၀)မျိုးရှိ၏။

(၁)ကာရဏူပစာဟူသည်- အကြောင်း၏အမည်ကို အကျိုး၌တင်စား၍ပြောဆိုသော(ဝါ) အကြောင်းကိုပြော၍ အကျိုးကို ကောက်ယူရသောဥပစာဖြစ်၏။ ဝါကျ၌အကြောင်း၏ အမည်ကိုသာ ပြောဆိုသော်လည်း ထိုအကြောင်းနှင့် မကင်းရာဖြစ်သော အကျိုး အမည်ကို ကောက်ယူရန်တင်စားပြောဆိုရေးသားသော စကား မျိုးဖြစ်သည်ဟု ဆိုလိုပါသည်။ ပုံစံ- "နှုတ်ချိုသျှိုတစ်ပါး" စသည်တည်း၊ ဤပုံစံ၌ အကြောင်းဖြစ်သောနှုတ် (နှုတ်ခမ်း) သဒ္ဒါကို အကျိုးဖြစ် သောစကားအနက်၌ သုံးသောကြောင့် ကာရဏူပစာမည်၏။

(၂)ဖလူပစာဟူသည်- အကျိုး၏အမည်ကိုအကြောင်း၌ တင်စား၍ ပြောဆိုသော (ဝါ)အကျိုးပြောအကြောင်း ကောက်ရ သော ဥပစာဖြစ်သည်။ ဝါကျ၌အကျိုး၏အမည်ကိုသာပြောဆို သော်လည်း ထိုအကျိုးနှင့်မကင်းရာ ဖြစ်သောအကြောင်းကို ကောက်ယူရန်တင်စား ပြောဆိုသောစကားမျိုးဖြစ်သည်။ ပုံစံ-

"မခင်ထမင်းချက်သည်" စသည်တည်း၊ ဤပုံစံ၌အကျိုးထမင်းကို ချက်သည်မဟုတ်အကြောင်းဆန်ကိုသာ ချက်ခြင်းဖြစ်၏။ ဤသို့ အကျိုးဖြစ်သော"ထမင်း"ကို အကြောင်းဖြစ်သော ဆန်အနက်၌ သုံးသောကြောင့်ဖလူပစာမည်၏။

(၃)သဒိသူပစာဟူသည်- အတူဖြစ်သော အနက်၏ အမည် ကိုအတူရှိသော အနက်၌တင်စား၍ ပြောဆိုသော (ဝါ) အနှိုင်းပြော အနှိုင်းခံကောက်ရသောဥပစာဖြစ်သည်။ ဝါကျ၌အနှိုင်းစကားကို သာဖော်ပြ၍ယင်းအနှိုင်းအမည်ကို အနှိုင်းခံအနက်၌ တင်စားပြော ဆိုသော စကားမျိုး ဖြစ်သည်။ ပုံစံ- "သုံးခွင်လုံးမကိုင်၊ သုံးတိုက် သုံးမှန်ကူ၊ ကြွတော်မူပါရော့"စသည်တည်း။ ဤပုံစံ၌ အနှိုင်းခံဝတ္ထု မပါဘဲ အနှိုင်းဝတ္ထုကိုသာ ထုတ်ဖော်ပြောဆို သော်လည်း အနှိုင်း ဝတ္ထုဖြစ်သည့် မကိုင်မှန်ကူကို မြတ်စွာဘုရား ကိုယ်စား တင်စား နှိုင်းဆိုပြခြင်းဖြစ်သဖြင့် အနှိုင်းခံဝတ္ထု မြတ်စွာဘုရားကိုသာ အဓိပ္ပါယ်ကောက်ယူရသောကြောင့်သဒိသူပစာ မည်၏။

(၄)ဌာနူပစာဟူသည်-ဌာန၏အမည်ကိုဌာနီ၌ တင်စား၍ ပြောဆိုသော (ဝါ) တည်ရာပြော တည်သူကောက်သော ဥပစာ မည်၏။ ပုံစံ- "ကန်တော်မင်းကျောင်း၊ မေတ္တာ လောင်းပိမ့်" စသည်တည်း။ ဤပုံစံ၌တည်ရာဖြစ်သောကန်တော်မင်းကျောင်းကို ဖော်ပြထား သော်လည်း အဝိညာဏက အသက်မရှိသောကျောင်းက မေတ္တာ လောင်းသည်ဟု ဆိုလိုသည် မဟုတ်၊ ထိုကျောင်းနေ ဆရာတော်က မေတ္တာလောင်းသည်ဟု ဆိုလိုပါသည်။ ထိုသို့တည်ရာကိုပြော၍ တည်သူကို ကောက်ယူရသောကြောင့် ဌာနူပစာမည်၏။

(၅)ဌာန္ယူပစာဟူသည်- ဌာနီ၏အမည်ကို ဌာန၌တင်စား၍ ပြောဆိုသော (ဝါ) တည်သူပြော တည်ရာကို ကောက်ယူရသော ဥပစာမည်၏။ ပုံစံ-"စူဠဂါဠိပြဟ္မဒတ်မင်းသည် ထင်း,ရေ မဝင်ရအောင်ပိတ်လေသည်" စသည်တည်း ဤပုံစံ၌ ထင်းနှင့် ရေတို့ကို ထမ်းလာသူတို့ မဝင်ရအောင် ပိတ်သည်ဟု ထင်းနှင့်ရေတို့၏ တည်ရာ ထမ်းလာသူကို ဆိုလိုလျက် တည်သူ ထင်းနှင့်ရေကိုသာ ဤ၌ပြောဆိုခြင်းကြောင့်ဌာန္ယူပစာမည်၏။

(၆)ဂုဏူပစာဟူသည်- ဂုဏ်၏အမည်ကို ဂုဏော၌တင်စား၍ပြောသော (ဝါ) ဂုဏ်ပြောဒြပ်ကောက်ရသော ဥပစာမည်၏။ ပုံစံ-"စိမ်းဝါမိုးပန်း၊ ထွေထွေစွန်းက၊ ရေသွန်းသာကြည်၊ ပျော်ရမည်ကို" စသည်တည်း၊ ဤ၌စိမ်း,ဝါ-သဒ္ဒါတို့သည် စိမ်း,ဝါ သောအဆင်းတည်းဟူသော ဂုဏ်ကို အကြောင်းပဝတ္တနိမိတ်ပြု၍ ပန်းဒြပ်ကို ဟောသောကြောင့် ဂုဏူပစာမည်၏။

(၇)ဧကဒေသူပစာဟူသည် အပေါင်းဖြစ်သော ဒြပ်၏အမည်ကိုအစိတ်ဖြစ်သော ဒြပ်၌တင်စား၍ ပြောဆိုသော(ဝါ) အပေါင်းပြော အစိတ်ကောက်သော ဥပစာမည်၏။ ပုံစံ-"ဟိမဝန္တာတောင်ကို ကျွန်ုပ်မြင်သည်"စသည်တည်း။ ဤ၌ဟိမဝန္တာတောင်သည် အလွန်ကြီးမားကျယ်ပြန့်သဖြင့် တစ်တောင်လုံးကို မြင်နိုင်စွမ်း သည်မဟုတ်၊ တစ်စိတ် တစ်ဒေသကိုသာမြင်ခြင်းဖြစ်သည်။ ဤသို့ တစ်တောင်လုံး မြင်ပုံအပေါင်းကို ပြောဆိုသော်လည်း တစ်စိတ် တစ်ပိုင်းကိုသာမြင်ရသည်ဟု အနက်ကောက်ယူရသောကြောင့်ဧကဒေသူပစာမည်၏။

(၈)သမီပူပစာ-ဟူသည် အနီးရှိသောဝတ္ထု၏ အမည်ကို အနီးဖြစ်သောဝတ္ထု၌တင်စား၍ ပြောဆိုသော (ဝါ) ထင်ရှားရာ ပြောနီးရာကောက်ရသော ဥပစာဖြစ်၏။ ပုံစံ "ရွှေကျင်မြို့၌ ဆေးစိုက်သည်"စသည်တည်း၊ ဤ၌ရွှေကျင်မြို့တွင်း၌ ဆေးစိုက်သည် မဟုတ်၊ ယင်းမြို့အနီးဝန်းကျင်၌စိုက်သည်ဟု အနက်ကောက်ရသောကြောင့်သမီပူပစာမည်၏။

(၉)တဒ္ဓမ္မူပစာဟူသည်- ထင်ရှားရှိသောဝတ္ထု၏ အမည်ကို ထင်ရှားမရှိသောဝတ္ထု၌ တင်စား၍ပြောဆိုသော (ဝါ) အရှိပြော မရှိကောက်ရသောဥပစာမည်၏။ ပုံစံ "ယုန်ချို၊ လိပ်မွေး၊ ပုဇွန်သွေး ပါသောဆေးကို စားလျှင်သင့်ရောဂါပျောက်လိမ့်မည်" စသည်တည်း။ ဤ၌ဆိတ်၊ နွားတို့၌ဦးချိုရှိသဖြင့်၊ ယုန်၌လည်းဦးချို ရှိလေဟန်ဆိုသော်လည်း၊ ယုန်၌ဦးချိုမရှိသည့်အနက်ကိုသာ ကောက်ယူရသောကြောင့် တဒ္ဓမ္မူပစာမည်၏။

(၁၀)ဘေဒူပစာဟူသည်- မပြားဘဲကိုပြားသကဲ့သို့ ခေါ်ဝေါ် သော(ဝါ) အကွဲပြော မကွဲကောက်ရသော ဥပစာမည်၏။ ပုံစံ"ငါ၏ကိုယ်"စသည်တည်း။ ဤ၌ငါဟူသည်တစ်ဦးကိုယ်ဟူသည် တစ်ဦးကဲ့သို့ ကွဲပြားလေဟန်ဖြစ်နေသော် လည်း ငါသည်လည်း ကိုယ်၊ ကိုယ်သည်လည်းငါပင်ဖြစ် သောကြောင့် ဘေဒူပစာမည်၏။[၁]

**လူမျိုးဟူသောဝေါဟာရသဒ်သူပစာဖြစ်ပုံ**

ဤ(၁၀)ပါးသောဥပစာတို့တွင် "မည်မျှလူမျိုးနေသနည်း"ဟူသော စကားသည် အတူဖြစ်သောလူမျိုးဒြပ်၏ "လူမျိုး" ဟူသော အမည်ကို အတူရှိသောပိုးမျိုးဒြပ်၌ တင်စား၍ ပိုးမျိုးကို

၁။ သဒ္ဒါကြီးပုဒ်စစ် -၁၄၂။ မြန်မာ့စွယ်စုံကျမ်းအတွဲ(၁၄)၊-၄၇၄ မှ ၄၇၆ထိ။

"လူမျိုး"ဟု ဆိုသောကြောင့် (ဝါ) လူမျိုး-ဟူသောအနိုင်းကို ပြော၍ "ပိုးမျိုး"ဟူသော အနိုင်းခံကိုကောက်ယူရသောစကားဖြစ်သော ကြောင့် သဒိသူပစာဖြစ်ပါသည်။

မှန်ပါသည်။ လူ၏ခန္ဓာကိုယ် မြို့ကြီး၌ရှမ်းလူမျိုး၊ မြန်မာ လူမျိုး-စသောပကတိလူမျိုးတို့ နေ၍မဖြစ်နိုင်။ လူမျိုးနှင့်အမျိုး၏ အစွမ်းအားဖြင့် တူညီသောပိုးမျိုးတို့သာ နေ၍ဖြစ်နိုင်၏။ "လူမျိုး" ကား အနိုင်းစကား၊ ပိုးမျိုးကား အနိုင်းခံ ဝတ္ထုဖြစ်၏။ အထက်ပါဝါကျ၌ အနိုင်းခံဝတ္ထုဖြစ်သည့် "ပိုးမျိုး"ဟူ သောစကား မပါဘဲအနိုင်းဝတ္ထု ဖြစ်သည့် "လူမျိုး"ဟူသောစကားကိုသာ ထုတ်ဖော်ပြောဆိုထား၏။ သို့သော် အနိုင်းဝတ္ထုဖြစ်သည့် "လူမျိုး" ကိုအနိုင်းခံ "ပိုးမျိုး"-ဟူသော စကား၏ ကိုယ်စားလှယ် အဖြစ်တင်စား နှိုင်းဆိုပြခြင်း ဖြစ်သဖြင့် အနိုင်းခံ "ပိုးမျိုး"ကိုသာအဓိပ္ပါယ် ကောက် ယူရသောသဒိသူပစာဖြစ်သည် ဟု ဆိုခြင်းဖြစ်ပါသည်။

သို့ဖြစ်၍ "မည်မျှလူမျိုးနေသနည်း"ဟူသော စကား၏ အဓိပ္ပါယ်မှာ "မည်မျှသောပိုးမျိုးတို့နေသနည်း"ဟု ဆိုလိုကြောင်း မှာထင်ရှားပါသည်။

အဋ္ဌကထာတို့တွင်လည်း ရူပက္ခန္ဓာမြို့ကြီး၌ အမျိုး၏ အစွမ်းဖြင့် ပိုးမျိုး(၈၀)တို့ နေထိုင်ကြောင်းကို အောက်ပါအတိုင်း ဖော်ပြထားကြပါသည်။

"ကုလဝသေန စေတ္ထ အသီတိ ကိမိကုလာနိ ဝသန္တိ၊ တဒေဝ တေသံ သူတိဃရမ္ပိ ဝစ္စကုဋိပိ ဂိလာနသာလာပိ သုသာနမ္ပိ၊ န တေ အညတ္ထ ဂန္တွာ ဂဗ္ဘဝုဋ္ဌာနာဒီနိ ကရောန္တိ။"[၁] -

၁။ဘိ၊ဋ္ဌ၊၂၃၁။ ပဋ္ဌာ၊ဋ္ဌ၊၂၃၅။ ဝိသုဒ္ဓိ၊ပ၊၂၂၈။ မဟာနိ၊ဋ္ဌ၊ ၈၀။ သံ၊ဋ္ဌ၊ ၂၂၉၄။

ဟူ၍ဖြစ်ပါသည်။

အဓိပ္ပါယ်မှာ- "၃၂-ကောဋ္ဌာသတည်းဟူသော ရူပက္ခန္ဓာ မြို့ကြီး၌ အမျိုး၏အစွမ်းအားဖြင့် (၈၀)ကုန်သော ပိုးမျိုးတို့နေကုန်၏။ ယင်းမြို့သည်သာ (၈၀)သော ပိုးမျိုးတို့၏ သားဖွားရာအိမ်လည်းဖြစ်၏။ ကျင်ကြီးစွန့်ရာအိမ်လည်းဖြစ်၏။ သူနာဇရပ် (ဝါ) ဆေးရုံလည်းဖြစ်၏။ မြုပ်နှံရာသင်္ချိုင်းလည်းဖြစ်၏။ ထိုပိုးမျိုးတို့သည် အခြားအရပ်သို့သွား၍ သားဖွားခြင်းစသည်တို့ကို မပြုကုန်" ဟုဆိုလိုပါသည်။

ဤအကြောင်းအရာများအရ ပုစ္ဆကဆရာသည် (၃၂)ပါးသော ရူပက္ခန္ဓာမြို့ကြီးတွင် အမျိုး၏အစွမ်းဖြင့် နေသောပိုးမျိုး၌ လူမျိုးကို သဒိသူပစာအားဖြင့် တင်စား၍ "မည်မျှလူမျိုးနေသနည်း" ဟု ဉာဏ်စမ်းပုစ္ဆာပြုလုပ်ထားသည်ကို တွေ့ရပါသည်။

**ဤကျမ်းအဖြေ**

ထို့ကြောင့်"(၃၂)ပါးသော ကောဋ္ဌာသတို့ဖြင့်တည်ဆောက်ထားသော ရူပက္ခန္ဓာမြို့ကြီး၌ အမျိုး၏အစွမ်းဖြင့် (၈၀)သော ပိုးမျိုးတို့နေကုန်၏"ဟူ၍ ဖြေဆိုမှ အမေးနှင့်အဖြေကိုက်ညီပြီး၊ ပုစ္ဆကအာဘော်ကျမည် ဖြစ်ပေမည်။

**ပိုးမျိုးသရုပ်**

ဤသို့အဋ္ဌကထာတို့၌ "အသီတိ ကိမိကုလာနိ ဝသန္တိ"- ဟူ၍ လူတို့၏ကိုယ်၌ပိုးမျိုး (၈၀)ရှိကြောင်းကိုဆို၏။ သို့သော် ပိုးမျိုး (၈၀)သရုပ်အသေးစိတ်ကို ဖော်ပြထားခြင်းမရှိသော်လည်း ဤအကြောင်းအရာသည် သုတဆိုင်ရာအကြောင်းအရာဖြစ်၍ စာရှုသူ

များသုတပွားစေရန် အခြားကျမ်းများ၌ရှိလျှင် ဖော်ပြသင့်၏။ သို့ဖြစ်၍ ထိုထိုကျမ်းဂန်တို့မှ ထုတ်နှုတ်ပြီး ပိုးမျိုး(၈၀)သရုပ်အကျယ်ကို အသေးစိတ်ဖော်ပြပါမည်။

**ကာယာနုပဿနာကျမ်းလာ ပိုးမျိုး (၈၂)ပါး**

ပိုးမျိုး(၈၀)ဟုဆိုသော်လည်း ယောအတွင်းဝန်၏ ကာယာနုပဿနာကျမ်း၌ ပိုးမျိုး(၈၂)ပါး၊ စွယ်စုံကျော်ထင်ဝိသောဓနီ၌ ပိုးမျိုး(၈၃)ပါးရှိကြောင်း ဖော်ပြထားသည်ကို တွေ့ရပါသည်။ ထိုတွင် ကာယာနုပဿနာကျမ်းလာ ပိုးမျိုး(၈၂)ပါးကို ရှေးဦးစွာ ဖော်ပြရလျှင်-

| | |
|---|---|
| (၁) ဆံပင်ရင်း၌ဖြစ်သော | ၁။ ဇခါမည်သောပိုး၊ |
| | ၂။ ဇိလဝါမည်သောပိုး၊ |
| (၂) သွားရင်း၌ဖြစ်သော | ၃။ တုန္နာမည်သောပိုး၊ |
| | ၄။ မဟာတုန္နာမည်သောပိုး၊ |
| (၃) ဦးခေါင်း၌ဖြစ်သော | ၅။ ကာလမည်သောပိုး၊ |
| | ၆။ ကာလရာသိမည်သောပိုး၊ |
| (၄) ရင်၌ဖြစ်သော | ၇။ နိန္နပိုး၊ |
| | ၈။ ပရိမိဇ္ဈာပိုး၊ |
| | ၉။ အဇ္ဈာရာမာဒါနကာပိုး၊ |
| | ၁၀။ မဟာဇနပိုး၊ |
| (၅) ကျောက်ကုန်းကိုမှီ၍ဖြစ်သော | ၁၁။ လောမမုခါပိုး |
| | ၁၂။ မဟာလောမမုခါပိုး |
| | ၁၃။ အလောမမုခါပိုး |
| | ၁၄။ မဟာအလောမမုခါပိုး၊ |

| | |
|---|---|
| (၆) နားရင်း၌နားရိုးကိုမှီ၍ ဖြစ်သော | ၁၅။ ဝေရမ္ဘာပိုး၊ |
| | ၁၆။ မဟာဝေရမ္ဘာပိုး၊ |
| (၇) အညို့ကိုမှီ၍ဖြစ်သော | ၁၇။ ဘာဝတ္တာပိုး၊ |
| | ၁၈။ ဝဒါပိုး၊ |
| | ၁၉။ ဝသဒါပိုး၊ |
| (၈) မျက်စိ၊ နား၊ နှာခေါင်း၊ လျှာ၊ ဟူသောနုသောအသား အရိုးအရေတို့ကိုမှီ၍ဖြစ်သော | ၂၀။ စုရဟန္တာပိုး၊ |
| | ၂၁။ မဟာစုရဟန္တာပိုး၊ |
| | ၂၂။ စုဏ္ဏာပိုး၊ |
| | ၂၃။ မဟာစုဏ္ဏာပိုး၊ |
| (၉) အမွေးကွင်း၊ ခြေသည်း၊ လက်သည်း၊ အရေထူ၊ အရေ ပါး၊ အသား၊ အရိုး၊ ခြင်းဆီ တို့ကိုမှီ၍ဖြစ်သော | ၂၄။ ဥမတ္တာပိုင်း၊ |
| | ၂၅။ အန္တောမတ္တာပိုး၊ |
| | ၂၆။ ဥဇုကာပိုး၊ |
| | ၂၇။ မဟာဥဇုကာပိုး၊ |
| | ၂၈။ အစလာပိုး၊ |
| | ၂၉။ မဟာအစလာပိုး၊ |
| (၁၀)ဟဒယဝတ္ထုကိုမှီ၍ဖြစ်သော | ၃၀။ ရန္တာပိုး၊ |
| | ၃၁။ မဟာရန္တာပိုး၊ |
| | ၃၂။ ဟိရောပိုး၊ |
| | ၃၃။ မဟာဟိရောပိုး၊ |
| (၁၁)အသည်းကိုမှီ၍ဖြစ်သော | ၃၄။ ဝလာပိုး၊ |
| | ၃၅။ မဟာဝလာပိုး၊ |
| | ၃၆။ နန္ဒပိုး၊ |
| | ၃၇။ သိဝလာပိုး၊ |

| | |
|---|---|
| (၁၂) အဖျဉ်းကိုမှီ၍ဖြစ်သော | ၃၈။ အတ္ထိဝတ္တာပိုး၊ |
| | ၃၉။ မဟာအတ္ထိဝတ္တာပိုး၊ |
| | ၄၀။ မဟာသတ္တာပိုး၊ |
| | ၄၁။ မဥ္စိကာပိုး၊ |
| | ၄၂။ မဥ္စိသိနာပိုး၊ |
| (၁၃) အဆုတ်ကိုမှီ၍ဖြစ်သော | ၄၃။ သေတာပိုး၊ |
| | ၄၄။ မဟာသေတာပိုး၊ |
| | ၄၅။ ကောသိရာပိုး၊ |
| | ၄၆။ လောဟိတာပိုး၊ |
| (၁၄) အူသိမ်အူမကိုမှီ၍ဖြစ်သော | ၄၇။ စုရန္တာပိုး၊ |
| | ၄၈။ မဟာစုရန္တာပိုး၊ |
| | ၄၉။ သိပ္ပါပိုး၊ |
| | ၅၀။ မဟာသိပ္ပါပိုး၊ |
| | ၅၁။ ရန္တာပိုး၊ |
| | ၅၂။ မဟာရန္တာပိုး၊ |
| (၁၅) အစာသစ်တည်ရာအူမကို မှီ၍ဖြစ်သော | ၅၃။ တက္ကောဋကာပိုး၊ |
| | ၅၄။ ဂဏ္ဍုပ္ပါဒကာပိုး၊ |
| | ၅၅။ ကာလဟိရကာပိုး၊ |
| | ၅၆။ သူစိမုခပိုး၊ |
| | ၅၇။ ပဋတန္တသုတ္တကာပိုး၊ |
| | ၅၈။ ဥစ္စဝါပိုး၊ |
| | ၅၉။ မဟာဥစ္စဝါပိုး၊ |
| | ၆၀။ နစ္စဝါပိုး၊ |

၆၁။ မဟာနစ္စဝါပိုး၊
၆၂။ သစ္စဝါပိုး၊
၆၃။ မဟာသစ္စဝါပိုး၊
၆၄။ ခဏ္ဍာပိုး၊
၆၅။ မဟာခဏ္ဍာပိုး၊
၆၆။ မလာပိုး၊
၆၇။ စန္ဒပိုး၊
၆၈။ နာရိမလာပိုး၊
၆၉။ ကုဋ္ဌမေဃာပိုး၊
၇၀။ ဝဋ္ဋဝါပိုး၊
၇၁။ သဏ္ဍာပိုး၊
၇၂။ သောဝိလာပိုး၊
၇၃။ ဝိဇုလပုတ္တာပိုး၊
၇၄။ ကြုနာပိုး၊
၇၅။ ဥပေက္ခာပိုး၊
၇၆။ သေတာပိုး၊
၇၇။ ပိတကာပိုး၊
၇၈။ နီလကာပိုး၊[၁]

၁။ ဤ(၇၈)နံပါတ်နီလကာပိုး အထိအစာသစ်တည်ရာ အူမကိုမှီ၍ ဖြစ်သော ပိုးမျိုး(၂၆)ပါးနှင့် ယခင်အူသိမ်အူမကိုမှီ၍ဖြစ်သော ခြောက်ပါးသော ပိုးမျိုးတို့ကို ပေါင်းသည်ရှိသော် (၃၂)ပါးဖြစ်၏။ ဤ(၃၂)ပါးသော ပိုးမျိုးတို့ကို ရည်ရွယ်၍ "ဒွတ္တိံသကုလပ္ပဘေဒါကိမိယော"ဟူ၍ (ဝိသုဒ္ဓိ-၁၊၂၅၀) ကာယဂတာသတိ၌ မိန့်ဆိုထားကြောင်း ကာယာနုပဿနာကျမ်း၊ စာနှာ-၂၁၁-၌ ဖော်ပြထားပါသည်။

(၁၆) သည်းခြေ၊ သလိပ်အစ ရှိသောနောက်ဆုံးဝဂ်နှစ်ခု တို့၌ဖြစ်သော
၇၉။ ဟောလာပိုး၊
၈၀။ မဟာဟောလာပိုး၊
၈၁။ ဝဋ္ဋာပိုး၊
၈၂။ မဟာဝဋ္ဋာပိုး၊

-ဟူ၍ ပိုးမျိုး(၈၂)ပါးရှိကြောင်း ဖော်ပြထားပါသည်။

ထိုပိုးမျိုး(၈၂)ပါးတွင် (၁)မှ(၂၉)တိုင်အောင်သော ပိုးမျိုးတို့သည် တစပဉ္စကနှင့် ဝက္ကပဉ္စကနှစ်ခုတို့၌ ဖြစ်ကုန်၏။ (၃၀)မှ (၄၆)တိုင်အောင်သောပိုးမျိုး (၁၇)မျိုးတို့သည် ပပ္ဖာသပဉ္စကာ၌ ဖြစ်ကုန်၏။ (၄၇) မှ (၇၈) တိုင်အောင်သော ပိုးမျိုး(၃၂)မျိုးတို့ သည် ကရီသ စတုက္က၌ဖြစ်ကုန်၏။ (၇၉) မှ (၈၂) တိုင်အောင် သောပိုးမျိုး (၄)ခု တို့သည် ပိတ္တံ့,သေမှံ စသော ဒွေဝဂ္ဂတို့၌ ဖြစ် ကုန်၏။ ထိုထိုအရပ်၌ဖြစ်သော ပိုးတို့သည် ထိုထိုမှီရာ ကောဋ္ဌာသ တို့ကို စားကုန်၏။ အိုခြင်း၊ သေခြင်း တို့ကိုလည်း ပြုကုန်၏။

ဤဆိုပြီးသော -

(၁) တစပဉ္စကနှင့်ဝက္ကပဉ္စက၌ (၂၉)ပါး၊
(၂) တပ္ဖာသပဉ္စက၌ (၁၇)ပါး၊
(၃) ကရီသစတုက္က၌ (၃၂)ပါး၊
(၄) နောက်ဆုံးဒွေဝဂ္ဂ၌ (၄)ပါး၊

၎င်းတို့ကို ပေါင်းသော် (၈၂)ပါးဖြစ်ကုန်၏။ (၈၀)မှ ပိုလွန်သော (၂)ပါး သောပိုးမျိုးတို့ကို (ဂဏနူပဂ)ရေထွက်လောက်သည်ကို မပြုမူ၍၊ အသီတိကုလာနိ-ပိုးမျိုး (၈၀)ဟု အဋ္ဌကထာဆရာတို့ဆိုတော်မူ ကြောင်း ဖော်ပြထားပါသည်။[၁]

---

၁။ ယောအတွင်းဝန် ကာယနုပဿနာကျမ်း၊ စာ-နှာ ၂၀၉မှ၂၁၂ထိ။

## ပိုးမျိုး(၈၃)ပါး

### စွယ်စုံကျော်ထင်ဝိသောဓနီကျမ်းလာပိုးမျိုး ၈၃–ပါး

စွယ်စုံကျော်ထင်ဝိသောဓနီ၌ပိုးမျိုး (၈၃)ပါးရှိကြောင်း ဖော်ပြထားသည်မှာ -

| | |
|---|---|
| (၁) ဆံပင်ရင်း၌နေသော | ၁။ စလမည်သောပိုး၊ |
| | ၂။ ပိလဝမည်သောပိုး၊ |
| (၂) ဦးနှောက်အတွင်း၌ နေသော | ၃။ ဥမတ္တမည်သောပိုး၊ |
| | ၄။ အန္တောဥမတ္တမည်သောပိုး၊ |
| (၃) မျက်စိ၊နား၊နှာခေါင်း ၌နေသော | ၅။ နှာရုမုက္ခမည်သောပိုး၊ |
| | ၆။ စန္တမုက္ခမည်သောပိုး၊ |
| | ၇။ သမန္တမည်သောပိုး၊ |
| (၄) လျှာရင်း၌နေသော | ၈။ စာရန္တမည်သောပိုး၊ |
| | ၉။ စာလုကမည်သောပိုး၊ |
| | ၁၀။ ပနကမည်သောပိုး၊ |
| (၅) သွားရင်းအာစောက်၌ နေသော | ၁၁။ ကာမုက္ခမည်သောပိုး၊ |
| | ၁၂။ အပ္ပတိဿမည်သောပိုး၊ |
| | ၁၃။ အပ္ပလမည်သောပိုး၊ |
| (၆) သွေး၊ အရေး၊ ခြေသည်း လက်သည်း၊ အရင်း၌နေ သော | ၁၄။ လေဟမည်သောပိုး၊ |
| | ၁၅။ ဆပ္ပမည်သောပိုး၊ |
| | ၁၆။ ဥပစနမည်သောပိုး၊ |
| (၇) အသား၊ အကြော အတွင်း၌နေသော | ၁၇။ လုနမည်သောပိုး၊ |
| | ၁၈။ စလမည်သောပိုး၊ |
| | ၁၉။ စတ္တမည်သောပိုး၊ |

| | |
|---|---|
| | ၂၀။ လောဟိတမည်သောပိုး၊ |
| (၈) ရေမျိုလည်ချောင်း၌ | ၂၁။ ဝေရမ္ဘမည်သောပိုး၊ |
| နေသောပိုး | ၂၂။ မဟာဝေရမ္ဘမည်သောပိုး၊ |
| (၉) ရိုးတွင်းခြင်ဆီ၌နေသော | ၂၃။ ယာဝမည်သောပိုး၊ |
| | ၂၄။ သတမည်သောပိုး၊ |
| (၁၀)အညှိအတွင်း၌နေသော | ၂၅။ ဂါတမည်သောပိုး၊ |
| | ၂၆။ ဝတ္တာမည်သောပိုး၊ |
| (၁၁) နှလုံးသားအတွင်း၌ | ၂၇။ ဒန္တမည်သောပိုး၊ |
| နေသော | ၂၈။ မဟာဒန္တမည်သောပိုး၊ |
| | ၂၉။ ရောဟိတမည်သောပိုး၊ |
| | ၃၀။ မဟာရောဟိတမည်သောပိုး၊ |
| (၁၂) အသည်းအတွင်း၌ | ၃၁။ ဝရုဏမည်သောပိုး၊ |
| နေသော | ၃၂။ တဏှာမည်သောပိုး၊ |
| | ၃၃။ သီဝလမည်သောပိုး၊ |
| | ၃၄။ မဟာသီဝလမည်သောပိုး၊ |
| (၁၃) အမေ့အဖျင်း၌ | ၃၅။ အင်္ဂဝိဒ္ဓမည်သောပိုး၊ |
| နေသော | ၃၆။ အင္ဂဒင္ဂဗဒ္ဓိမည်သောပိုး၊ |
| | ၃၇။ ဒင်္ဂဝိဒ္ဓမည်သောပိုး၊ |
| | ၃၈။ အင်္ဂသံဃာတမည်သောပိုး၊ |
| | ၃၉။ မုဋ္ဌမည်သောပိုး၊ |
| | ၄၀။ မုဋ္ဌသိရမည်သောပိုး၊ |
| (၁၄) အဆုတ်အတွင်း၌ | ၄၁။ သေတမည်သောပိုး၊ |
| နေသော | ၄၂။ လောဟိတမည်သောပိုး၊ |

၄၃။ ကာလမည်သောပိုး၊
၄၄။ ကာလသိရမည်သောပိုး၊
၄၅။ စုကမည်သောပိုး၊
၄၆။ မဟာစုကမည်သောပိုး၊

(၁၅) အူမ၊ အူသိမ်အတွင်း၌ နေသော
၄၇။ စုန္ဒမည်သောပိုး၊
၄၈။ စုရန္တမည်သောပိုး၊
၄၉။ မဟာစုန္ဒမည်သောပိုး၊
၅၀။ သိမ္ဗမည်သောပိုး၊
၅၁။ မဟာသိမ္ဗမည်သောပိုး၊
၅၂။ အန္တဂတမည်သောပိုး၊

(၁၆)အစာသစ်အစာဟောင်း ၌နေသော
၅၃။ ဥစုဝမည်သောပိုး၊
၅၄။ ဩစဝမည်သောပိုး၊
၅၅။ သီစဒေဝမည်သောပိုး၊
၅၆။ သီစဒမည်သောပိုး၊

(၁၇)သည်းခြေ၊သလိပ်၊ပြည်၊ သွေး၊ ချွေး၊ အဆီခဲ၊ မျက်ရည်တို့၌နေသော
၅၇။ နီလမည်သောပိုး၊
၅၈။ ဥမတ္တဝကမည်သောပိုး၊
၅၉။ ဒါနကမည်သောပိုး၊
၆၀။ ဘမုခမည်သောပိုး၊
၆၁။ ဝဟနမည်သောပိုး၊
၆၂။ ဟေတ္တမည်သောပိုး၊
၆၃။ ဟနာဝမည်သောပိုး၊
၆၄။ ပဥ္စမမည်သောပိုး၊
၆၅။ မုက္ခမည်သောပိုး၊

| | |
|---|---|
| | ၆၆။ ဝိဝါလမည်သောပိုး၊ |
| (၁၈) ဆီကြည်အတွင်း၌ | ၆၇။ အဘိမုက္ခမည်သောပိုး၊ |
| နေသော | ၆၈။ ဝါလေမုက္ခတမည်သောပိုး၊ |
| (၁၉) ရှေ့ကိုယ်၌နေသော | ၆၉။ ကိဋ္ဌမည်သောပိုး၊ |
| | ၇၀။ ကုရုမမည်သောပိုး၊ |
| | ၇၁။ ကရဏီယမည်သောပိုး၊ |
| | ၇၂။ တဏ္ဍုမည်သောပိုး၊ |
| | ၇၃။ ဗာနကမည်သောပိုး၊ |
| (၂၀) နောက်ကိုယ်၌နေသော | ၇၄။ လောဟမုက္ခမည်သောပိုး၊ |
| | ၇၅။ မဟာလောဟမုက္ခမည်သောပိုး၊ |
| | ၇၆။ အလောဘမုက္ခမည်သောပိုး၊ |
| | ၇၇။ မဟာအလောဘမုက္ခပိုး၊ |
| | ၇၈။ တဏ္ဍုမုက္ခမည်သောပိုး၊ |
| (၂၁) အောက်ကိုယ်၌နေသော | ၇၉။ စုဏ္ဏမည်သောပိုး၊ |
| | ၈၀။ စုဏ္ဏသီဝရမည်သောပိုး၊ |
| | ၈၁။ မေစဏ္ဏမည်သောပိုး၊ |
| | ၈၂။ ဇုဏ္ဏသိတမည်သောပိုး၊ |
| | ၈၃။ ဗုခုစလမည်သောပိုး၊ |

-ဟူ၍ ပိုးမိုး(၈၃)မျိုးဖြစ်ပါသည်။

ပိုးမျိုး(၈၃)မျိုးရှိလျက် ပိုးမျိုး(၈၀)ဟု အဋ္ဌကထာတို့၌ ဆိုရခြင်းမှာ ဦးနသင်္ချာနည်းဖြစ်ပါသည်။ ကျမ်းဂန်တို့၌ သုံးစွဲရိုးဖြစ်သောသင်္ချာတို့သည် (၁) သင်္ချေယျထက် သင်္ချာကကြီးသော

အဓိကသင်္ချာနည်း။ (၂) သင်္ချေယျအောက် သင်္ချာကယုတ်လျော့သောဦနသင်္ချာနည်း ဟူ၍နည်းနှစ်ပါးရှိ၏။ ထိုတွင် ဇာတ်တော်ပေါင်း (၅၄၇) ဇာတ်သာရှိလျက် (၅၅၀)ဟုခေါ်ဝေါ်ခြင်းသည် သင်္ချေယျထက် သင်္ချာကကြီးသော အဓိကသင်္ချာနည်းမည်၏။ ပိုးမျိုး(၈၃)မျိုးရှိလျက် "အသီတိကိမိကုလာနိ" ပိုးမျိုး(၈၀)ဟု ခေါ်ဝေါ်ခြင်းသည်၊ သင်္ချေယျအောက်သင်္ချာကယုတ်လျော့သောကြောင့် ဦနသင်္ချာနည်းမည်ပါသည်။ သို့ဖြစ်၍ အဋ္ဌကထာတို့၌ ပိုးမျိုး(၈၀) ဟု ဆိုခြင်းသည်အနည်းငယ် အောက်အယုတ်အလွန်သည် မရေတွက်လောက်၍ ဦနသင်္ချာနည်းအားဖြင့် ဆိုခြင်းဖြစ်ကြောင်း ဖော်ပြထားပါသည်။[၁]

**ပိုးမျိုး (၈၀)အဆိုကွဲရကြောင်း**

ဤဆိုပြီးသောအစဉ်ကို ကြည့်လျှင်ကာယာနုပဿနာကျမ်းနှင့် စွယ်စုံကျော်ထင်ဝိသောဓနီကျမ်းတို့တွင် ပိုးမျိုး(၈၀) သရုပ်ကိုအကျယ်ရေတွက်ဖော်ပြရာ၌ တစ်ကျမ်းနှင့်တစ်ကျမ်း အဆိုမညီဘဲ၊ ကွဲလွဲနေကြောင်း တွေ့ရပါသည်။ ဤသို့ကွဲလွဲရခြင်းမှာ-

(၁) ပိုးမျိုး (၈၀)အသေးစိတ်သရုပ်သည် ခိုင်မာသော ပါဠိတော်,အဋ္ဌကထာကျမ်းကြီးတို့၌ မပါရှိခြင်း။

(၂) ထိုသို့ မပါရှိ၍ ကျမ်းပြုပုဂ္ဂိုလ်တို့သည် ၎င်းပိုးမျိုး (၈၀)သရုပ်ကို ရေတွက်ဖော်ပြလိုသောအခါ၊ မိမိလက်လှမ်းမှီရာ ကျမ်းများအရသာ ဖော်ပြရခြင်း။

(၃) ယင်းကျမ်းတို့သည်လည်း ပါဠိတော်,အဋ္ဌကထာများ

---

၁။ ဘဒ္ဒန္တသောဘနစွယ်စုံကျော်ထင်ဝိသောဓနီ၊ ၎င်း၊ စာနှာ- ၁၅၅မှ၁၅၈ထိ။

မဟုတ်၍ ခိုင်မာမှု မရှိဘဲအမျိုးမျိုး အဆိုကွဲလွဲနေကြခြင်း။

(၄) ကျမ်းပြုပုဂ္ဂိုလ်တို့ ကိုးကားသောကျမ်းဂန်ခြင်း တူညီမှုမရှိခြင်း။

-စသည်တို့ကြောင့် ဤသို့ကွဲလွဲနေရခြင်းဖြစ်ပါသည်။

**ပိုးမျိုး(၈၀)ဆိုသည်မှာ တရားရှုမှတ်နိုင်ရေးအတွက်သာ**

ဤနေရာ၌ ပိုးမျိုး(၈၀)သရုပ်နှင့်ပတ်သက်၍ အဆိုညီခြင်း၊ မညီခြင်းသည် အဓိကမဟုတ်၊ အဓိကမှာ- ရူပက္ခန္ဓာကို စက်ဆုပ်ဖွယ်ရာအဖြစ် တရားရှုမှတ်နိုင်ရေး၊တရားရရှိရေးသာဖြစ်၏။ ပိုးမျိုး(၈၀)ကို အပေါင်းသချာအနေဖြင့် ဖော်ပြရလျှင်ပင် ရူပက္ခန္ဓာကို စက်ဆုပ်ဖွယ်ရာအဖြစ် တရားရှုမှတ်နိုင်ရေးသည် ပြည့်စုံလုံလောက်နေပြီဖြစ်၍ ပါဠိတော်အဋ္ဌကထာတို့၌ ပိုးမျိုး(၈၀)သရုပ်ကို အသေးစိတ်မဖော်ပြခြင်းဖြစ်ပါသည်။

မှန်ပါသည် သံယုတ်ပါဠိတော် ဖေဏပိဏ္ဍူပမသုတ်နှင့် ၎င်းအဋ္ဌကထာတို့၌ "ချစ်သား ရဟန်းတို့၊ ဤဂင်္ဂါမြစ်အတွင်းဝယ် မျောလာသော ရေမြှုပ်စိုင်ကြီးကို ပကတိမျက်စိအမြင်ရှိသော ယောကျ်ားသည် အရပ်လေးမျက်နှာမှ စေ့စေ့စပ်စပ်ကြည့်ရှုသည်ရှိသော်ရေမြှုပ်စိုင်၌ အခိုင်အမာအနှစ်သာရ ရှာမရ အချည်းနှီးအသုံးမကျ သည်ကိုသာ တွေ့မြင်ရသကဲ့သို့ ထို့အတူ ယောဂါဝစရပုဂ္ဂိုလ်သည် ပစ္စုပ္ပန်၊ အတိတ်၊ အနာဂတ်စသည်ဖြင့်(၁၁)ပါးအပြားရှိသော ရူပက္ခန္ဓာကို ဝိပဿနာဉာဏ်မျက်စိဖြင့် စေ့စေ့ငုငုကြည့်ရှုသည်ရှိသော် ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ နိစ္စ၊ သုခ၊

အတ္တ အနုစ်သာရဟူ၍ ဘာမျှမရှိ။ သက်သက်ဆိတ်သုဉ်းသော မခိုင်မာသော သဘောကို သာလျှင် တွေ့မြင်ရပေမည်။[၁]

ရေမြှုပ်စိုင်ကို သပိတ်ခွက်ငယ်ပြုလုပ်ရန်အတွက် ကောက်ယူ၍မရနိုင်၊ ကောက်ယူသည်နှင့်တစ်ပြိုင်နက်တည်း ကွဲကြေပျက်စီးသွားသည်သာဖြစ်သကဲ့သို့ ဤအတူ ရူပက္ခန္ဓာကိုလည်းတင့်တယ်သည်၊ မြဲသည်၊ ခိုင်သည်၊ ငါ၊ ငါ့ဥစ္စာ ဖြစ်သည်ဟု မှတ်ယူ၍မရနိုင်ပါ။ မှတ်ယူလျှင် မှတ်ယူစဉ်ပင် ခိုင်မြဲမှုမရှိဘဲ မတင့်မတယ် ပျက်စီးကုန်ဆုံးနေသောကြောင့် စင်စစ် အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘသဘောသာဖြစ်ပါသည်။

ရေမြှုပ်စိုင်သည် အပေါက်ကြီးအပေါက်ငယ် ရှိ၏။ တစ်ပါးမကများစွာသော ရေမြွေ-အစရှိသော သတ္တဝါတို့၏အမြဲနေရာဖြစ်၏။ ထို့အတူ ရူပက္ခန္ဓာသည်လည်း အပေါက်ကြီးအပေါက်ငယ်ရှိ၏။ တစ်ပါးမကများစွာသော အဆက်အစပ်တို့ဖြင့် ဆက်စပ်နေ၏။ ယင်းရူပက္ခန္ဓာ၌ အမျိုး၏အစွမ်းအားဖြင့် ရှစ်ဆယ်သော ပိုးမျိုးတို့နေကုန်၏။ ၎င်းရူပက္ခန္ဓာသည် ပိုးမျိုး(၈၀)တို့၏ သားဖွားရာမီးနေအိမ်ဖြစ်၍မတင့်တယ်။ ကျင်ကြီးကျင်ငယ် စွန့်ရာသန့်စင်ခန်း(အိမ်သာ)ဖြစ်၍မတင့်တယ်။ ပိုးမျိုး(၈၀) သူနာတို့၏တည်းခိုရာဆေးရုံဖြစ်၍မတင့်တယ်။ ပိုးမျိုး(၈၀) သူသေကောင်တို့၏စွန့်ပစ်ရာ သင်္ချိုင်းဖြစ်၍မတင့်တယ်။

[ ပြင်ပသင်္ချိုင်းသည်စည်းကမ်းရှိ၏၊ ကုလားသင်္ချိုင်း ကုလားသာသွား၏၊ မြန်မာ,တရုတ်မသွား၊ တရုတ်သင်္ချိုင်း တရုတ် သာသွား၏၊

---

၁။ သံ၊ပါ-၂၊ ၁၁၄။

ကုလား,မြန်မာမသွား။ ၅၂ခန္ဓာကိုယ်သဏ္ဍာင်းသည် စည်းကမ်းမရှိ၊ ကြက်,ဝက်,အမဲ,ငါးစသောသတ္တဝါမျိုးစုံတို့၏မြုပ်နှံရာစည်းကမ်းမဲ့ သောသချိုင်းကြီးဖြစ်၍လွန်စွာကြောက်မက်ဖွယ်ရာ၊ မသတီစရာ၊ ရွံရှာဖွယ်ရာကောင်းလှ၏။]

ထိုပိုးတို့သည် ရူပက္ခန္ဓာကိုယ်မှအခြားအရပ်သို့ သွား၍ မီးဖွားခြင်း စသည်ကို မပြုကုန်။ ထိုကြောင့် ဤနည်းအားဖြင့် ရူပက္ခန္ဓာကိုရေမြုပ်စိုင်ကဲ့သို့ ပမာပြု၍စက်ဆုတ်ဖွယ်ရှုမြင်ရာ၏။[၁]

ထို့အတူ ဝေဒနာကို အနှစ်သာရမရှိသောရေဗေါင်းနှင့် တူပုံ၊ သညာကိုတံလျှပ်နှင့်တူပုံ၊ သင်္ခါရတို့ကို ငှက်ပျောတုံးနှင့်တူပုံ ဝိညာဏ်ကိုမျက်လှည့်ရုပ်နှင့်တူပုံတို့ကိုလည်း ရှုမြင်ရာ၏။

ချစ်သား ရဟန်းတို့ ဤကဲ့သို့ ရူပက္ခန္ဓာကိုရေမြုပ်ပမာ၊ ဝေဒနက္ခန္ဓာကိုရေပွက်ပမာ၊ သညာက္ခန္ဓာကို တံလျှပ်ပမာ၊ သင်္ခါရက္ခန္ဓာတို့ကို ငှက်ပျောတုံးပမာ၊ ဝိညာဏက္ခန္ဓာကို မျက်လှည့် ရုပ်ပမာထား၍ အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ အသုဘ သဘောအားဖြင့် အဖန်ဖန်ရှုမြင်လတ်သော် ယောဂါဝစရပုဂ္ဂိုလ်သည်အနှစ်မရှိသော ခန္ဓာငါးတို့၌အနှစ်ဟုရှုမြင်ခြင်းမရှိတော့ပါ၊ ရုပ်နာမ်တို့ အပေါ်၌ ငြီးငွေ့သောနိဗ္ဗိဒါဉာဏ်၊ တပ်ခြင်းကင်းသောဝိရာဂဉာဏ်၊ ကိလေသာ တို့မှလွတ်မြောက်သော မဂ်ဉာဏ်၊ ဖိုလ်ဉာဏ်၊ ပစ္စဝေက္ခဏာဉာဏ် တိုင်အောင် အဆင့်ဆင့်သောလောကုတ္တရာကျေးဇူး အရဟတ္တဖိုလ် တရားထူးကိုရပေလိမ့်မည်"-ဟူ၍ ဖော်ပြထားပါသည်။

ဤဖော်ပြချက်အရ ရူပက္ခန္ဓာကို စက်ဆုပ်ဖွယ်ရာအဖြစ်၊ တရားရှုမှတ်ပြီး တရားရနိုင်ရေးအတွက်သာ အဓိကထား၍ ပိုးမျိုး

---

၁။ ဘိ၊ ၄၊ ၂၊ ၃၀။ သံ၊၄-၂၂၉၄။

(၈၀)ကို အပေါင်းသင်္ချာအနေဖြင့် ဖော်ပြခြင်းဖြစ်သည်မှာ ထင်ရှားပေ၏။ ဤသို့အပေါင်းသင်္ချာကို ဖော်ပြခြင်းဖြင့်ပင် လိုအပ်သောအကျိုးများပြီးစီးနိုင်၍ ပိုးမျိုး(၈၀)၏ အသေးစိတ်သရုပ်ကိုပါဠိတော်အဋ္ဌကထာတို့၌ ဖော်ပြမထားဘဲ ပိုးမျိုး(၈၀)၏ အပေါင်းသင်္ချာကိုသာ ဖော်ပြထားခြင်းဖြစ်ပါသည်။

**နိဂုံး**

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် စွယ်စုံကျော်ထင်ကျမ်းလာ ကျီးသဲဆရာတော်၏ အဖြေနှင့် ဤကျမ်းအဖြေမတူကြောင်းတွေ့ရပေမည်။ ဤသို့မေးခွန်းတူလျက် အဖြေခြားနားရခြင်းမှာ "လူမျိုး"ဟူသောစကား၌ "မျိုး"ဟူသောစကား၏ အဓိပ္ပါယ်ကိုကောက်ယူပုံမတူသောကြောင့်ဖြစ်ပါသည်။ အဖြေဆရာတော်သည် "မျိုး"ဟူသောစကား၏ အဓိပ္ပါယ်ကို အယုတ်အလတ်အမြတ်ဟူသော "အမျိုးအစား"အဖြစ် ကောက်ယူပြီး အကုသိုလ်၊ ကုသိုလ်၊ ဝိပါက်၊ ကြိယာ ဟူသော သူယုတ်၊ သူကောင်း၊ သူမြတ်၊ သူလွန်တို့နေကြောင်းဖြေဆိုထားပါသည်။ အကုသိုလ်၊ ကုသိုလ်၊ ဝိပါက်၊ ကြိယာတို့ကို (အနှိုင်းဝတ္ထုဖြစ်သောလူမျိုး၏) အနှိုင်းခံဝတ္ထုအဖြစ်ဖော်ပြထားခြင်းပင်ဖြစ်ပါသည်။ အမှန်စင်စစ် ၎င်းအနက်ကိုမယူသင့်ပါ။ "အမျိုးတူသတ်မှတ်ထားသော အစု(ဝါ) ပိုးမျိုး(၈၀)ဟူသောအနက်ကိုသာ ကောက်ယူသင့်ပါသည်။ သို့မှသာ အနှိုင်းဝတ္ထုနှင့် အနှိုင်းခံဝတ္ထုတို့ ညီညွတ်မှုရှိပြီး သဘာဝကျပေမည်။ အနှိုင်းဝတ္ထုသည်အမျိုး၏ အစွမ်းအားဖြင့်ဖြစ်သော ရုပ်နာမ်နှစ်မျိုးရှိသည့်လူမျိုးဖြစ်၏။ ထို့အတူအနှိုင်းခံဝတ္ထုသည်လည်း အမျိုး၏ အစွမ်း

အားဖြင့်ဖြစ်သော ရုပ်နာမ်နှစ်မျိုးရှိသည့် ပိုးမျိုးဖြစ်၏။ သို့ဖြစ်၍ အနိုင်းနှင့်အနှိုင်းခံတို့ အံဝင်ဂွင်ကျ ညီညွတ်မှုရှိသည်ဟု ဆိုခြင်းဖြစ်ပါသည်။ ကျမ်းဂန်တို့၌ ပိုးမျိုးတို့နေကြောင်း အာဂမ ယုတ္တိလည်းရှိ၏။ ထို့ပြင် "မည်မျှလူမျိုးနေသနည်း"ဟူသော အမေးပုစ္ဆာအရ တစ်ပြိုက်နက်,တစ်ချိန်တည်းတွင် အတူတကွနေထိုင်သောအမျိုးအစား အရေအတွက်ကို ပုစ္ဆကသိလိုဟန်ရှိ၏။ ကျီးသဲဆရာတော်ဖြေဆိုသော အကုသိုလ်, ကုသိုလ်, ဝိပါက်, ကိရိယာစိတ်တို့နှင့် သမ္ပယုတ်ဖြစ်သောစေတသိက်များတစ်ချိန်တည်းတွင် အတူတကွဖြစ်နိုင်ကြသည် မဟုတ်၊ တစ်ခုချုပ်ပြီးမှ တစ်ခုဖြစ်လေ့ရှိ၏။ တစ်ပြိုင်နက်အတူနေခြင်းသဘောမဆောင်၊ သို့ဖြစ်၍ပုစ္ဆက၏အာဘော်ကိုထင်ဟပ်မိခြင်းမရှိဖြစ်ရသည်။ ထို့ကြောင့် "မည်မျှလူမျိုးနေသနည်း" ဟူသော ပုစ္ဆာ၏ အဖြေမှာ(၃၂)ကောဋ္ဌာသ ဖြစ်သော ခန္ဓာကိုယ်မြို့ကြီး၌ ပိုးမျိုး(၈၀) တည်းဟူသော လူမျိုးတို့နေလေ၏- ဟူသော အဖြေသည်သာ သဘာဝကျ၍ယုတ္တိရှိပြီး ပုစ္ဆကအာဘော်လည်း ကျမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသတည်း။



# အခန်း(၁၀)

## မိန်းမသေသည်၊ ဗြဟ္မာ့ပြည် ဖြစ်သည်ဘယ်ဘုံတို့မေနည်း။ (၇၇၅)

### မူရင်းအဖြေ

"မိန်းမသေသည်၊ ဗြဟ္မာ့ပြည်၊ ဖြစ်သည်ဘယ်ဘုံတို့ ပေနည်း"ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား- ဣတ္ထိယော- ပန အရိယာဝါ အနရိယာဝါ အဋ္ဌသမာပတ္တိလာဘိနီယောပိ ဗြဟ္မပါရိသဇ္ဇေသုယေဝ နိဗ္ဗတ္တန္တိ"- ဟူသော ဋီကာကျော်နှင့်အညီ မိန်းမတို့သည် အရိယာဖြစ်စေ၊ ပုထုဇဉ်ဖြစ်စေ သမာပတ် (၈)ပါး ကိုပင်ရသော်လည်း စုတေသောကာလ ဗြဟ္မပါရိသဇ္ဇာဘုံ၌သာ ဖြစ်လေကုန်သည်။ ဗြဟ္မပါရိသဇ္ဇာဘုံပျက်မှ အထက်သောဘုံတို့၌ ဖြစ်ကြကုန်သည်။ "နသက္ကတ္တံ နဗြဟ္မတ္တံ" အစရှိသည်တို့ဖြင့် မိန်းမ တို့သည် သိကြား၊ ဗြဟ္မာမဖြစ်ဟု ဘုရားဟောတော်မူသည် မဟုတ် လော-ဟု ဆိုငြားအံ့ ဟောတော်မူသည်ကား မှန်၏၊ မှန်သော်လည်း မိန်းမ၏အဖြစ်ဖြင့် မဖြစ်သည်ကိုသာ ရည်၍ဟောတော်မူသည်၊ သိကြားမင်း၊ ဗြဟ္မာမင်း၏ အဖြစ်ဖြင့်ကား ဖြစ်သင့်ပါ၏ဟူပေ။

ဤအရာ၌ ဗြဟ္မာတို့၏ ရုပ်နာမ်တည်ဟန် ကိုယ်သဏ္ဌာန် အခြင်းအရာကို သိသာအောင်ပြဆိုလိုက်ဦးအံ့- "ရူပလောကေ ပန

ယာန ဇိဝှါ ကာယ ဘာဝ ဒသကာနိစ အာဟာရဇကလာပါနိစ နလဘန္တိ"- ဟူသော ပါဠိဖြင့် ရူပါဝစရပြဟ္မာဘုံ၌ ပြဟ္မာတို့အား ယာနဒသက၊ ဇိဝှါဒသက၊ ကာယဒသက၊ ဣတ္ထိဘာဝဒသက၊ ပုမ္ဘာဝဒသကတို့ကိုလည်းကောင်း၊ အာဟာရဇကလာပ်တို့ကိုလည်း ကောင်း၊ မရအပ်ကုန်ဟူ၍ သင်္ဂြိုဟ်ကျမ်း၌ဆိုသည်။ ထိုရုပ်တို့ကို မရလျှင် ယာနပသာဒတည်းဟူသော ကာယဝတ္ထုကိုမှီသော ယာန ဝိညာဉ်၊ ကာယဝိညာဏ်တို့ကိုလည်း မရကုန်သည်သာတည်းဟု ပြတော်မူခြင်းငှါ" တံတံ ပသာဒ ရဟိတာနံ တံတံ ဒွါရိကဝီထိ စိတ္တာနံ နလဗ္ဘနတော၊ အသညသတ္တာနံ ပန သဗ္ဗတာပိ စိတ္တပဝတ္တိ နတ္ထေဝါတိ"ဟူ၍ ဆိုတော်မူသည်။ ယင်းသို့ ဝတ္ထုရုပ်ဝိညာဉ်တို့ သည် မရှိလေသော် ပြကတေ့သောကိုယ်၊ ပြကတေ့သောနှာခေါင်း ပြကတေ့သောလျှာတို့သည် မရှိကုန်သလော၊ အသွင်အပြင်တို့ သည် ယောကျ်ားသဏ္ဌာန်လော, မိန်းမသဏ္ဌာန်လော-ဟူငြားအံ့- တတ္ထ ပြဟ္မပါရိသဇ္ဇတော ပဋ္ဌာယ ဣမာနိ သောဠသရူပါဝစရာနိ နာမ၊ တေသု သဗ္ဗေ ပုရိသသဏ္ဌာန၊ ဣတ္ထိပုရိသဗျဉ္ဇန နိမိတ္တံပိ နတ္ထိ၊ စက္ခုသောတာနိ ပန အတ္ထိ၊ ရူပံ ပဿန္တိ၊ သဒ္ဒံ သုဏန္တိ၊ ယာနံ အတ္ထိ၊ ယာနပ္ပသာဒေါစ ယာနဝိညာဏဉ္စ နတ္ထိ၊ တသ္မာ ဂန္ဓံ နဇာနန္တိ၊ သမ္မာပရိဝတ္တ ဇိဝှါအတ္ထိ၊ တသ္မာ ဟသန္တိ၊ ဇိဝှါ ပသာဒေါစ ဇိဝှါဝိညာဏဉ္စ နတ္ထိ၊ တသ္မာ ကိဉ္စိရသံ နဇာနန္တိ၊ နခါဒန္တိ၊ နပိဝန္တိ၊ ဈာနပီတိယေဝ တေသံ အာဟာရော ဟောတိ၊ ကာယော အတ္ထိ၊ ကာယပသာဒေါစ ကာယဝိညာဏဉ္စ နတ္ထိ တသ္မာ တေကိဉ္စိ ဖဿံ နဇာနန္တိ၊ ဧဝံသန္တေပိ နိဝါသနပါရုပန သာဋကာနိ အတ္ထိ၊ ကာယ

ပသာဒေါစ ကာဝိညာဏဥ္စ နတ္ထိ တသ္မာ တေကိဉ္စိ ဖသံ နဇာနန္တိ၊ ဇဝံသန္တေပိ နိဝါသနပါရုပန သာဋကာနိ အတ္ထိ၊ ဗြဟ္မဝိမာန သယနာနိ အတ္ထိ၊ ကေသာ နခါ ဒန္တာ အတ္ထိ၊ သေသကောဋ္ဌာသာနိ ပန နတ္ထိ၊ ဒီပသိခါဝိယ သရီရံ ဟောတိ၊ မလမုတ္တမဂ္ဂါ နတ္ထိ၊ ဣတ္ထိယော နတ္ထိ၊ နစ္စဂီတာဒီနိ နတ္ထိ၊ ကေစိ အရိယ ဝိဟာရေန ကေစိ ဒိဗ္ဗဝိဟာရေန၊ ကေစိ ဗြဟ္မဝိဟာရေန ဝိဟာသီတိ။
- ဟူ၍ ဇိနလင်္ကာရဋီကာလာသည်။

အဓိပ္ပါယ်ကား။ ။ ဗြဟ္မာ့ဘုံနှစ်ဆယ်တို့တွင် ဗြဟ္မာ့ပါရိသဇ္ဇာမှစ၍ တစ်ဆယ့်ခြောက်ပါးသောဘုံတို့သည် ရူပါဝစရဘုံမည်ကုန်၏။ ထိုဘုံ၌ခပ်သိမ်းသော ဗြဟ္မာတို့သည် ယောက်ျား၏သဏ္ဌာန်သာဖြစ်ကုန်၏။ ယောက်ျားနိမိတ်၊ မိန်းမနိမိတ်ကားမရှိကုန်။ မျက်စိ,နားဘို့သည် လူတို့ကဲ့သို့ရှိကုန်၏။ အဆင်းကိုလည်းမြင်ကုန်၏။ အသံကိုလည်း ကြားကုန်၏။ နှာခေါင်းကားရှိ၏။ ဃာနပသာဒ, ဃာနဝိညာဉ်ကားမရှိ။

ထို့ကြောင့် အနံ့ကိုမသိကုန်၊ လျှပ်ရှားတတ်သောလျှာကားရှိ၏။ ဇိဝှါပသာဒ, ဇိဝှါဝိညာဉ်ကားမရှိ၊ ထို့ကြောင့် တစ်စုံတစ်ခုသောအရသာကို မသိကုန်၊ မစားမခဲကုန်၊ မသောက်ကုန်၊ ဈာန်၌နှစ်သက်သောပီတိသာလျှင် ဗြဟ္မာတို့၏ အာဟာရဖြစ်၏။ လုံးလုံးလျောင်းလျောင်းမြင်စကောင်းသော ကိုယ်သဏ္ဌာန်ကားရှိ၏။ ကာယပသာဒ,ကာယဝိညာဉ်ကားမရှိ၊ ထို့ကြောင့် တစ်စုံတစ်ခုသောအသိကိုမတွေ့ကုန်၊ ယင်းသို့မသိငြားသော်လည်း ဝတ်ရုံသောပုဆိုးတို့သည်ရှိကုန်၏။ ဗိမာန်အိပ်ရာနေရာတို့သည် ရှိကုန်၏။ ဆံ၊

ခြေသည်း၊ လက်သည်း၊ သွားတို့သည်လည်း ရှိကုန်၏။ ကြွင်းသော အစုတို့သည်မရှိကုန်၊ ဆီမီးလျှံကဲ့သို့သောကိုယ်သည်ရှိ၏။ ကျင်ကြီး ကျင်ငယ်သွားသော မဂ်တို့ကား မရှိကုန်၊ ပြဟ္မာမိန်းမလည်းမရှိ၊ ကခြင်း,သီခြင်းစသည်လည်းမရှိ၊ အချို့သောပြဟ္မာတို့သည် အရိယ ဝိဟာရဖြင့်နေကုန်၏။ အချို့သောပြဟ္မာတို့သည် ဒိဗ္ဗဝိဟာရဖြင့် နေကုန်၏။ အချို့သောပြဟ္မာတို့သည် ပြဟ္မဝိဟာရဖြင့် နေကုန်၏ -ဟူလိုသည်။

အသညသတ်ပုဂ္ဂိုလ်တို့အား စက္ခု,သောတ,ဃာန,ဇိဝှါ ကာယ,ဝတ္ထု,ဘာဝဒသက၊ အာဟာရဇကလာပ်၊ အလုံးစုံသော စိတ္တဇကလာပ်တို့ကို မရအပ်၊ ထိုအသညတ်ပုဂ္ဂိုလ်တို့အား တရား ခုနစ်ပါးသောရုပ်အစုတို့ဖြင့်သာ ဗိမာန်နေရာ၌ဖြစ်၏။ လူ့ပြည်၌ ကမ္မဋ္ဌာန်းစီးဖြန်းစဉ် ထိုင်လျက်စုတေသောသူသည် ထိုင်သော ဣရိယာပုထ်ဖြင့်၊ လျောင်းလျက်စုတေသောသူသည် လျောင်းသော ဣရိယာ ပုထ်ဖြင့်သာဖြစ်၏။ ပုံသဏ္ဌာန်ကား ထုလုပ်ထားသော အရုပ်ကဲ့သို့ မိမိ ဖြစ်သောဣရိယာပုထ်ဖြင့်သာလျှင် ကမ္ဘာငါးရာ ပတ်လုံးတည်လေ၏-ဟူ၍ သမ္မောဟဝိနောဒနီ၌လာသည်။

ထိုရူပပြဟ္မာတို့အား မှီခိုရာဖြစ်သောဗိမာန်၊ ဉယျာဉ်၊ ပဒေသာပင်တို့သည်လည်းကောင်း၊ ကိုယ်တွင်ဆင်အပ်သော ဘယက်တန်းဆာတို့သည်လည်းကောင်း ရှိကုန်၏။ ထိုအဆောက် အဦးတို့၌တပ်မက်သော ဆန္ဒရာဂလည်းဖြစ်သေး၏။ ထို့ကြောင့် အဋ္ဌသာလိနီ အဋ္ဌကထာနိက္ခေပကဏ္ဍအဖွင့်၌ "ယေပန ပြဟ္မ ဝိမာနကပ္ပရုက္ခ အာဘရဏေသု ဆန္ဒရာဂေါ ဥပ္ပဇ္ဇတိ"ဟူ၍ ဆိုတော်မူသည်။

ဤပြဟ္မာ့ပြည်၌ တာဝတိံသာနတ်ပြည်ကဲ့သို့ အများပြဟ္မာတို့၏ စည်းဝေးရာဖြစ်သော သုဓမ္မာနတ်သဘင်သည်လည်းရှိ၏။ ထိုသဘင်အများပင် စည်းဝေးကြ၏။ နတ်ပြည်,ပြဟ္မာ့ပြည်ဟူသမျှ၌ သုဓမ္မာသဘင်မရှိသော ပြည်မည်သည်မရှိဟူ၍ မူလပဏ္ဏာသအဋ္ဌကထာ မာရတဇ္ဇနီယသုတ် အဖွင့်တွင်ဆိုသည်။

**ပြဿနာဖြစ်ရသည့်အချက်**

အထက်ပါအဖြေကား စွယ်စုံကျော်ထင်ကျမ်းလာမူရင်း အဖြေဖြစ်ပါသည်။ ၎င်းအဖြေ၌ပြဿနာဖြစ်ရသည့်အချက်မှာ- "ပြဟ္မပါရိသဇ္ဇေသုယေဝ" ဟူသော ဋီကာကျော်ပါဌ်ကို ပြဟ္မပါရိသဇ္ဇာဘုံဟောသဒ္ဒါဟု ယူဆထားခြင်း၊ ပြဟ္မာပါရိသဇ္ဇေသုအရပါဝင်နိုင်သောပြဟ္မာများကို ရှင်းပြမထားခြင်း၊ "ပြဟ္မပါရိသဇ္ဇာဘုံပျက်မှအထက်သောဘုံတို့၌ ဖြစ်ကြကုန်သည်"ဟူ၍ ပြဟ္မပါရိသဇ္ဇာဘုံကို အောက်ဘုံအဖြစ်ဆိုထားခြင်း ဤအချက်များကြောင့် ပြဟ္မပါရိသဇ္ဇေသုအရ ပဌမစျာန် (၃)ဘုံတွင် အစဆုံးဘုံဖြစ်သည့် ပြဟ္မပါရိသဇ္ဇာဘုံကိုသာ ဆိုရာရောက်နေ၏။ ဤစာကိုကြည့်ရှုမိသူများလည်း ယင်းပြဟ္မပါရိသဇ္ဇာဘုံ၌သာ မိန်းမများဖြစ်နိုင်သည်။ ကျန်ဘုံများ၌မဖြစ်နိုင်-ဟု မှတ်ထင်နေတတ်၏။ ဤသို့မရှင်းမလင်းဖြစ်နေရသော အချက်သည်ပင် ပြဿနာဖြစ်ရသောအချက်ဖြစ်၏။

**ပြဿနာရှင်းလင်းချက်**

**ပြဟ္မပါရိသဇ္ဇာနှင့်ပြဟ္မပုရောဟိတတို့သည်ရှပဘုံတိုင်း၌ရှိနိုင်ပုံ**

အမှန်စင်စစ် "ပြဟ္မပါရိသဇ္ဇေသု" သဒ္ဒါကား ပြဟ္မပါရိသဇ္ဇာဘုံဟောသဒ္ဒါမဟုတ်။ ပုလ္လိင်ဖြစ်၍ ပြဟ္မပါရိသဇ္ဇာ ပြဟ္မာ

ဟောသဒ္ဒါဖြစ်သည်။ ဘုံဟောသဒ္ဒါဆိုလျှင် "ဗြဟ္မပါရိ သဇ္ဇာသု"ဟု ဣတ္ထိလိင်ဖြင့်ရှိရပေမည်။[၁]

ထိုသို့ဘုံဟောသဒ္ဒါမဟုတ်ဘဲ ဗြဟ္မာဟောသဒ္ဒါဖြစ်နေခြင်းကြောင့် "ဗြဟ္မပါရိသဇ္ဇေသု"အရ ထိုထိုဘုံတို့တွင် ဗြဟ္မပါရိသဇ္ဇာဗြဟ္မာမျိုး၌ အကျုံးဝင်နိုင်သော ဗြဟ္မပါရိသဇ္ဇာဗြဟ္မာမျိုးနှင့် ဗြဟ္မပုရောဟိတဗြဟ္မာမျိုး အားလုံးတို့ကိုယူရမည်ဟု အမိပ္ပါယ်ရပါသည်။ ယင်းဗြဟ္မပါရိသဇ္ဇာနှင့် ဗြဟ္မပုရောဟိတဗြဟ္မာတို့သည် ပဌမစျာန်(၃)ဘုံတွင်သာ ရှိသည်မဟုတ်ပါ ဒုတိယစျာန်ဘုံစသော အထက်အထက်သုဒ္ဓါဝါသတိုင်အောင်သော ဘုံများ၌လည်း ရှိကြသည်ချည်းဖြစ်ပါသည်။[၂]

ရှိကြောင်းကိုထင်ရှားအောင်ပြဆိုရလျှင် ဗြဟ္မာ့ဘုံ(၂၀)တွင် ရူပ(၁၆)ဘုံနှင့် အရူပ(၄)ဘုံရှိ၏။ ထိုတွင် ရူပ (၁၆)ဘုံဟူသည်။

၁။ ဗြဟ္မပါရိသဇ္ဇာ၊ ဗြဟ္မပုရောဟိတာ၊ မဟာဗြဟ္မာဟူ၍ ပဌမစျာန်(၃)ဘုံ။

---

၁။ စွယ်စုံကျော်ထင်ဝိသောဓနီ၊- ၁၆၆။

၂။ အချို့ဆရာတို့သည် ဗြဟ္မပါရိသဇ္ဇေသုအရ ပဌမစျာန်၃-ဘုံရှိ ပဌမဆုံးဘုံသားဗြဟ္မာများကိုပင် ယူရမည်ဟုဆိုကြ၏။ ၎င်းအယူမသင့်ကြောင်းကို- အရှင်ဇနကာဘိဝံသ သဂြိုဟ်ဘာသာဋီကာ ဆဋ္ဌမအကြိမ်စာ-နှာ ၄၀၇၌ "ဗြဟ္မပါရိသဇ္ဇေသု-အရ ပဌမစျာန်၃-ဘုံတွင်အစဆုံး ဘုံသားဗြဟ္မာများကိုပင် ဆိုလိုသည်ဟု မဏိမဥ္ဇူဖွင့်၏။ ထိုစကားမသင့် ဒုတိယစျာန်ဘုံစသော အထက်အထက်ဘုံများ၌လည်း (သုဒ္ဓါဝါသတိုင်အောင်) ဗြဟ္မပါရိသဇ္ဇဗြဟ္မာ ဗြဟ္မပုရောဟိတဗြဟ္မာ,မဟာဗြဟ္မာများရှိကြသည်။ (ရှိကြောင်းကို ဘူမိစတုက္က၌သာကေပြခဲ့ပြီ) (ထို့ကြောင့်) ပါရိသဇ္ဇတွင် ဗြဟ္မပုရောဟိတကိုပါသွင်းယူပါ" ဟူ၍ မိန့်ဆိုထားပါသည်။

၂။ ပရိတ္တာဘာ၊ အပ္ပမာဏာဘာ၊ အာဘဿရာဟူ၍ ဒုတိယစျာန် (၃)ဘုံ။

၃။ ပရိတ္တသုဘာ၊ အပ္ပမာဏသုဘာ၊ သုဘကိဏှာဟူ၍ တတိယစျာန်(၃)ဘုံနှင့်

၄။ ဝေဟပ္ဖိုလ်ဘုံ၊ အသညသတ်ဘုံ၊ သုဒ္ဓါဝါသ (၅)ဘုံအားဖြင့် စတုတ္ထစျာန် (၇)ဘုံတို့ဖြစ်ကြပါသည်။

ထိုတွင် ပဌမစျာန်ဘုံသား ဗြဟ္မပါရိသဇ္ဇာဗြဟ္မာဟူသည် "ပရိသတိ ဘဝါ ပါရိသဇ္ဇာ၊ ဗြဟ္မာနံ ပါရိသဇ္ဇာ ဗြဟ္မပါရိသဇ္ဇာ"ဟူသောဝိဂြိုဟ်အရ မဟာဗြဟ္မာမင်းတို့၏ ပရိသတ်၌ဖြစ်သော ဗြဟ္မာငယ်များကို ဗြဟ္မပါရိသဇ္ဇာ ဗြဟ္မာဟုခေါ်၏။

ဗြဟ္မပုရောဟိတာ ဗြဟ္မာ ဟူသည် "ပုရေအဂ္ဂေ ဌီယတေ ထပီယတေတိ ပုရောဟိတော" ဝိဂြိုဟ်အရ မင်းမှုကိစ္စဟူသမျှ၌ ရှေ့ကထားအပ်သော၊ ရှေ့ဆောင်စီမံတတ်သောအမတ်မျိုးကို ပုရောဟိတ်ဟုခေါ်ရ၏။ "ဗြဟ္မာနံ ပုရောဟိတာ၊ ဗြဟ္မပုရောဟိတာ" ဟူသော ဝိဂြိုဟ်အရ ဗြဟ္မာမင်းတို့၏ ပုရောဟိတ်အရာ၌ တည်သော ဗြဟ္မာများကိုလည်း ဗြဟ္မပုရောဟိတဟုခေါ်ပါသည်။

ဤဗြဟ္မပုရောဟိတဗြဟ္မာများကို ဗြဟ္မသံယုတ်ဒုတိယဝဂ် စတုတ္ထသုတ်၌ "ဗြဟ္မပရိသတ်"ဟု သုံးစွဲထား၏။ ထို့ကြောင့် ဗြဟ္မပုရောဟိတဗြဟ္မာများသည်လည်း ဗြဟ္မပါရိသဇ္ဇာဗြဟ္မာများကဲ့သို့ပင် မဟာဗြဟ္မာမင်းတို့၏ ပရိသတ်၌ဖြစ်သော ဗြဟ္မာမျိုးပင် ဖြစ်ပါသည်။ ဗြဟ္မာမင်း၏ ပုရောဟိတ်အရာ၌တည်၍ ဗြဟ္မပါရိ

သဋ္ဌပြဟ္မာထက် အနည်းငယ်ပို၍ အထက်တန်းကျသည်သာထူး ၏။ မဟာပြဟ္မာမင်း၏ အလုပ်အကျွေးအခြံအရံ ပရိသတ် အနေနှင့် ကား မထူးအတူတူပင်ဖြစ်၏။ ထိုသို့အတူတူပင်ဖြစ်သောကြောင့် "ပြဟ္မပါရိသဇ္ဇေသု"၌ ပြဟ္မပုရောဟိတပြဟ္မာများကိုပါ ထည့်သွင်း ရယူခြင်းဖြစ်ပါသည်။

မဟာပြဟ္မာဟူသည် "ဗြူဟတိ ပရိဝဒ္ဓတီတိ ပြဟ္မာ မဟန္တော ပြဟ္မာ မဟာပြဟ္မာ" ဟူသော ဝိဂြိုဟ်အရ ဈာန်အဘိညာဉ် ကိုရသည့်အတွက် အထက်ပြဟ္မာဘုံတို့၌ အသက်ရှည်စွာ ချမ်းချမ်း သာသာနေရခြင်းစသော ဂုဏ်တို့ဖြင့် လူနတ်တို့နှင့် ပါရိသဇ္ဇ ပုရောဟိတ ပြဟ္မာတို့ထက် မြင့်မြတ်သာလွန်သောပြဟ္မာမင်းကို မဟာပြဟ္မာဟုခေါ်သည်။

ဤ ၃-ဘုံကို ပဌမဈာန်ရသောပြဟ္မာတို့၏ နေရာဖြစ်သော ကြောင့် ပဌမဈာန်ဘုံဟုခေါ်၏။ အသက်အရှည်,အတိုဘုံဗိမာန်တို့ ၏ကြီးကျယ်ခမ်းနားပုံမှာ ပြဟ္မပါရိသဇ္ဇထက် ပြဟ္မပုရောဟိတတို့ ကသာလွန်၏။ ပြဟ္မပုရောဟိတာထက် မဟာပြဟ္မာကသာလွန်၏။ ယင်းဘုံ ၃-ခုတို့တည်နေပုံမှာ ကောင်းကင်တစ်ပြင်တည်း၌ အထက် အောက် မကွာခြားပဲတည်ရှိကြ၏။ သို့သော်ယင်းဘုံတို့တွင် မဟာ ပြဟ္မာဟုခေါ်သော ပြဟ္မာမင်းမှာတစ်ယောက်တည်းရှိပုံရ၏။ အကြောင်းမှာ ပြဟ္မဇာလသုတ်၌ "ကမ္ဘာတည်သောအခါ မဟာ ပြဟ္မာတစ်ယောက်ရှေးဦးစွာဖြစ်၍ ထိုမဟာပြဟ္မာ၏ တောင်းတ ချက်ဖြင့် အောက်ယေ်သားပြဟ္မာများရောက်လာကြသည်။"[၁]-ဟု

၁။ ဒီ၊ ပါ-၁၊ ၁၇။

အဆိုရှိ၏။ ထို့ပြင်ဗြဟ္မသံယုတ်၌လည်း "တတြသုဒံ ဘိက္ခဝေ ဗြဟ္မာ (မဟာဗြဟ္မာ) စ ဗြဟ္မပရိသာစ ဗြဟ္မပါရိသဇ္ဇာစ ဥဇ္ဈာယန္တိ ခီယန္တိ"[၁] စသည်ဖြင့် မဟာဗြဟ္မာကို ဧကဝုစ်ဖြင့် သုံးစွဲထား၏။ ထို့ကြောင့်ပင် ပဌမစျာန်၃-ဘုံ၌ ဗြဟ္မာမင်း တစ်ယောက်သာရှိသည်ဟု ယူဆသင့်ပါသည်။

သီလက္ခန် ဓဝဝန္နသုတ်၌ "မယံပိ နဇာနာမိ ယတ္ထဝါ ဗြဟ္မာ"[၂]-စသည်ဖြင့်ဆိုသောကြောင့် အောက်တန်းဗြဟ္မာတို့သည် အထက်မဟာဗြဟ္မာကိုမသိနိုင်,မမြင်နိုင်ကြပါ။ သို့သော် ဗြဟ္မသံယုတ် ပဌမဝဂ်ပဉ္စမသုတ်၌ "အထခေါ သောဗြဟ္မာ အညတရံ ဗြဟ္မပါရိသဇ္ဇံ အာမန္တေသိ"[၃] -စသည်ဖြင့် မဟာဗြဟ္မာက ပါရိသဇ္ဇဗြဟ္မာကို လူ့ပြည်အရှင်မောဂ္ဂလာန်ထံစေလွှတ်နေပုံကို ထောက်ဆ၍ မဟာဗြဟ္မာက မိမိကိုယ်ကိုမြင်စေရန် ဖန်ဆင်း၍ပြပေ၏။ ဤသို့မဟာဗြဟ္မာ၏စေခိုင်းချက်အရ ဗြဟ္မပါရိသဇ္ဇဗြဟ္မာများက ပြုလုပ်ပေးရခြင်းကိုပင် မဟာဗြဟ္မာမင်း၏ အလုပ်အကျွေး ဖြစ်သည်ဟု ဆိုပါသည်။

ဒုတိယစျာန်ဘုံ ဗြဟ္မာတို့သည်လည်း ပဌမစျာန်ဘုံဗြဟ္မာတို့နှင့်ဆင်တူပင်ဖြစ်၏။ ဒုတိယစျာန်၃-ဘုံသည် ပဌမစျာန်ဘုံထက်မြင့်သောကောင်းကင်ဝယ် တစ်ပြင်တည်း၌ပင်တည်ရှိ၏။ ပရိတ္တာဘာ အပ္ပမာဏာဘာ အာဘဿရာဟူသော ဒုတိယစျာန်ဗြဟ္မာတို့တွင်တိမ်တိုက်မှ လျှပ်စစ်ကွန့်မြူးသကဲ့သို့ ခန္ဓာကိုယ်မှ တလျှပ်လျှပ်အရောင်ထွက်နေသောကြောင့် အာဘဿရာအမည်ရသော ဗြဟ္မာ

---

၁။ သံ၊ပါ-၁၊ ၁၅၇။ ၂။ ဒီ၊ပါ-၁၊ ၂၁၁။ ၃။ သံ၊ပါ-၁၊၁၄၈။

သည် ဒုတိယစျာန်ဘုံ၌ ပြဟ္မာမင်း (မဟာပြဟ္မာ)ကြီးပင် ဖြစ်၏။ နည်းသောကိုယ်ရောင် ကိုယ်ဝါရှိသော ပရိတ္တာဘာပြဟ္မာနှင့် အတိုင်းအတာမရှိအောင် များပြားသောကိုယ်ရောင်ကိုယ်ဝါရှိသော အပ္ပမာဏာဘာပြဟ္မာတို့သည် အာဘာဿရာမဟာပြဟ္မာမင်းကြီး၏ အလုပ်အကျွေးအခြံအရံ ပရိသတ်ပြဟ္မာများပင် ဖြစ်ကြသည်။

သို့ဖြစ်၍ ၎င်းပြဟ္မာတို့သည်လည်း "ပြဟ္မပါရိသဇ္ဇေသု" အရသွင်းယူထိုက်သော ပြဟ္မပါရိသဇ္ဇာပြဟ္မာနှင့် ပြဟ္မပုရောဟိတာ ပြဟ္မာတို့ပင်ဖြစ်ကြပါသည်။ ထို့ကြောင့် ဒုတိယစျာန်ဘုံ၌လည်း ပြဟ္မပါရိသဇ္ဇာနှင့် ပြဟ္မပုရောဟိတပြဟ္မာတို့ရှိကြသည်ဟု ဆိုခြင်း ဖြစ်ပါသည်။ သို့သော် ပဌမစျာန်ပြဟ္မာများနှင့် နာမည်ချင်းမရော စေလိုသောကြောင့် သာဂုဏ်ထူးအလိုက် ပရိတ္တာဘာစသော နာမည်ထူးကို ပြထားခြင်းဖြစ်ပါသည်။[၁]

ဤဆိုခဲ့ပြီးသောစကားစဉ်ဖြင့် ပဌမစျာန်ဘုံနှင့် ဒုတိယ စျာန်ဘုံတို့သည် ဘုံတည်နေပုံအားဖြင့်လည်းကောင်း၊ မိမိတို့ဘုံ၌ ပြဟ္မာမင်းအသီးသီးရှိနေပုံအားဖြင့်လည်းကောင်း၊ ထိုပြဟ္မာမင်း၏ ပရိသတ်အလုပ်အကျွေးများဖြစ်သည့် ပြဟ္မပါရိသဇ္ဇာအမည်ရသော ပြဟ္မပါရိသဇ္ဇာနှင့် ပြဟ္မပုရောဟိတာပြဟ္မာများရှိနေပုံအားဖြင့် လည်းကောင်း တူညီမှုရှိပါသည်။

ဤအတူပင် အထက်သုဒ္ဓါဝါသတိုင်အောင်သော ဘုံတို့၌ လည်း၊ ပြဟ္မာမင်းနှင့်၎င်း၏ ပရိသတ်အလုပ်အကျွေးဖြစ်သည့် ပြဟ္မပါရိသဇ္ဇာအမည်ရသော ပြဟ္မာများအသီးသီးရှိနေကြပါသည်။

---

၁။ အရှင်ဇနကာဘိဝံသသင်္ဂြိုဟ်ဘာသာဋီကာ၊ ၃၀၃။

ထို့ကြောင့်ပင် ဒုတိယစျာန်ဘုံမှစ၍ အထက်သုဒ္ဓါဝါသတိုင်အောင်သောဘုံများ၌လည်း ဗြဟ္မပါရိသဇ္ဇာနှင့် ဗြဟ္မပုရောဟိတဗြဟ္မာများ ရှိကြောင်းကို ဆိုခဲ့ခြင်းဖြစ်ပါသည်။

**မိန်းမများဖြစ်နိုင်သောဗြဟ္မာ့ဘုံ**

ဤအကြောင်းအရာများကို ထောက်ဆပြီးငြင်းကြည့်လျှင် "က္ကတ္တိယောပိ ပရ အရိယာဝါ အနရိယာဝါ အပိ အဋ္ဌသမာပတ္တိလာဘိနိယော ဗြဟ္မပါရိသဇ္ဇေသုယေဝ နိဗ္ဗတ္တန္တိ" ဟူသော အဋ္ဌကထာ၌ ဗြဟ္မပါရိသဇ္ဇေသုအရ ဗြဟ္မပါရိသဇ္ဇာနှင့်ဗြဟ္မပုရောဟိတဗြဟ္မာတို့ကိုယူနိုင်ခြင်း၊ ၎င်းဗြဟ္မာအမျိုးအစားတို့သည်လည်း အထက်သုဒ္ဓါဝါသဘုံတိုင်အောင် ရှိနေခြင်းစသော အချက်အလက်များအရ မိန်းမတို့သည် မိန်းမဘာဝမှုစုတေ၍ ဗြဟ္မာဖြစ်ရာ၌၊ ပင်ကိုယ်ကဆန္ဒ,ဝီရိယ,စိတ္တ, ဝီမံသတို့သည်ယောကျ်ားများလောက် မထက်သန်သဖြင့် မဟာဗြဟ္မာမင်းကြီး မဖြစ်နိုင်သော်လည်း၊ မဟာဗြဟ္မာမင်းတို့မှ ကြွင်းသောဗြဟ္မာတို့၌ကား ဖြစ်နိုင်ကြသည်ဟု ဖြေဆိုရပေမည်။

မှန်ပါသည်။ မိန်းမတို့မဖြစ်နိုင်သည်မှာလည်းမဟာဗြဟ္မာမင်းသာဖြစ်ကြောင်း ဉာဏဝိဘင်၌ "ယံက္ကတ္တိ ဗြဟ္မတ္တံ ကရေယျနေတံဌာနံ ဝိဇ္ဇာတိ"[၁]ဟူ၍လည်းကောင်း၊ ၎င်းအဋ္ဌကထာ၌ "ဗြဟ္မတ္တန္တိ ဟိ မဟာဗြဟ္မတ္တံ အဓိပ္ပေတံ"[၂] -ဟူ၍လည်းကောင်း ဖွင့်ဆိုကြပါသည်။

အဓိပ္ပါယ်မှာ-ဆန္ဒစသည်တို့၏ ထက်သန်ခြင်း၊ လိင်၏ မြင့်မြတ်ခြင်းဟူသော အကြောင်းကြောင့် မဟာဗြဟ္မာမင်းအဖြစ်

၁။ အဘိ၊ ပါ-၂ ၃၄၉။ ၂။ အဘိ၊ဋ္ဌ-၂ ၄၁၉။

ကို ပြုနိုင်ရာသောအကြောင်းသည် မိန်းမ၌မရှိဟူ၍ ဖြစ်ပါသည်။

ထို့ကြောင့် မိန်းမတို့သည် အရိယာပင်ဖြစ်စေ၊ ပုထုဇဉ်ပင်ဖြစ်စေ မိမိတို့ရရှိသောစျာန်သမာပတ်အားလျော်စွာသောဘုံ၌၊ ဗြဟ္မပါရိသဇ္ဇဗြဟ္မာမျိုး၌ ဖြစ်နိုင်ကြပါသည်။ ပဌမစျာန်ကိုရလျှင်၊ ပဌမစျာန်ဘုံ ဗြဟ္မပါရိသဇ္ဇဗြဟ္မာမျိုး၌ ဖြစ်နိုင်ပါသည်။ ဒုတိယစျာန်၊ တတိယစျာန်ကိုရလျှင် ဒုတိယစျာန်ဘုံ ဗြဟ္မပါရိသဇ္ဇ ဗြဟ္မာမျိုး၌ဖြစ်နိုင်ပါသည်။ စတုတ္ထစျာန်ကိုရလျှင် တတိယစျာန်ဘုံ ဗြဟ္မပါရိသဇ္ဇဗြဟ္မာမျိုး၌ ဖြစ်နိုင်၏။ ပဥ္စမစျာန်ကိုရလျှင် စတုတ္ထစျာန်ဗြဟ္မပါရိသဇ္ဇဗြဟ္မာမျိုး၌ ဖြစ်နိုင်၏။ အရူပစျာန်ကိုရလျှင် အရူပဘုံ၌ဖြစ်နိုင်၏။ အနာဂါမ် မိန်းမသည် စျာန်ရသည်ဖြစ်စေ, မရသည်ဖြစ်စေ၊ သုဒ္ဓါဝါသဘုံ၌သာ ဖြစ်ကြကုန်၏။ ဤသို့သော အဓိပ္ပါယ်ကိုသာ သင်္ဂြိုဟ်ဆရာ, ဋီကာကျော်ဆရာတို့ ပြလိုရင်းဖြစ်ပါသည်။

အဋ္ဌကထာအစောင်စောင်တို့၌လည်း ယင်းသို့သော အဓိပ္ပါယ်မျိုးကိုသာ ဖွင့်ဆိုထားကြောင်းတွေ့ရပါသည်။ အင်္ဂုတ္တရအဋ္ဌကထာစသည်တို့၌ "ဣတ္ထိစ ဣမ စျာနံ ဘာဝေတွာ ကာလံကတွာ ဗြဟ္မပါရိသဇ္ဇာနံ သဟဗျတံ ဥပပဇ္ဇတိ န မဟာဗြဟ္မာနံ"[၁] မိန်းမတို့သည် ဤလူ့ပြည်၌ စျာန်ကိုပွားစေ၍ စုတေသည်ရှိသော် အခြံအရံပရိသတ်ဗြဟ္မာတို့၌ ဖြစ်ကုန်၏။ မဟာဗြဟ္မာမင်းအဖြစ်သို့ကား မရောက်နိုင်-ဟူ၍ ဖွင့်ဆိုထားသည်ကို တွေ့ရပါသည်။

---

၁။ အံ၊ဋ္ဌ-၁။ ၃၆၃။

ထို့ပြင် ဥဒါနအဋ္ဌကထာ၌ "ယသ္မာ ပန တာ ဣမသ္မိံ အတ္တဘာဝေ အရိယဖလာနိ သစ္ဆာကံသု၊ ရတနတ္တယံ ပရိယုပါယိံသု၊ တသ္မာ ကတ္ထ အနာဂါမိနိယော သုဒ္ဓါဝါသေသု ဥပပန္နာ၊ ဣတရာ ကာစိ တာဝတိံသေသု၊ ကာစိ ယာမေသု၊ ကာစိ တုသိတေသု၊ ကာစိ နိမ္မာနရတိသု၊ ကာစိ ပရနိမ္မိတဝသဝတ္တိသု ဥပပန္နာတိ"[၁] ဟူ၍ ဖွင့်ဆိုထား၏။

အဓိပ္ပါယ်။ ။ မိန်းမတို့သည် အရိယာဖိုလ်တို့ကို မျက်မှောက်ပြုကုန်ပြီ။ ရတနာသုံးပါးအပေါင်းကိုဆည်းကပ်ကုန်ပြီ၊ ထို့ကြောင့် ထိုမိန်းမတို့တွင် အနာဂါမ်မိန်းမတို့သည် သုဒ္ဓါဝါသ ဗြဟ္မာဘုံတို့၌ ဖြစ်ကြကုန်၏။ ဤမှတစ်ပါးသော အချို့သောမိန်းမတို့သည် တာဝတိံသာနတ်တို့၌၊ အချို့ယာမာနတ်တို့၌၊ အချို့တုသိတာနတ်တို့၌၊ အချို့နိမ္မာနရတိနတ်တို့၌၊ အချို့ပရနိမ္မိတဝသဝတ္တီနတ်တို့၌ဖြစ်ကုန်၏-ဟူ၍ ဖြစ်ပါသည်။

ဂင်းပြင်ဣန္ဒြိယယမိုက်၌လည်း "ယာဝ ဣတ္ထိယော ရူပါဝစရံ အရူပါဝစရံ ဥပပဇ္ဇိတွာ ပရိနိဗ္ဗာယိဿန္တိ"[၂] ဟူ၍ ဟောတော်မူပါသည်။ အဓိပ္ပါယ်မှာ- မိန်းမတို့သည်လည်း ရူပါဝစရဘုံသို့လည်းကောင်း၊ အရူပါဝစရဘုံသို့လည်းကောင်း ရောက်ကုန်၍ ပရိနိဗ္ဗာန်ပြုကုန်လတ္တံ့ဟူ၍ ဖြစ်ပါသည်။

**မိန်းမတို့မရနိုင်သောဘဝများကိုရှောင်လျှင်**

ဤနေရာ၌ မိန်းမတို့ မဟာဗြဟ္မာမင်းမဖြစ်နိုင်ဟူသော စကားနှင့်စပ်၍ မိန်းမတို့မရနိုင်၊ မဖြစ်နိုင်သောဘဝများကို ဖော်ပြရ

---

၁။ ဥဒါန၊ ၄-၃၄၉။ ၂။ ဘိ၊ပါ၊၇။

လျှင် ဝိဘင်္ဂပါဠိတော်၌ "အဋ္ဌာနမေတံ အနဝကာသော ယံ ဣတ္ထိ အရဟံ အဿ သမ္မာသမ္ဗုဒ္ဓေါ"[၁] စသည်ဖြင့်ဟောတော် မူသော ဒေသနာအရ မိန်းမတို့မရနိုင်၊ မဖြစ်နိုင်သောဘဝများမှာ-

(၁) ဘုရားရှင်၊
(၂) စကြာဝတေးမင်း၊
(၃) သိကြားမင်း၊
(၄) မာရ်နတ်မင်းနှင့်
(၅) ပြဟ္မာမင်းတို့ဖြစ်ကြပါသည်။ မိန်းမတို့သည် ၎င်းဘဝများကိုလိုချင်လျှင် ရှေးဦးစွာယောကျ်ားအဖြစ်ကိုရအောင်အားထုတ်ရာ၏။ ယောကျ်ားအဖြစ်မှတစ်ဆင့် ကြိုးစားလျှင်ကား ၎င်း-ဘဝများရနိုင်ပါသည်။

ရနိုင်ကြောင်းကို သုတ္တနိပါတ်အဋ္ဌကထာ၌ "မာတုဂါမနပုံသက ဥဘတောဗျဉ္ဇနကာနံ ဟိ မနုဿ ဇာတိယံ ဠိတာနမ္ပိ ပဏိဓိ နသမိဇ္ဈတိ တတ္ထာ ဌိတေ ပန ဗုဒ္ဓတ္တံ ပတ္ထေန္တေန ဒါနာဒီနိ ကတွာ ပုရိသဘာဝေါယေဝ ပတ္ထေတဗ္ဗော"[၂]ဟူ၍ မိန့်ဆိုထားပါသည်။

အဓိပ္ပါယ်မှာ။ ။ လူ၏အဖြစ်၌တည်ကုန်သော မိန်းမ၊ နပုံး၊ ဥဘတောဗျည်းတို့အား ဘုရားဆုကိုတောင်းတခြင်းသည် မပြည့်စုံနိုင်၊ အလှူကောင်းမှုကိုပြု၍ ဆုတောင်းသည်ရှိသော် ယောကျ်ားအဖြစ်ကို ရရာ၏။ ယောကျ်ားဖြစ်ပြီးမှ ဘုရားဆုကို တောင်းသည်ရှိသော် ပြည့်စုံရာ၏-ဟု ဆိုလိုပါသည်။

---

၁။ ဘိ၊ပါ၊၂၃၉။ ၂။ သုတ္တနိပါတ၊ ဠ၊ပ၊၄၃။

မိန်းမဘဝမှ ယောက်ျားဘဝသို့ရောက်နိုင်သော အကျင့်များကို ဆက်လက်ဖော်ပြရလျှင်- မိန်းမတို့သည် ဣတ္ထိဘာဝ၌ တပ်ခြင်းကင်းသဖြင့်လည်းကောင်း၊ ဥပုသ်သီလဆောက်တည်သဖြင့်လည်းကောင်း၊ သူတစ်ပါးသား, လင်သားတို့ကို ပြစ်မှားသော ပရဒါရကံမှ ရှောင်ကြဉ်သဖြင့်လည်းကောင်း၊ လင်၌ကောင်းမွန်ရှိသေစွာလုပ်ကျွေးသဖြင့်လည်းကောင်း၊ မိန်းမအဖြစ်က ကုသိုလ်ပြု၍ ယောက်ျားအဖြစ်ကိုဆုတောင်းသဖြင့်လည်းကောင်း၊ ကန်တော့ပူဇော်ထိုက်သူတို့အား ကန်တော့ပူဇော်သဖြင့်လည်းကောင်း၊ မိန်းမဘဝမှလွတ်ကင်း၍၊ ယောက်ျားအဖြစ်ကို ရနိုင်ကြပါသည်။[၁]

သာဓကပြရလျှင် ကပိလဝတ်ပြည်သူ ဂေါပိကာမည်သော သာကီဝင်မင်းသမီးသည် ရတနာသုံးပါး၌ ကြည်ညို၏။ သီလကိုဖြည့်ကျင့်၏။ မိန်းမအဖြစ်၌ တပ်ခြင်းကင်း၍ ယောက်ျားအဖြစ်ကိုတောင်းတ၏။ ထို့ကြောင့် ထိုဘဝမှစုတေလျှင် တာဝတိံသာနတ်ပြည်၌သိကြားမင်း၏သားတော် ဂေါပကနတ်သားဟု ထင်ရှားစွာဖြစ်လာပါသည်။[၂]

## နိဂုံး

ဆိုအပ်ပြီးသော ဤစကားရပ်တို့ဖြင့် "မိန်းမတို့သည်မဟာဗြဟ္မာမင်းကြီး မဖြစ်နိုင်သော်လည်း၊ မဟာဗြဟ္မာမင်းတို့မှ ကြွင်းသောဗြဟ္မာတို့၌ကား ဖြစ်နိုင်ကြသည်" ဟုအဖြေမှန်ကိုပြဆိုခဲ့ပေပြီ။ ၎င်းအဖြေ၌ရရှိနိုင်သောနည်းဥပဒေသကို ဖော်ပြရလျှင်မိန်းမ၏အဖြစ်သည် ပင်ကိုယ်က ဆန္ဒ,ဝီရိယ,စိတ္တ, ဝီမံသတို့ အားနည်း သဖြင့်

၁။ မုံရွေးဆရာတော်သမန္တစက္ခုဒီပနီကျမ်း၊ ၅၂။ ၂။ ဒီ-၂။ ပါ။ ၂၁၆။

ဘုရားရှင်, စကြာဝတေးမင်း, သိကြားမင်း စသည်တို့မဖြစ်နိုင်ကြောင်းသိရပါသည်။ သို့ဖြစ်၍ ယောကျ်ားများနှင့်တန်းတူရည်တူ အခွင့်အရေးမရနိုင်သည့်အဖြစ်ကို သံဝေဂယူ၍ ယင်းအခွင့် အရေးများ ရယူလို သည့် အမျိုးသမီးတို့သည် မိန်းမ အဖြစ်မှလွတ်ကင်းရာ လွတ်ကင်းကြောင်း၊ ယောကျ်ားများနှင့် တန်းတူရည်တူ အခွင့်အရေးရရာ,ရကြောင်း၊ ကုသိုလ်ပါရမီအကျင့်များကို ကြိုးစားအားထုတ်သင့်လှပါသည်။ ယင်းသို့ကျင့်ကြံကြိုးကုတ်အားထုတ်လျှင် မိမိရလိုသည့် အခွင့်အရေး, ရလိုသည့်အထွက်, အထိပ်ဘဝ များကို မုချရနိုင်ပေမည်။ ထို့ကြောင့် အမြင့်မြတ်ဆုံးသောအရာဌာနများသို့ရောက်လိုသူ, ရလိုသူတိုင်း သက်ဆိုင်ရာကုသိုလ်,ပါရမီကျင့်စဉ်များကို ကျင့်ကြံကြိုးကုတ်အားထုတ်သင့်၏ ဟူသောဥပဒေသကို ညွှန်ပြနေကြောင်း ဖော်ပြအပ်ပါသည်။ ။



# အခန်း(၁၁)

## ရဟန္တာသည်၊ စုတေသည်၊ မည်သို့အာရုံပြုလိမ့်နည်း။ (၇၈၅)

### မူရင်းအဖြေ

"ရဟန္တာသည်၊ စုတေသည်၊ မည်သို့အာရုံ ပြုလိမ့်နည်း" ဟူသောအမေးပုစ္ဆာ၏ အဖြေဝိသဇ္ဇနာကား နိဗ္ဗာန်ကိုအာရုံ ပြု၍ စုတေ၏ဟူပေ။

### ပြဿနာဖြစ်ရသည့်အချက်

ဤအဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်းလာအဖြေ ဖြစ်ပါသည်။ ဤအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်မှာ ရဟန္တာတို့၏ စုတိစိတ်တော်သည် နိဗ္ဗာန်ကို အာရုံပြု၍ စုတေ၏ ဟူသော အချက်ပင်ဖြစ်ပါသည်။

### ကျမ်းညွှန်း၍ပြဿနာရှင်းလင်းခြင်း

အဖြေဆရာတော်သည် ပုဒ်စဉ်နံပါတ်-၄၆၉ ပုစ္ဆာအဖြေ၌လည်း "သန္တိမာရဗ္ဘာတိ အနုပါဒိသေသံ နိဗ္ဗာနံ အာရဗ္ဘ ပဋိစ္စ သန္ဓါယ ယံကာလံ အကရိ"ဟူသော မဟာပရိနိဗ္ဗာနသုတ်တော် အဋ္ဌကထာစကားကို ထောက်ထားပြီး ဘုရားရှင်၏ စုတိစိတ်တော်သည် နိဗ္ဗာန်ကိုအာရုံပြု၏ဟုဖြေဆိုခဲ့၏။ ဤ၌လည်းထိုနည်းတူပင်ရဟန္တာ

၏စုတေ့စိတ်သည် နိဗ္ဗာန်ကိုအာရုံပြု၍ စုတေ့၏ဟု ဖြေဆိုပြန်၏။

ပုဒ်စဉ်နံပါတ်-၄၆၉ပြဿနာ၌ဘုရားရဟန္တာတို့၏ စုတိစိတ်သည် နိဗ္ဗာန်ကိုအာရုံမပြုနိုင်၊ ဘုရားရှင်၏ စုတိစိတ်တော်သည် ဂတိနိမိတ်ကိုအာရုံပြု၍ ရဟန္တာတို့၏ စုတိစိတ်တော်သည် အတိတ်ဖြစ်သော ကံ, ကမ္မနိမိတ်, ဂတိနိမိတ်သုံးပါးတွင် တစ်ပါးပါးကိုသာအာရုံပြုကြောင်း ပါဠိ,အဋ္ဌကထာ,ဋီကာများ ထောက်ထားပြီး စိစစ်ဖြေဆိုခဲ့၏။ ဤပြဿနာ၌လည်း ထိုနည်းတူပင် ရဟန္တာတို့၏စုတိစိတ်သည် နိဗ္ဗာန်ကိုအာရုံမပြုနိုင်။ အတိတ်ဖြစ်သော ကံ, ကမ္မနိမိတ်, ဂတိနိမိတ် သုံးပါးတွင် တစ်ပါး,ပါးကိုသာ အာရုံပြု၏- ဟူ၍သာ ဖြေဆိုရပေမည်။ ခိုင်မာသောအထောက်အထား သာဓက များနှင့် အသေးစိတ်စိစစ်ပုံကို အလိုရှိလျှင် ပုဒ်စဉ်နံပါတ်-၄၆၉ အခန်း(၈) ပြဿနာအဖြေ၌ ပြန်လည်ကြည့်ရှုလေ့လာနိုင်ပါသည်။

**နိဂုံး**

ထို့ကြောင့် “သန္ဓေဘဝင်၊ သုံးအင်စုတိ၊ တူဘိအာရုံ၊ ပြုတုံမချွတ်၊ ပရမတ်သည်-ဟောမှတ်ဇကန်သာတမုံ့”ဟူသော ပေါက်ကန်ဆရာတော် လင်္ကာအတိုင်းပရမတ္ထသည် မဖောက်ပြန်သော အနက်သဘောရှိသောကြောင့် ရဟန္တာတို့၏ စုတိစိတ်သည်လည်း အတိတ်ဖြစ်သော ကံ, ကမ္မနိမိတ်, ဂတိနိမိတ် သုံးပါးတို့တွင် တစ်ပါးပါးကိုသာ အာရုံပြုကြောင်း တင်ပြအပ်ပါသည်။



# အခန်း(၁၂)

## နွားဟုပြောရည်၊ ကြားလေသည်၊ မည်ဝီထိဖြင့်သိသနည်း။ (၈၃၈)

### ပြဿနာဖြေဆိုချက်

"နွားဟုပြောရည်၊ကြားလေသည်၊မည်ဝီထိဖြင့်သိသနည်း" ဟူသော ပုစ္ဆာ၏ အဖြေကို မူရင်းစွယ်စုံကျမ်း၌မတွေ့ရပေ။ ဖြေဆိုထားခြင်းမရှိပါ။ သို့ဖြစ်၍ ယင်းမေးခွန်း၏ အဖြေမရှိ လေသလော-ဟု စာဒကတက်ဖွယ်ရာ၊သံသယဝင်ဖွယ်ရာဖြစ်နေပါသည်။ ယင်းပုစ္ဆာ၏အဖြေကို ပြေလည်အောင်ဖြေဆိုလျှင်ကား စာဒကတက်ဖွယ်ရာ သံသယဝင်ဖွယ်ရာများကင်းပျောက်ပြီး ပြဿနာပြေလည်သွားမည် ဖြစ်ပေသည်။ သို့ဖြစ်၍ ၎င်းပုစ္ဆာ၏ အဖြေကိုရေးသားဖြေဆိုပေအံ့။

### ဝီထိသဘော

"နွားဟုပြောရည်၊ ကြားလေသည်၊ မည်ဝီထိဖြင့်သိသနည်း"-ဟူသော ပုစ္ဆာ၌ ဝီထိဟူသော ဝေါဟာရစကားလုံး၏ အဓိပ္ပါယ်ကိုသိဖို့လိုအပ်ပါသည်။ ဝီထိဟူသည် ပါဠိစကားလုံးဖြစ်၏။ တစ်နည်းအားဖြင့် ပါဠိသက်ဝေါဟာရစကားလုံးဟူ၍လည်း ဆိုနိုင်ပါသည်။ ယင်းဝီထိဟူသောစကားလုံး၏ အဓိပ္ပါယ်မှာ- "ဝိယန္တိ

ဂစ္ဆန္တိ ဧတ္တာတိ ဝီထိ၊ ဝီထိ ဝိယာတိဝီထိ"ဟူသော ဝိဂ္ဂြိုဟ်အရ လမ်းသွားရာ၌ ခရီးလမ်းသည် တစ်ရွာပြီးတစ်ရွာဆက်၍ ရွာစဉ်ကိုမကျော်ဘဲ သွားသကဲ့သို့ ထို့အတူ၊ စိတ်တို့သည်လည်း ခုန်ကျော်၍မဖြစ်ဘဲ ပဉ္စဒွါရာဝဇ္ဇန်းပြီး စက္ခုဝိညာဏ်၊ စက္ခုဝိညာဏ်ပြီး သမ္ပဋိစ္ဆန်း၊ သမ္ပဋိစ္ဆိုင်းပြီး သန္တီရဏ၊ ဤသို့စသည်ဖြင့် အစဉ်အတိုင်း ဆက်ကာဆက်ကာ ဖြစ်သွားခြင်းသဘောကို ဝီထိဟုခေါ်ပါသည်။ အချုပ်အားဖြင့် ခရီးလမ်းအစဉ်ကဲ့သို့ စိတ်တို့၏အစဉ်မပြတ်ဖြစ်ခြင်းကို (ဝါ)စိတ်အစဉ်ကို ဝီထိဟုခေါ်ခြင်းဖြစ်ပါသည်။[၁]

ထို့ကြောင့် အထက်ပါမေးခွန်း၌ ပုစ္ဆကာ၏မေးလိုရင်းမှာ "နွားကောင်ဒြပ်အတ္ထပညတ်ကိုရည်ရွယ်၍ ဝဒန္တ[၂] ပုဂ္ဂိုလ်က ပြောသောနွားဟူသောစကားသံ သဒ္ဒပညတ်ကို သုဏန္တ[၃] ပုဂ္ဂိုလ်ကြားရာ၌မည်သည့်ဝီထိဖြင့် (စိတ်အစဉ်မည်မျှရောက်မှ) နွားကောင်ဒြပ် အတ္ထပညတ်ကို သိရှိနားလည်ပါသနည်း"ဟု မေးလိုရင်းဖြစ်ပါသည်။

## သဒ္ဒပညတ်

ဤပုစ္ဆာသည် ပညတ်အခန်းမှ သဒ္ဒပညတ်၊ အတ္ထပညတ် နှစ်မျိုးသိပုံကို ဗဟုသုတလည်းရ,သတ်ပုံလည်းကျအောင် ဉာဏ်စမ်းပုစ္ဆာပြုလုပ်ထားခြင်းဖြစ်၏။ သို့ဖြစ်၍ သဒ္ဒပညတ်၊ အတ္ထပညတ်မှစ၍ ဖော်ပြမှုပြည့်စုံပေမည်။

ဖော်ပြပါ သဒ္ဒပညတ်၊ အတ္ထပညတ်နှစ်မျိုးတို့တွင် သဒ္ဒပညတ်ဟူသည် "ပကာရေတိ အတ္ထပညတ္တိံ ယာ ဉာပေတီတိ

---

၁။ မစိုးရိမ်ဋီကာကျော်အဖြေ -၃၃၆။ ၂။ ဝဒန္တ-ပြောဆိုတတ်သော (ပုဂ္ဂိုလ်)
၃။ သုဏန္တ-ပြောသည့်စကားသံကို နားထောင်တတ်သော (ပုဂ္ဂိုလ်)

ပညတ္တိ"[၁]ဟူသော ဝိဂြိုဟ်အရ အနက်ဒြပ်အတ္ထပညတ်ကို ဂေါ၊ ဘူမိ၊ ပဗ္ဗတ စသော အပြားအားဖြင့် သုဏန္တပုဂ္ဂိုလ်ကို သိစေတတ်သောကြောင့် သဒ္ဒပညတ်မည်ပါ၏။

ဆိုလိုသည်မှာ နွားဟုပြောသောစကားသံ၊ မြေဟုပြောသောစကားသံ၊ တောင်ဟုပြောသောစကားသံ စသည်တို့သည် သုဏန္တပုဂ္ဂိုလ်အား နွားသတ္တဝါပုံသဏ္ဍာန်အနက်ဒြပ်၊ မြေပုံသဏ္ဍာန် အနက်ဒြပ်၊ တောင်ပုံသဏ္ဍာန်အနက်ဒြပ် စသည်တို့ကို အမျိုးမျိုးအစားစား အပြားအားဖြင့်သိစေတတ်၏။ ထိုသို့အနက်ဒြပ်အတ္ထပညတ်ကိုအပြားအားဖြင့် သိစေတတ်သောကြောင့် နွားဟုပြောသောစကားသံ၊ မြေဟုပြောသောစကားသံ၊ တောင်ဟုပြောသောစကားသံ စသည်တို့ကို သဒ္ဒပညတ်ခေါ်သည်ဟု ဆိုလိုပါသည်။

ထိုစကားသံသဒ္ဒပညတ်တို့ကို ကမ္ဘာဦးကာလရှေးပညာရှိစသောပုဂ္ဂိုလ်တို့က "ဤအရာဝတ္ထုကို ဤသို့ခေါ်ဝေါ်အပ်၏။ မြေသားဒြပ်ကိုကြည့်၍ ဘူမိ၊ ပထဝီမြေဟုခေါ်အပ်၏။ နွားကောင်ဒြပ်ကိုကြည့်၍" ဂေါ-နွား"ဟု ခေါ်အပ်၏။ စသည်ဖြင့်ခေါ်ဝေါ်သတ်မှတ်ထားသော အမည် နာမဝေါဟာရများဖြစ်၏။ ထို့ကြောင့် သဒ္ဒပညတ်ကို နာမပညတ်ဟုလည်း ခေါ်ပါသည်။

ခြုံငုံမိအောင်ဆိုရပါမူ ပရမတ္ထသစ္စာခေါ်ပရမတ်အနက်နှင့် သမ္မုတိသစ္စာခေါ် ပညတ်အနက်တို့ကို ပြောဆိုပြသ၍ အစုလိုက် အစုလိုက် ထားအပ်သော (သဝိညတ္တိကဝစီဘေဒနှင့် ဆက်သွယ်လျက်ရှိသည့်) ပညတ္တိသဒ္ဒကို နာမပညတ်ဟုခေါ်ပါသည်။[၂]

---

၁။ အဘိဓမ္မတ္ထဝိဘာဝိနီ၊ ဋီကာပါဠ် ၂၃၈ ။ မစိုးရိမ်ဋီကာကျော်ဖြေ -၄၃၅။
၂။ ဘိ၊ဌ၊-၃၊၂၅။ အဘိဓမ္မာဝတာရ ၁၀၂။ သစ္စသခေ်ပ-၃၃။ သင်္ဂဟ-၁၄၂။

ထိုနာမပညတ်ခေါ်သော သဒ္ဒပညတ်သည် ပါဠိတော် အဋ္ဌကထာတို့၌ ခန္ဓပညတ်၊ အာယတနပညတ် စသည်အားဖြင့် လည်းကောင်း၊ ဝိဇ္ဇမာနပညတ်၊ အဝိဇ္ဇမာနပညတ်၊ ဝိဇ္ဇမာနေန၊ အဝိဇ္ဇမာနပညတ် စသည်အားဖြင့်လည်းကောင်း အမျိုးအစားများ စွာရှိ၏။ သို့သော် အကျဉ်းချုပ်အားဖြင့်-

(၁) ပရမတ္ထသစ္စာအားဖြင့် ထင်ရှားရှိသည့် ရုပ်နာမ် သဘာဝတို့ကို ဟောဆိုပြသသည့် သဘာဝပညတ်နှင့်၊

(၂) ပရမတ္ထသစ္စာအားဖြင့် ထင်ရှားမရှိသည့်သမ္မုတိ သစ္စာ အတ္ထပညတ်တို့ကို ဟောဆိုပြသသော အသဘာဝပညတ်ဟူ၍ သဒ္ဒပညတ်နှစ်မျိုးသာရှိသည်။

၎င်းနှစ်မျိုးတွင် သဘာဝပညတ်ကို ဝိဇ္ဇမာနပညတ်ဟု ခေါ်၍ အသဘာဝပညတ်ကို အဝိဇ္ဇမာနပညတ်ဟူ၍လည်း ခေါ်ပါ သည်။[၁]

**သဘာဝပညတ်ကို စတင်ပညတ်ခဲ့သူ**

ထိုပညတ်နှစ်မျိုးတွင် သဘာဝပညတ်ကို သာမညပုဂ္ဂိုလ် တို့မပညတ်နိုင်ပါ။ ဘုရားရှင်တို့သာစတင်၍ ဖော်ထုတ်ပညတ်ခဲ့ ကြပါသည်။ မှန်ပါသည် ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရစသော ပရမတ္ထသဘာဝတရားတို့သည် ဘုရားပွင့်တော်မမူသော်လည်း ကမ္ဘာ့နိယာမသဘောအတိုင်း အလိုအလျောက် ထင်ရှားရှိနေကြ ၏။ သို့သော် ၎င်းသဘောတရားများကို “ဤသဘောတရားကား ရုပ်၊ ဤသဘောတရားကား ဝေဒနာ စသည်ဖြင့် နာမည်တပ်၍

၁။ တိပိဋကပါဠိမြန်မာ အဘိဓာန် -၅၂၁။

ဖော်ထုတ်ပညတ်နိုင်သူ တစ်ဦးတစ်ယောက်မျှမရှိပါ။ သို့ဖြစ်၍ ယင်းပရမတ္ထသဘာဝတရားများကို နားလည်သဘောပေါက်သူ သတ္တဝါများလည်း မရှိကြခြင်းဖြစ်ပါသည်။ မှောင်အတိကျနေသော အခါ မိမိ၏ပတ်ဝန်းကျင်၌ အရာဝတ္ထုများစွာရှိနေသော်လည်း ဘာတစ်ခုမျှ မမြင်ရ၊ မသိရသကဲ့သို့ဖြစ်၏။

ဘုရားရှင်တည်းဟူသော နေမင်းထွန်းလင်းပေါ်ပေါက်လာသောအခါ၌ကား "ဤကားရုပ်၊ ဤကားဝေဒနာစသည်ဖြင့် နာမည်တပ်၍ ပညတ်ပေးသောကြောင့် သတ္တဝါများသိခွင့်ရပြီး ပရမတ္ထသစ္စာအမှန်တရားများကို သိမြင်လာကြပါသည်။ ဤကား ဘုရားရှင်တို့၏ မန္တိုင်းယှဉ်အပ်သော ဂုဏ်ကျေးဇူးတော်ပင် ဖြစ်ပါသည်။ ဤသို့ထင်ရှားရှိနေသော ပရမတ္ထသဘာဝတို့ကို မှန်ကန်အောင်နာမည်တပ်၍ ပညတ်ပေးရန်ကိစ္စမှာ သာမညပုဂ္ဂိုလ်များ မဆောင်ရွက်နိုင်ပါ။ သဗ္ဗညုဘုရားရှင်တို့သာ ဆောင်ရွက်နိုင်သော အရာဖြစ်ပါသည်။ ထို့ကြောင့် ဘုရားရှင်သည် သဘာဝပညတ်ကို စတင်ပညတ်ခဲ့သူ ဖြစ်သည်ဟုဆိုခြင်းဖြစ်ပါသည်။

**အသဘာဝပညတ်အသုံးဝင်ပုံ**

အသဘာဝပညတ်ဟုခေါ်သော သဒ္ဒပညတ်(ဝါ) နာမပညတ်သည် ပရမတ္ထအားဖြင့်ထင်ရှားမရှိပါ။ သို့သော်နေရာ တကာ၌ အသုံးဝင်လှ၍ ဘုရားရှင်သည် ၎င်းပညတ်ကိုမပယ်ရှားခဲ့ပါ။ အဘိဓမ္မာ(၇)ကျမ်းတွင် လေးခုမြောက်ဖြစ်သော ပုဂ္ဂလပညတ်ကျမ်းသည် အသဘာဝပညတ်ပင်ဖြစ်သည် မဟုတ်ပါလော။

ဘုရားရှင်သည် ၎င်းပုဂ္ဂလပညတ်ကျမ်းကိုဟောရာ၌ အကျိုးရှစ်မျိုးရနိုင်သည်ကို ရည်ရွယ်၍ ပုဂ္ဂိုလ်သတ္တဝါဟုခေါ်ဝေါ် သုံးနှုန်းပြီး ဟောကြားခြင်းဖြစ်ကြောင်း အဋ္ဌကထာဆရာတို့ဆိုပါသည်။[၁] ယင်းအကျိုး(၈)မျိုးမှာ-

၁။ ဟိရောတ္တပ္ပဒီပနတ္ထံ = မကောင်းမှုမှရှက်ကြောက် ခြင်းကိုပြရန်၊

၂။ ကမ္မဿကတာဒီပနတ္ထံ = ကံသာလျှင်မိမိဥစ္စာဖြစ်ကြောင်းပြရန်၊

၃။ ပစ္စတ္တပုရိသကာရဒီပနတ္ထံ = သတ္တဝါတို့၏စွမ်းဆောင်ချက်ကိုပြရန်၊

၄။ အနန္တရိယဒီပနတ္ထံ = အနန္တရိယကံကိုပြရန်၊

၅။ ဗြဟ္မဝိဟာရဒီပနတ္ထံ = ဗြဟ္မစိုရ်တရားလေးပါးကိုပြရန်၊

၆။ ပုဗ္ဗေနိဝါသဒီပနတ္ထံ = ရှေးဘဝအောက်မေ့မှုကို ပြရန်၊

၇။ ဒက္ခိဏာဝိသုဒ္ဓိဒီပနတ္ထံ = အလှူ၏စင်ကြယ်မှုကိုပြရန်၊

၈။ လောကသမ္မုတိယာအပ္ပဟာနတ္ထံ = လောကပြောရိုးထုံးစံကို မပယ်စွန့်ကြောင်းပြရန်တို့ဖြစ်၏။

မှန်ပါသည်။ ရုပ်တို့သည်ရှက်ကြောက်ကုန်၏၊ ဝေဒနာတို့သည် ရှက်ကြောက်ကုန်၏၊ ခန္ဓာ,အာယတန,ဓာတ်တို့သည် ရှက်ကြောက်ကုန်၏-ဟု ပြောကြားပါက တရားနာယူသူတို့ နားလည်ကြမည်မဟုတ်ပေ။ ခန္ဓာအာယတနဓာတ်အချင်းချင်းသည် ရှက်စရာမဟုတ်ဟု ထင်မှတ်ပေမည်။ "ယောက်ျား၊ မိန်းမ၊ မင်း၊ သူဌေး၊ ပုဏ္ဏားတို့သည် ရှက်ကြောက်ကုန်၏။ တစ်ဦးနှင့်

---
၁။ အံ၊ ဋ-၁၊ ၇၄။

တစ်ဦးအချင်းချင်း ရှက်ကြောက်ကုန်၏”ဟု ဟောကြားမှသာ သတ္တဝါများနားလည်ပြီး လိုက်နာကျင့်ကြံကြပေမည် အရှက် အကြောက်မရှိလျှင် လောကကြီးပျက်စီးသွားပေမည်။ လောကကြီး ကို ထိန်းသိမ်းစောင့်ရှောက်ထားသည်မှာ ဟီရိ,ဩတ္တပ္ပ အရှက် အကြောက်တရားနှစ်ပါးပင် ဖြစ်ပါသည်။ သို့ဖြစ်၍ အရှက် အကြောက်တရားနှစ်ပါး တည်တံ့စေခြင်း အကျိုးငှါ သဒ္ဒပညတ် (ခေါ်)နာမပညတ်ကို အသုံးပြု၍ ပုဂ္ဂိုလ်,သတ္တဝါ,ယောက်ျား,မိန်းမ စသည်ဖြင့် ဟောကြားရခြင်းဖြစ်ပါသည်။

“ခန္ဓာ,အာယတန,ဓာတ်တို့သည် ကံသာလျှင် မိမိဥစ္စာရှိ ကုန်၏”-ဟု ဟောကြားလျှင် တရားနာသူတို့နားလည်မည် မဟုတ် ပေ။ သတ္တဝါတို့သည် ကံသာလျှင် မိမိဥစ္စာရှိကုန်၏။ သတ္တဝါတို့ကို သတ်လျှင် အကုသိုလ်ကံဖြစ်၏။ သတ္တဝါတို့ကို အသက်ဘေးမှ ကယ်တင်လျှင် ကုသိုလ်ကံဖြစ်၏-စသည်ဖြင့် ကုသိုလ် အကုသိုလ် ကံတို့ကို နားလည်စေခြင်းအကျိုးငှါ ပုဂ္ဂိုလ်သတ္တဝါစသည့် နာမ ပညတ်ဖြင့် သုံးနှုန်းဟောကြားခြင်းဖြစ်ပါသည်။

“ခန္ဓာ,အာယတန,ဓာတ်တို့သည် ဇေတဝန်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်း၏”-စသည်ဖြင့် ဟောကြားပါက လူတို့၏ လို့လဝီရိယစွမ်းဆောင်ချက်မထင်ရှား။ “အနာထပိဏ်သူဌေးသည် ဇေတဝန်ကျောင်းတော်ကို ဆောက်လုပ်လှူဒါန်း၏”- စသည်ဖြင့် ဟောကြားလျှင် လူတို့၏စွမ်းဆောင်ချက်ထင်ရှား၏ နာကြားရသူ များလည်း လှူဒါန်းချင်သည့်စိတ် စေတနာများတဖွားဖွား ပေါ် ပေါက်လာနိုင်၏။ ထိုသို့ လူတို့၏ စွမ်းဆောင်ချက်ကို ဖော်ပြလိုခြင်း အကျိုးငှါ ပုဂ္ဂိုလ်သတ္တဝါစသည်ဖြင့် ဟောကြားတော်မူပါသည်။

"ခန္ဓာအာယတနဓာတ်တို့သည် ခန္ဓာအာယတနဓာတ်တို့ကို သတ်လျှင် အပြစ်ကြီးလေး၏။"-ဟု ဟောကြားလျှင် သဘောပေါက်နားလည်ကြမည်မဟုတ်ပေ။ မြင်းမိုရ်တောင်မျှမက ကျေးဇူးကြီးမားသောအမိအဖတို့ကိုသတ်လျှင် ကြီးလေးသောအကုသိုလ်ကံ ကြီးထိုက်၏-ဟု ဟောကြားပါမှ ကြားနာသူတို့ နားလည်သဘောပေါက်ပြီးရှောင်ကြဉ်နိုင်ကြပေမည်။ ထိုသို့ကြီးလေးသောကံဖြစ်၍ အခြားမဲ့ဘဝ၌ငရဲကျိန်းသေသော အနန္တရိယအကုသိုလ်ကံကို ပြခြင်းအကျိုးငှါ ပုဂ္ဂိုလ်,သတ္တဝါ၊ အမိ,အဖ စသည်ဖြင့် ဟောကြားတော်မူခြင်းဖြစ်ပါသည်။

"အသင်ခန္ဓာ,အာယတန,ဓာတ်တို့သည် အချင်းချင်းချစ်ခင်ကြပါ၊ သနားကြင်နာကြပါ"-စသည်ဖြင့် ဟောကြားပါက နားမလည်၊ သဘောမပေါက်သဖြင့် လက်ခံကျင့်သုံးနိုင်ကြမည်မဟုတ်ပေ။ "သတ္တဝါ-အချင်းချင်းချစ်ခင်ကြပါ၊ ဆင်းရဲသည့်ဒုက္ခိတသတ္တဝါကိုသနားကြပါ၊ ချမ်းသာသူကို တွေ့က ဝမ်းမြောက်ကြပါ"စသည်ဖြင့် ဟောကြားလျှင်သတ္တဝါတို့နားလည်သဘောပေါက်၍ လက်ခံကျင့်သုံးနိုင်ကြပေမည်။ ထိုသို့မေတ္တာ,ကရုဏာစသော ပြဟ္မစိုရ်တရားများကိုပြရန် ပုဂ္ဂိုလ်သတ္တဝါစသည်ဖြင့်-ဟောကြားတော်မူ၏။

ခန္ဓာ,ယတန,ဓာတ်တို့၌အဆက်မပြတ် ဒလစပ်ဖြစ်ပျက်နေသော ဖြစ်ပျက်အစဉ်သာရှိသောကြောင့်၊ ၎င်းတို့၏ ရှေ့ဘဝကိုပြန်လည်အောက်မေ့ဆင်ခြင်ရန် မဖြစ်နိုင်ချေ။ ထိုခန္ဓာတို့၏ ဖြစ်စဉ်ဟုဆိုအပ်သော သတ္တဝါ၏သာ ရှေးဘဝတို့ကိုပြန်လည်ဆင်ခြင်အောက်မေ့၍ရနိုင်၏။ ထိုသို့ ရှေးဘဝကိုပြန်လည် အောက်

မေ့ဆင်ခြင်မှု ပုဗ္ဗေနိဝါသာနုဿတိဉာဏ်ကို ဖော်ပြရန် အတွက် ပုဂ္ဂိုလ်သတ္တဝါစသည်ဖြင့် ဟောကြားတော်မူပါသည်။

အလှူခံပုဂ္ဂိုလ်တို့တွင် ဒုဿီလပုဂ္ဂိုလ်ကို လှူဒါန်း ရသည်ထက် သီလရှိသောပုဂ္ဂိုလ်၊ တရားကျင့်သောပုဂ္ဂိုလ်တို့ကို လှူဒါန်းရသည်က သာ၍အကျိုးများ၏ အလှူပေး အလှူခံနှစ်ဦးလုံး သီလ စင်ကြယ်လျှင် အလှူစင်ကြယ်ပြီး အကျိုးပေးလည်းကြီးကျယ်နိုင်၏။ ဤသို့အလှူ စင်ကြယ်မှုဖြစ်ကြောင်းကို ပြခြင်းအကျိုးငှါ ပုဂ္ဂိုလ်,သတ္တဝါ စသည် ဖြင့် ဟောတော်မူပါသည်။

လောကလူအပေါင်းသည် ပုဂ္ဂိုလ်၊ သတ္တဝါ၊ ငါ၊ သူတစ်ပါး ယောကျ်ား၊ မိန်းမ၊ ဆရာ၊ မိဘစသည်ဖြင့် ပြောဆိုသုံးနှုန်းနေကြ၏။ ယင်းသို့သောအစဉ်အလာ ပြောထုံးကို မပယ်ကြောင်းပြရန် အတွက် ပုဂ္ဂိုလ်သတ္တဝါစသည့် အသဘာဝသဒ္ဒပညတ်ဖြင့် သုံးနှုန်းဟောကြား တော်မူပါသည်။ သို့ဖြစ်၍ သဒ္ဒပညတ်သည်ပုဂ္ဂိုလ်တစ်ဦးနှင့် တစ်ဦး တစ်ပါးနှင့်တစ်ပါး ဆက်သွယ်ရေးကြားခံ ပစ္စည်းအဖြစ်ဖြင့် အရာ ရာ၌အသုံးဝင်နေကြောင်းတွေ့ရ၏။

ဤသို့သတ္တဝါများအကျိုးများရန် နေရာတကာ၌အသုံးဝင် အရာကျယ်လှသောကြောင့် ဘုရားရှင်သည် အသဘာဝသဒ္ဒပညတ် ကိုလည်း မပယ်ရှားဘဲ "လက်ကသုံးတောင်ဝှေး"သဖွယ် အမြဲအသုံး ပြုတော်မူခဲ့ခြင်းဖြစ်ပါသည်။

**အတ္ထပညတ်**

အတ္ထပညတ်ဟူသည် "ပကာရေန နာမပညတ္တိယာ ဉာယတီတိ ပညတ္တိ"ဟူသော ဝိဂ္ဂြိုဟ်အရ သဒ္ဒပညတ် (ခေါ်)နာမ

ပညတ်သည် ဂေါ၊ ဘူမိ၊ ပဗ္ဗတစသောအပြားအားဖြင့် သိစေအပ်သောကြောင့် အတ္ထပညတ်မည်ပါသည်။[၁]

ဆိုလိုသည်မှာ- လူ၊ နတ်၊ နွား၊ မြေ၊ တောင်-စသည်ဖြင့် ခေါ်ဝေါ်ပြောဆိုသောစကားသံ သဒ္ဒပညတ်ဖြင့် သိစေအပ်သော လူကောင်ဒြပ်၊ နတ်ကောင်ဒြပ်၊ နွားကောင်ဒြပ်-စသောအနက်ဒြပ်တို့သည် အတ္ထပညတ်များဖြစ်သည်ဟု ဆိုလိုပါသည်။

ထင်ရှားအောင်ပြဆိုရလျှင် "ပုရိသော-ယောကျ်ား"ဟု ဆိုရာ၌ ပုရိသောကား ပါဠိသဒ္ဒါသဒ္ဒပညတ်၊ ယောကျ်ားကား မြန်မာသဒ္ဒါသဒ္ဒပညတ်၊ ထိုသဒ္ဒပညတ်ဖြင့်စိတ်၌သိအပ်သော ယောကျ်ားအထည်ကိုယ်ဒြပ် လူကောင်ကြီးသည်သာ အတ္ထပညတ်ဖြစ်ပါသည်။ "အာကာသော-ကောင်းကင်" ဟုဆိုရာ၌ အာကာသောကား ပါဠိသဒ္ဒါသဒ္ဒပညတ်၊ ကောင်းကင်ကား မြန်မာသဒ္ဒါသဒ္ဒပညတ်၊ ထိုသဒ္ဒပညတ်ဖြင့် စိတ်၌သိအပ်သော ဟာလာဟင်းလင်းအရပ်သည်သာ အတ္ထပညတ်ဖြစ်ပါသည်။ အချုပ်အားဖြင့် လက်ဆုပ်လက်ကိုင်ပြ၍ရကောင်းသည်ဖြစ်စေ၊ မရကောင်းသည်ဖြစ်စေ၊ **စိတ်၌သိအပ်သော သဘောတရားမှန်သမျှ၊ အရာဝတ္ထု မှန်သမျှတို့သည် အတ္ထပညတ်များဖြစ်ပါသည်။** တစ်နည်းအားဖြင့်အမျိုးမျိုး အဖုံဖုံသတ်မှတ်ခေါ်ဝေါ်အပ်သောအရာမှန်သမျှတို့သည် အတ္ထပညတ်ချည်းဖြစ်ပါသည်။

ထိုအတ္ထပညတ်သည် ပါဠိတော်,အဋ္ဌကထာ စသည်တို့၌ ဥပါဒအတ္ထပညတ်၊ သန္တတိအတ္ထပညတ်၊ သမူဟအတ္ထပညတ်စသည်

---

၁။ အဘိဓမ္မတ္ထဝိနိဋီကာပါဠိ၊ -၂၃၈ မစိုးရိမ်ဋီကာကျော်အဖြေ-၇၃၅။

အားဖြင့်အတ္ထပညတ်အမျိုးမျိုးရှိ၏။[၁] ယင်းသို့အမျိုးမျိုးရှိသော်လည်း အကျဉ်းချုပ်အားဖြင့် ပရမတ်အတ္ထပညတ်နှင့် ပညတ်အတ္ထပညတ်နှစ်မျိုးသာရှိပါသည်။ မှန်ပါသည် ပရမတ္ထသစ္စာအားဖြင့် ထင်ရှားရှိသည့်စိတ်,စေတသိက်,ရုပ်,နိဗ္ဗာန်ဟူသော တရားလေးမျိုးသည် (ဝါ) သဘောတရားလေးမျိုးသည် ပရမတ်အတ္ထပညတ်ဖြစ်၏။ ယင်းပရမတ်အတ္ထပညတ်ကိုစွဲမှီကပ်မြောင်ကာ ခေါ်ဝေါ်ပညတ်သမုတ်အပ်သည့်ပုဂ္ဂိုလ်၊ သတ္တဝါ၊ ဗြဟ္မာ၊ လူ၊ နတ်၊ နက္ခတ်၊ တာရာ၊ သမုဒ္ဒရာ၊ တော၊ တောင်-စသော အနက်ဒြပ်သည်အတ္ထပညတ်ဖြစ်ပါသည်။[၁]

ဤကား-သဒ္ဒပညတ်၊ အတ္ထပညတ်နှစ်ပါး အဓိပ္ပါယ်အကြောင်းအရာများကို သိလောက်ရုံမျှဖော်ပြခြင်းဖြစ်ပါသည်။ အကျယ်ကိုလိုမူ ကျမ်းညွှန်းပါအတိုင်းကျမ်းဂန်တို့၌ ကြည့် နိုင်ပါသည်။

**အတ္ထဂ္ဂဟဏဝီထိခေါ် စတုတ္ထသုဒ္ဓမနောဒွါရဝီထိဖြင့်သိပုံ**

"**နွားဟုပြောရည်၊ ကြားလေသည်၊ မည်ဝီထိဖြင့်သိသနည်း**"-ဟူသော သတ်ပုံသံပေါက်လင်္ကာအရ နွားကောင်ဒြပ်အတ္ထပညတ်ကို ရည်ရွယ်၍ ဝဒန္တပုဂ္ဂိုလ်က "နွား"ဟု ပြောသောစကားသံသဒ္ဒပညတ်ကို ကြားရာ၌ မည်သည့်ဝီထိဖြင့် (စိတ်အစဉ်မည်မျှရောက်မှနွားကောင်ဒြပ် အတ္ထပညတ်ကိုသိပါသနည်း-ဟူသောပုစ္ဆာ၏အဖြေမှာ - အတ္ထဂ္ဂဟဏဝီထိ(ခေါ်) စတုတ္ထသုဒ္ဓမနောဒွါရိကဝီထိဖြင့် (စိတ်အစဉ်လေးမျိုးပြောင်းမှ) နွားကောင်ဒြပ်အတ္ထပညတ်ကို သိသည်ဟု ဖြေဆိုရပေမည်။

---

၁။ တိပိဋကအဘိဓာန်အတွဲ ၁၃၊ စာနှာ-၅၁၁။ ၁။ ပရမတ္ထဝိနိစ္ဆယ-၉၃။

မှန်ပါသည် နွားဟူသောစကားသံကိုကြားရာ၌ သောတဒွါရဝီထိသည် ရှေးဦးစွာဖြစ်၏။ ၎င်းဝီထိတစ်မျိုးတည်းဖြင့် "ငါသည် ဤမည်သောအသံကိုကြားရ၏။ ဤအသံ၏အဓိပ္ပါယ်ကား- နွားဖြစ်သည်။ လူဖြစ်သည် ဤသို့စသည်ဖြင့် ကွဲကွဲပြားပြား မသိနိုင်သေးပါ။ သဒ္ဒါရုံသာမန်မျှကိုသာ ကြားရုံကြားရသေး၏။ အဘယ်အခါမှသိသနည်းဟုဆိုလျှင် ထိုသောတဒွါရဝီထိနောင် တဒနုဝတ္တက မနောဒွါရဝီထိများ ဆက်ဖြစ်မှသာ ကွဲကွဲပြားပြား သိနိုင်ပါသည်။

သောတဒွါရဝီထိနောက်သို့ လိုက်၍ဖြစ်သော တဒနုဝတ္တကမနောဒွါရဝီထိများမှာ -

(၁) အတီတဂ္ဂဟဏဝီထိခေါ် ဒုတိယတဒနုဝတ္တက မနောဒွါရဝီထိ၊

(၂) နာမဂ္ဂဟဏဝီထိခေါ် တတိယသုဒ္ဓမနောဒွါရဝီထိ၊

(၃) အတ္ထဂ္ဂဟဏဝီထိခေါ် စတုတ္ထသုဒ္ဓမနောဒွါရဝီထိ- တို့ဖြစ်ကြပါသည်။

တစ်စုံတစ်ယောက်က "နွား"ဟူသော အသံကို ပြောဆိုသည့်အခါ ထိုပစ္စုပ္ပန်ပြောဆိုဆဲ သဒ္ဒါရုံကိုအာရုံပြု၍ သောတဒွါရဝီထိဖြစ်၏။ ၎င်းဝီထိဖြစ်ပုံမှာ - သောတပသာဒ၌ နွားဟူသောအသံသဒ္ဒါရုံထင်ခြင်းသို့ ရောက်သဖြင့် ဘဝင်္ဂစလန၊ ဘဝင်္ဂုပစ္ဆေဒ၊ ပဉ္စဒွါရာဝဇ္ဇန်း၊ သောတဝိညာဏ်၊ သမ္ပဋိစ္ဆိုင်း၊ သန္တီရဏ၊ ဝုဋ္ဌော၊ ဇော ၇-ကြိမ်၊ တဒါရုံ၂-ကြိမ် ဖြစ်ပြီးသည့်အခါ၊ သဒ္ဒါရုံနှင့်သောတပသာဒတို့ (၁၇)ချက်ရုပ်သက်စေ့ရကား၊ ဒုတိယတဒါရုံ၏ ဘင်နှင့် ပြိုင်၍ချုပ်ခြင်းရှိသော ဝီထိသည် တဒါရမ္မဏဝါရ အတိမဟန္တာရုံ

သောတဒွါရဝီထိဖြစ်ပါသည်။ ယင်းသို့ သောတဒွါရဝီထိစိတ်ဖြစ်ပြီးသည့်နောက်၊ ဖြစ်ထိုက်သမျှသော ဘဝင်များခြားပြီး အတိတ်ဖြစ်သောနွားဟူသော အသံသဒ္ဒါရုံကို အာရုံပြု၍အတီတဂ္ဂဟဏဝီထိခေါ် ဒုတိယတဒနုဝတ္တကမနောဒွါရဝီထိဖြစ်ပါသည်။ ၎င်းဝီထိဖြစ်ပုံမှာ- အတိတ်ဖြစ်သော နွားဟူသော အသံသဒ္ဒါရုံသည် မနောဒွါရ၌ထင်လာသည်ရှိသော် ဘဝင်္ဂလစန၊ ဘဝင်္ဂုပစ္ဆေဒ၊ မနောဒွါရာဝဇ္ဇန်း၊ ဇော၇-ကြိမ် (ဝိဘူတာရုံဖြစ်လျှင်တဒါရုံ ၂ကြိမ်၊ အဝိဘူတာရုံဖြစ်လျှင် တဒါရုံမကျဘဲ) ဘဝင်ဖြစ်ထိုက်သမျှဖြစ်၏။

ဤဝီထိသည် သောတဒွါရဝီထိဖြစ်လျှင် ထိုလွန်ပြီးသောသဒ္ဒါရုံကိုဆက်လက် အာရုံပြုပြီးလိုက်၍ ဖြစ်ရိုးထုံးစံဖြစ်၏။ ဤဝီထိ ၂-ခု အစုံသည်အကြိမ်အတော်များများ ထပ်ကာထပ်ကာဖြစ်သည်ဟု ဆိုရပေမည်။ အဘယ့်ကြောင့်ဆိုသော် အက္ခရာတစ်လုံး၏အသံသည် ရဿသံဖြစ်လျှင်လက်ဖျစ်တစ်ချက်တီး ခန့်ကြာ၏။ ဒီဃသံဖြစ်လျှင် လက်ဖျစ် ၂-ချက်တီးခန့်ကြာ၏။ လက်ဖျစ်တစ်ချက်တီးခန့်ကာလအတွင်း၌ "ဧကသ္မိံဟိ အစ္ဆရာက္ခဏေ အနေကာနိစိတ္တကောဋိသတသဟဿာနိ ဥပ္ပဇ္ဇန္တိ"[၁]ဟူသော စကားကိုထောက်၍စိတ်ပေါင်းကုဋေတစ်သိန်းခန့်မျှ ဖြစ်နိုင်ပါသည်။ ထို့ကြောင့် "နွား" ဟူသောအသံလုံးကြီးတစ်ခု၌ ထပ်၍ထပ်၍ ဖြစ်သော အစိတ်အစိတ် ပစ္စုပ္ပန်သဒ္ဒါရုံပေါင်းများစွာကို အာရုံပြု၍ သောတဒွါရဝီထိပေါင်းများစွာ ဖြစ်နိုင်၏။ ထိုနောက်ထိုက်သင့်သလောက်ဘဝင်များခြားပြီး အတိတ်သဒ္ဒါရုံကို အာရုံပြုသောအတီတဂ္ဂဟဏ

---

၁။ သံ၊ ၄-၂၉၂။

ဝီထိခေါ် ဒုတိယတဒနုဝတ္တကမနောဒွါရဝီထိပေါင်းလည်း များစွာ ဖြစ်နိုင်သည်ဟု ဆိုခြင်းဖြစ်ပါသည်။

ဤသို့ဆိုပြီးသောဝီထိ ၂-ခုအစုံအခိုက်ဝယ် နွားကောင်ဒြပ်ကိုပိုင်ပိုင်နိုင်နိုင် မသိသေး၊ အသံသာမန်မျှကိုသာ ကြားသိရသေး၏။ ထိုအတီတဂ္ဂဟဏဝီထိခေါ် ဒုတိယတဒနုဝတ္တကမနောဒွါရဝီထိ၏အခြားမဲ့၌ နွားဟူသောနာမပညတ်ကို အာရုံပြု၍ နာမဂ္ဂဟဏဝီထိခေါ် တတိယသဒ္ဒမနောဒွါရဝီထိသည် အကြိမ်များစွာဖြစ်၏။ ဤဝီထိရောက်မှ နွား-ဟူသောအသံနာမပညတ်ကို သိနိုင်ပါသည်။ သို့သော် နွားဒြပ်အနက်ကို မသိနိုင်သေးပါ။ ၎င်းဝီထိ၏အခြားမဲ့၌နွားဟူသော အသံသဒ္ဒ၏အနက်ဖြစ်သော နွားဒြပ်ကိုအာရုံပြုသော အတ္ထဂ္ဂဟဝီထိခေါ် စတုတ္ထသဒ္ဒမနောဒွါရဝီထိဖြစ်၏။ ဤနောက်ဆုံးဝီထိဖြင့် (စိတ်အစဉ်လေးမျိုးပြောင်းပြီးမှ) နွားကောင်ဒြပ်အတ္ထပညတ်ကိုသိနိုင်ပါသည်။

သို့ဖြစ်၍ နွားဟုပြောသောစကားသံသဒ္ဒပညတ်ကို ကြားရာ၌ အတ္ထဂ္ဂဟဏဝီထိခေါ် စတုတ္ထသဒ္ဒမနောဒွါရဝီထိဖြင့် (စိတ်အစဉ်လေးမျိုးပြောင်းမှ) နွားကောင်ဒြပ်အတ္ထပညတ်ကို သိသည်ဟု ဖြေဆိုခြင်းဖြစ်ပါသည်။

ဤအကြောင်းကို ရှေးဆရာတို့သည် -

သဒ္ဒံ ပဌမစိတ္တေန ၊ တီတံ ဒုတိယစေတသာ၊
နာမံ တတိယစိတ္တေန၊ တီတံ ဒုတိယစေတသာ၊
နာမံ တတိယစိတ္တေန၊ အတ္ထံ စတုတ္ထစေတသာ။[၁]

-ဟူ၍ဂါထာစီကုံးပြီးမှ မှတ်တမ်းတင်ခဲ့ပါသည်။

၁။ ပရမတ္ထသရူပဒီပနီကျမ်း၊ ပတွဲ၊ ၁၉၅။ အခြေပြုသင်္ဂြိုဟ်-၅၃၄၊

အနက်။ ။ သဒ္ဒံ-ပစ္စုပ္ပန်သဒ္ဒါရုံကို၊ ပဌမစိတ္တေန-ပထမသောတဒွါရဝီထိစိတ်ဖြင့်၊ ဇာနာတိ-သိ၏။ အတီတံ- လွန်ပြီးသောအတိတ်သဒ္ဒါရုံကို၊ ဒုတိယစေတသာ- နှစ်ကြိမ်မြောက်တဒနုဝတ္တကမနောဒွါရဝီထိဖြင့်၊ ဇာနာတိ- ဆက်လက်၍သိ၏။ နာမံ- နာမပညတ်သဒ္ဒပညတ်ကို၊ တတိယစိတ္တေန- သုံးကြိမ်မြောက်မနောဒွါရဝီထိစိတ်ဖြင့်၊ ဇာနာတိ- ဆက်လက်၍ သိ၏။ အတ္ထံ-အနက်ဒြပ်အတ္ထပညတ်ကို၊ စတုတ္ထစေတသာ-လေးကြိမ်မြောက်မနောဒွါရဝီထိဖြင့်၊ ဇာနာတိ-ဆက်လက်၍သိ၏။

**အက္ခရာများသောနာမပညတ်၌သိပုံ**

ဤဆိုပြီးသည်ကား အက္ခရာတစ်လုံးသာရှိသော နာမပညတ်ကိုကြားရာ၌ သိပုံဖြစ်၏။ အက္ခရာနှစ်လုံးရှိသော နာမပညတ်ကို ကြားရာ၌သိပုံမှာ- ဥပမာ- “ဃဋ”ဟူသောအသံကိုကြားရာ၌ပစ္စုပ္ပန် “ဃ”သဒ္ဒါကို အာရုံပြု၍ သောတဒွါရဝီထိဖြစ်၏။ ထိုနောင်ချုပ်ပြီးစ အတိတ်သဒ္ဒါရုံကို အာရုံပြု၍ အတီတဂ္ဂဟဏဝီထိခေါ် ဒုတိယတဒနုဝတ္တက မနောဒွါရဝီထိဖြစ်၏။ ဤဝီထိ ၂-ခုအစုံသည်အတော်များစွာဖြစ်၏။ ထို့နောင် “ဋ”ဟု ရွက်ဆိုခိုက်၌လည်း ထိုဝီထိ ၂-ခု အစုံအတော်များစွာ ဖြစ်ပြန်၏။[၁] (ဤသို့အက္ခရာတစ်လုံး,တစ်လုံးတိုးလျှင် ဤဝီထိ ၂-ခု အစုံတစ်စုံတစ်စုံတိုး ရေတွက်လေ)၊ ထိုနောင်အိုးဟူသော နာမပညတ်ကို အာရုံပြု၍ နာမဂ္ဂဟဏဝီထိခေါ် ပဌမသုဒ္ဓမနောဒွါရဝီထိများဖြစ်၏။ ထိုနောင် ဟောနက်ဖြစ်

၁။ ထိုသောတဒွါရဝီထိနှင့်အတီတဂ္ဂဟဏဝီထိခေါ် ဒုတိယတဒနုဝတ္တကမနောဒွါရ ဝီထိတစ်စုံဖြစ်ပြီးနောင်တွင် “ဃဋ”ဟူသောအသံ နှစ်ရပ်ကိုပေါင်းစပ်၍ အာရုံပြုသောသမူဟဂ္ဂဟဏဝီထိသည် အကြိမ်များစွာ ဖြစ်သေးသည်ဟု ဝီထိနှင့်သုံး ချက်စုဘာသာဋီကာဆရာဆိုထားပါသည်။

သော အိုးဒြပ်အနက်အတ္ထပညတ်ကို အာရုံပြု၍ အတ္ထဂ္ဂဟဏဝီထိခေါ် ဆဋ္ဌသုဒ္ဓမနောဒွါရဝီထိဖြစ်၏။ ဤသို့ဝီထိ(၆)မျိုးဖြစ်ပြီးမှ အိုးဟူသော အနက်အတ္ထပညတ်ကိုသိရပါသည်။

နိဂုံး

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် နွားဟူသောစကား သံသဒ္ဒရုပ်ကိုကြားရာ၌ သုံးဝီထိမြောက်မှ သဒ္ဒပညတ်ကို၊ လေးဝီထိမြောက်မှ စကားအဓိပ္ပါယ်နွားကောင်ဒြပ် အတ္ထပညတ်ကိုသိရ၏။ စကားအဓိပ္ပါယ်အတ္ထပညတ်ကို သိချိန်၌ စိတ်အစဉ်သည် ၄လေးမျိုး ပြောင်းခဲ့ပြီးဖြစ်၏။ ဤမျှဖြစ်ပျက်မြန်သော ရုပ်နာမ်တို့သည် နိစ္စ, သုခ, အတ္တ,သုဘမဟုတ်၊ အနိစ္စ, ဒုက္ခ, အနတ္တ, အသုဘသာ စင်စစ်ဖြစ်ကြောင်း ဖော်ပြနေပါသည်။ ယင်းသဘောတရားကိုမြင်သောဉာဏ်အမြင်သည် ဝိပဿနာဉာဏ်ဖြစ်၏။ ထိုဝိပဿနာဉာဏ်မှတစ်ဆင့် မဂ်ဉာဏ်,ဖိုလ်ဉာဏ်အထိ ရောက်နိုင်ပါသည်။ ထို့ကြောင့် ဝိပဿနာဉာဏ်,မဂ်ဉာဏ်, ဖိုလ်ဉာဏ်အမြင် ပေါက်လိုသူတို့သည် ဖြစ်ပျက်မြန်သော ရုပ်နာမ်ခန္ဓာအစဉ်ကိုမြင်အောင် ဝိပဿနာရှုသင့်သည် ဟူသောဥပဒေသ, အတ္ထပညတ်ကို သဒ္ဒပညတ်ဖြင့်သာသိနိုင်၏။ သဒ္ဒပညတ်ခေါ် နာမပညတ်မရှိလျှင် အတ္ထပညတ်ဖြစ်သော ပရမတ္ထသစ္စာအမှန်တရားကို သိနိုင်မည်မဟုတ်ပေ။ နာမပညတ်ခေါ်သော သဒ္ဒပညတ်ရှိမှ ပရမတ္ထသစ္စာအမှန်တရားကို သိမြင်နိုင်ပေမည်။ သို့ဖြစ်၍ ပရမတ္ထသစ္စာအမှန်တရားကိုရှာမှီးလိုသူ, သိမြင်လိုသူတို့သည် သူတစ်ပါးဟောကြားသည့်တရားစကားသံ သဒ္ဒပညတ်တို့ကို နားကြားသင့်သည်ဟူသော ဥပဒေသတို့ကို ဖော်ပြနေကြောင်း တင်ပြအပ်ပါသည်။

# အခန်း(၁၃)

## ဝမ်းတွင်းအောင်းစဉ်၊ ဝိထိယှဉ်၊ ပဋ္ဌဒ္ဒါရ ကျလိမ့်နည်း။ (၃၇၆)

### မူရင်းအဖြေ

"ဝမ်းတွင်းအောင်းစဉ်၊ ဝိထိယှဉ်၊ ပဋ္ဌဒ္ဒါရ၊ ကျလိမ့်နည်း" ဟူသောအမေးပုစ္ဆာ၏ အဖြေဝိသဇ္ဇနာကား- အမိဝမ်း အတွင်း၌ ကိန်းအောင်းစဉ်အခါဝယ် ပဥ္စဒ္ဒါရဝီထိမကျဘဲ ဘုရားလောင်းစသည်တို့အား မနောဒ္ဒါရဝီထိကျ၏။ တစ်ပါးသောပုဂ္ဂိုလ်တို့အား မနောဒ္ဒါရဝီထိမျှမကျဟူပေ။

အဘယ်ကိုထောက်၍ ဆိုသနည်းဟူငြားအံ့ -

တထာဟိ လောကိယမနုဿာ မာတုကုစ္ဆိယံ ပဋိသန္ဓိံ

ဂဏှန္တာစ ဝသန္တာစ နိက္ခမန္တာစ နဇာနန္တိ၊

သမ္ဗုဒ္ဓာ ဟောန္တိ၊ စရိမဘဝိကာနံ ခယေဝ ဗောဓိ

သတ္တာနံ မာတုကုစ္ဆိယံ ဩက္ကမနေ တတ္ထပါသေ

နိက္ခမနေစာတိ တီသုကာလေသု သမ္ပဇာနနာ ဟောတိ။

-အစရှိသည်ဖြင့်လာသော ဿာရတ္ထသင်္ဂဟပါဠ်ကို ထောက်၍သိရာ၏-ဟူပေ။

အနက်ကား။ ။ တထာတံဝစနံ- ထိုစကားကို။ ဟိ- ထင်စွာဆိုလိုက်ဦးအံ့။ လောကိယမနုဿာ- လောကီဖြစ်သော သူတို့

သည်၊ မာတုကုစ္ဆိယံ- အမိဝမ်း၌၊ ပဋိသန္ဓိ ဂဏှန္တာစ- ပဋိသန္ဓေ ယူသည်တို့ကိုလည်းကောင်း၊ တတ္ထ- ထိုအမိဝမ်း၌၊ ဝသန္တာစ- နေရသည်ကိုလည်းကောင်း၊ နိက္ခမန္တာစ- ဖွားသည်တို့ကိုလည်း ကောင်း၊ နဇာနန္တိ- မသိကုန်။

သမ္မုဠှာ-ပြင်းစွာတွေဝေကုန်သည်၊ ဟောန္တိ-ဖြစ်ကုန်၏။ စရိမဘာဝိကာနံ- အဆုံးစွန်သောဘဝ၌ဖြစ်ကုန်သော၊ ဗောဓိ သတ္တာနံယေဝ- ဘုရားလောင်းတို့အားသာလျှင်၊ မာတုကုစ္ဆိယံ- အမိ ဝမ်းသို့၊ ဩက္ကမနေ-သက်ဝင်ခြင်း၌လည်းကောင်း၊ တတ္ထဝါသေ- ထိုအမိဝမ်း၌ ကိန်းအောင်သောအခါ ၌လည်းကောင်း၊ နိက္ခမနေစ- ဖွားသောအခါ၌လည်းကောင်း၊ ဣတိ-ဤသို့၊ တိသုကာလေသု- သုံးပါးသောအခါတို့၌၊ သမ္ပဇာနနာ- ဆင်ခြင်နိုင်ခြင်းသည်၊ ဟောတိ-ဖြစ်၏။

အသီတိမဟာသာဝကာ၊ ရှစ်ကျိပ်သောမဟာသာဝကတို့ သည်၊ ပဝိသန္တာစ- ဝင်သည်ကိုသာလျှင်၊ ဇာနန္တိ- သိကုန်၏။ ဝသန္တာစ- နေရသည်ကိုလည်းကောင်း၊ နိက္ခမန္တာစ- ဖွားရသည်ကို လည်းကောင်း၊ နဇာနန္တိ- မသိကုန်။ ဒွေအဂ္ဂသာဝကာစ- နှစ်ပါး သောအဂ္ဂသာဝကတို့သည်လည်းကောင်း၊ ပစ္စေကဗောဓိသတ္တာစ- ပစ္စေကဗုဒ္ဓါအလောင်းတို့သည်လည်းကောင်း၊ ပဝိသန္တာစ- ဝင်သည် ကိုလည်းကောင်း၊ ဝသန္တာစ- နေသည်ကိုလည်းကောင်း၊ ဇာနန္တိ- သိကုန်၏။ နိက္ခမန္တာ-ဖွားသည်တို့ကို၊ နဇာနန္တိ- မသိကုန်။

ဗောဓိသတ္တာပန- ဘုရားလောင်းတို့သည်ကား၊ အနန္တော ကုစ္ဆိဂတေ- မယ်တော်ဝမ်း၌ နေရလတ်သော်၊ မာတရံ-မယ်တော်

ကို၊ နပဿန္တိ- မမြင်ကုန်၊ ဟိကသ္မာ- အဘယ့်ကြောင့်နည်းဟူမူ ကား၊ အန္တောကုစ္ဆိယံ-ဝမ်းတွင်း၌၊ စက္ခုဝိညာဏံ- စက္ခုဝိညာဏ် သည်၊ နဥပ္ပဇ္ဇတိ-မဖြစ်။

-ဟူ၍ မဟာပဓာနသုတ်အဋ္ဌကထာ၌ တိုက်ရိုက်လာသည်

ထို့ကြောင့် အမိဝမ်း၌နေရသောသူအား ပဋ္ဌဒွါရဝီထိမကျ၊ ဝင်သည်ကိုလည်းကောင်း၊ နေရသည်ကိုလည်းကောင်း သိသော ဘုရားလောင်းတို့မှသာ မနောဒွါရဝီထိကျ၏ဟု သိရသည်။

**ပြဿနာဖြစ်ရသည့်အချက်**

အထက်ပါအဖြေကား စွယ်စုံကျော်ထင်ကျမ်းလာကျီးသဲ လေးထပ်ဆရာတော်၏ မူရင်းအဖြေဖြစ်ပါသည်။ ဤအဖြေ၌ပြဿနာ ဖြစ်ရသည့်အချက်မှာ"အမိဝမ်း၌ကိန်းအောင်းစဉ်အခါဝယ် ပဋ္ဌဒွါရ ဝီထိမကျဘဲ ဘုရားလောင်းစသည်တို့အား မနောဒွါရဝီထိကျ၏။ တစ်ပါးသောပုဂ္ဂိုလ်တို့အား မနောဒွါရဝီထိမျှမကျ"-ဟူသော အချက်ပင်ဖြစ်ပါသည်။

**ကျမ်းညွှန်းအပြေ**

"ဝမ်းတွင်းအောင်းစဉ်၊ ဝီထိယှဉ်၊ ပဋ္ဌဒွါရကျလိမ့်နည်း" -ဟူသော သတ်ပုံသံပေါက်မေးခွန်းနှင့် စပ်၍ဖြေဆိုသော စွယ်စုံ ကျော်ထင်ကျမ်းလာ အထက်ပါမူရင်း အဖြေသည်သဘာဝယုတ္တိ မရှိသောအဖြေဖြစ်၏။ အဘယ့်ကြောင့် ဆိုသော် အဘိဓမ္မာဝီထိ ဆိုင်ရာပုစ္ဆာကို အဘိဓမ္မာဝီထိဆိုင်ရာကိုကြည့်၍ မဖြေဘဲ၊ သုတ္တန် ဖြင့်ဖြေဆိုထားသောကြောင့် လည်းကောင်း၊ ထို့ပြင်ပုဒ်စဉ်နံပါတ် (၆၈) အခန်း(၁)မိဝမ်းတဲလွယ်၊ အားသူငယ်၊ ကျဖွယ်ဝီထိ၊ ဘယ်မျှ

နည်း-အဖြေ၌ "ဘုရားလောင်းစသည်တို့အား ကာယဒွါရဝီထိတို့သည်ဖြစ်သင့်သည်ဟု ဖြေဆိုခဲ့၏။ ယခုဤအဖြေ၌ ပဥ္စဒွါရဝီထိမကျ မနောဒွါရဝီထိတစ်မျိုးသာကျ၏ဟု ဖြေဆိုထားပြန်သည်။ ဤသို့ရှေ့အဖြေနှင့်နောက်အဖြေတို့ ညီညွတ်မှုမရှိသောကြောင့်လည်းကောင်း၊ ဤအဖြေများသည်သဘာဝမကျယုတ္တိမရှိသောအဖြေများဖြစ်သည်ဟုဆိုခြင်း ဖြစ်ပါသည်။

ဝမ်းတွင်းအောင်းစဉ်စသော မေးခွန်းနှင့်စပ်၍ သဘာဝယုတ္တိရှိသော အဖြေများကို ပုဒ်စဉ်နံပါတ် (၆၈)အခန်း(၁) မိဝမ်းထဲလွယ် စသည့် သတ်ပုံသံပေါက်လင်္ကာအဖြေ၌ အမိဝမ်းတွင်းသူငယ် သည် ပဥ္စဒွါရဝီထိတွင်သောတဒွါရဝီထိ, ဇိဝှါဒွါရဝီထိနှင့် ကာယ ဒွါရဝီထိ စိတ်များဖြစ်နိုင်ပုံ၊ ကျနိုင်ပုံတို့ကို အပြည့်အစုံစိစစ်၍ ဖြေဆိုခဲ့ပေပြီ၊ အဖြေမှန်ကိုယင်းအဖြေ၌ ကြည့်ရှုကြပါကုန်။ ဤ၌ ကျမ်းလေးမည် စိုး၍ ထပ်၍မဖြေဆိုတော့ပြီ။ ။



# အခန်း(၁၄)

## မဖွားမီစဉ်၊ ကုသိုလ်ယှဉ်၊ အယဉ်ဝမ်းတွင်း ဖြစ်လိမ့်နည်း။ (၉၇၇)

### မူရင်းအဖြေ

"မဖွားမီစဉ်၊ ကုသိုလ်ယှဉ်၊ အယဉ်ဝမ်းတွင်းဖြစ်လိမ့်နည်း" ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား-

ဒါန၊ သီလ၊ ဘာဝနာ၊ အပစာယန၊ ဝေယျာဝစ္စ၊ ပတ္တိဒါန၊ ပတ္တာနုမောဒန၊ ဓမ္မသဝန၊ ဓမ္မာဒေသနာ၊ ဒိဋ္ဌိဇုကမ္မတည်းဟူသော ပုညကိရိယာဝတ္ထုတို့ကို အာရုံပြု၍ဖြစ်သော ကုသိုလ်စိတ်မူကား ဝမ်း၌ကိန်းရသော သူငယ်ဟူသမျှမဖြစ်၊ ပဋိသန္ဓေနေသည်ကိုလည်းကောင်း၊ ဖွားသည်ကိုလည်းကောင်း သိတော်မူသော ဘုရားလောင်းစသည်တို့၌ကား ကုသိုလ်စိတ်ဖြစ်၏။ အဘယ့်ကြောင့်နည်းဟူမူ ထိုပုဂ္ဂိုလ်တို့သည်မဟာကုသိုလ်စိတ်ဖြင့်သာလျှင် ထိုအခြင်းအရာကိုသိလေသောကြောင့်တည်း၊ ဝမ်း၌မဖွားမီစုတေရသောသူအား မရဏာသန္နဇောသည်ဖြစ်သင့်ရကား ထိုဇော၌ကုသိုလ်စိတ်သော်လည်းကောင်း၊ အကုသိုလ်စိတ်သော်လည်းကောင်း ဖြစ်သင့်၏။ ယင်းသို့ဖြစ်သင့်သော်လည်း ကျမ်းဂန်၌ တိုက်ရိုက်မပြသောကြောင့် မုချမဆိုသာဖြစ်သည်။

## ပြဿနာဖြစ်ရသည့်အချက်များ

ဤအဖြေကား မူရင်းစွယ်စုံကျော်ထင်ကျမ်း၌ လာသော အဖြေဖြစ်သည်။ ဤအဖြေ၌ပြဿနာဖြစ်ရသည့်အချက်ကို လိုရင်းမျှကောက်ယူဖော်ပြရလျှင် "အမိဝမ်း၌ကိန်းရသော သူငယ်ဟူသမျှ ကုသိုလ်စိတ်မဖြစ်၊ ဘုရားလောင်းစသည်တို့ကား ကုသိုလ်စိတ်ဖြစ်၏။ ဝမ်း၌မဖွားမီစုတေသူအား မရဏာသန္နဇောသည် ကုသိုလ်၊ အကုသိုလ်ဖြစ်သင့်သော်လည်း ကျမ်းဂန်၌ တိုက်ရိုက်မပြသော ကြောင့် မုချမဆိုသာ"ဟူသော အချက်များပင်ဖြစ်ပါသည်။

## ပြဿနာရှင်းလင်းချက်

အမှန်စင်စစ် အမိဝမ်း၌ကိန်းအောင်းသောသူငယ်တို့ သည်လည်းကောင်း၊ ဘုရားလောင်းစသည်တို့သည် လည်းကောင်း ကုသိုလ်စိတ်ဖြစ်နိုင်၏ဟူ၍သာ ဖြေဆိုသင့်ပါသည်။ ထို့ပြင်ဝမ်း၌ မဖွားမီစုတေသူအား မရဏာသန္နဇောသည်ကုသိုလ် စိတ်ဖြစ်နိုင်၏။ ကျမ်းဂန်၌တိုက်ရိုက်ပြဆိုချက်ရှိ၏ဟူ၍သာ ဖြေဆိုသင့်ပါသည်။ သို့မှသာ ပုစ္ဆကအာဘော်လည်းကျ၊ အဘိဓမ္မာသဘာဝလည်းကျ၊ အဘိဓမ္မာကျမ်းဂန်တို့နှင့်လည်း ကိုက်ညီမည်ဖြစ်ပါသည်။

အဘယ့်ကြောင့်ဆိုသော် ဤပုစ္ဆာသည်အမှတ်စဉ် (၉၇၆) " ဝမ်းတွင်းအောင်းစဉ်၊ ဝီထိယှဉ်၊ ပဋ္ဌာဒါရကျလိမ့်နည်း"- ဟူသော ပုစ္ဆာ၏နောက်ဆက်တွဲ အဘိဓမ္မာဉာဏ်စမ်း ပုစ္ဆာဖြစ်သောကြောင့် ပင်ဖြစ်ပါသည်။

မှန်ပါသည်။ ဤပုစ္ဆာသည် အမှတ်စဉ် (၉၇၆)ပုစ္ဆာနှင့် ဆက်စပ်မှုရှိသည်။ (၉၇၆) ပုစ္ဆာ၏အဖြေ၌ အမိဝမ်းတွင်းကိန်း

အောင်းသောပုဂ္ဂိုလ်သည် ဝိထိစိတ်ဖြစ်သည်ဟု ဖြေဆိုခဲ့လျှင် ဤပုစ္ဆာ၏အဖြေ၌လည်း "အမိဝမ်းတွင်းကိန်းအောင်းသောပုဂ္ဂိုလ်သည်ကုသိုလ်စိတ်ဖြစ်၏"ဟူ၍ဖြေဆိုရပေမည်။ ဤသို့ပုစ္ဆာ(၂)ခု၏ အဖြေသည် ဆက်စပ်လျက်ရှိနေ၏။ ဤပုစ္ဆာ၏ အဖြေသည် (၉၇၆) ပုစ္ဆာ၏အဖြေပေါ်၌မူတည်နေ၏။

ဤသို့ဖြစ်ရခြင်းမှာ ပုစ္ဆကဆရာတော်သည်ဝမ်းတွင်းအောင်းပုဂ္ဂိုလ်တို့၏ ဝိထိစိတ်ဖြစ်ပုံကို (၉၇၆)မေးခွန်းဖြင့် ပုစ္ဆာပြုလုပ်ဖော်ထုတ်ပြဆိုပြီး၍ တစ်ဖန်ထိုဝိစိတ်တို့၌ ကုသိုလ်စိတ်ပါနိုင်ပုံကိုဝိသဇ္ဇနာပုဂ္ဂိုလ်တို့၏ အဘိဓမ္မာဉာဏ်စွမ်းဖြင့် ဖော်ထုတ်ဖြေဆိုပြီးပြစေလိုသောကြောင့် "မဖွားမီစဉ်၊ ကုသိုလ်ယှဉ်၊ အယဉ်ဝမ်းတွင်းဖြစ်လိမ့်နည်း-မမွေးဖွားမီ အမိဝမ်းတွင်းအောင်းစဉ်အချိန်၌ယဉ်ကျေးသိမ်မွေ့သည့်ကောင်းမှုကုသိုလ်ဖြစ်ပါသလား" ဟူသောဉာဏ်စမ်းပုစ္ဆာကို တစ်ဆက်တည်းပြုလုပ်မေးမြန်းထားခြင်းကြောင့်ပင် ဖြစ်ပါသည်။

သို့ဖြစ်၍ (၉၇၆) ပုစ္ဆာအဖြေ၌အမိဝမ်းတွင်း အောင်းသောပုဂ္ဂိုလ်သည် ဝိထိစိတ်ဖြစ်၏ဟူ၍ ဖြေဆိုခဲ့သောကြောင့် ဤပုစ္ဆာအဖြေ၌လည်း "အမိဝမ်းတွင်းကိန်းအောင်း သောပုဂ္ဂိုလ်သည် ကုသိုလ်စိတ်ဖြစ်နိုင်၏"ဟူ၍ ဖြေဆိုခြင်းဖြစ်ပါသည်။

ဝမ်းတွင်းအောင်းသူငယ်၏ ဝိထိစိတ်ဖြစ်ပုံကို အမှတ်စဉ် (၉၇၆)အဖြေ၌ ဖော်ပြပြီးဖြစ်၏။ သို့သော် "မြဲရာသံပတ်" ဆိုသည့်စကားအတိုင်း ခိုင်မြဲအောင်ထပ်မံဖော်ပြရလျှင်-

"မန္ဒပ္ပဝတ္တိယံ ပန မရဏကာလာဒီသု ပဉ္စဝါရမေဝ"

ဟူသော သင်္ဂဟပါဌ်အရ သေခါနီးကာလမရဏာသန္နဝီထိ အစရှိသည်တို့၌ ဇော(၅)ကြိမ်စောသည်ဟု အာဒိသဒ္ဒါဖြင့်ဆိုထားသည်ကို တွေ့ရပါသည်။ ၎င်းအာဒိသဒ္ဒါဖြင့် ယူရမည့်အခါတို့သည်။

"မရဏကာလာဒီသုတိ မရဏာသန္နကာလေ၊ မုစ္ဆာကာလေ ဝိညတ္တိဘူတကာလေ၊ အတိတရုဏကာလေစ(ပ) အတိတရုဏကာလောနာမ ဂဗ္ဘဂတဿ ဝါ သမ္ပတ္တိ ဇာတဿဝါ ဒါရကဿ အန္တတ္တ ဝတ္ထုနံ အတိမုဒုကာလောစ"ဟူသောပရမတ္ထဒီပနီစသော ကျမ်းဂန်များမိန့်ဆိုချက်နှင့်အညီ- ဖွဲ့ဆိုထားသည့်-

"မရဏကာလာ၊ အာဒိမှာဖြင့်၊ မုစ္ဆာတစ်ရှိ၊ ဝိသညိနှင့်၊ အတိတရုဏာ၊ စသည်ကာလ၊ ဟူသမျှ၊ ယူရမှတ်လေလော့"- ဟူသောအခြေပြုသင်္ဂြိုဟ်လင်္ကာအရ-

(၁) သစ်ပင်မှကျခြင်း၊ ရေနစ်မွန်းခြင်း၊ အနာရောဂါပြင်းစွာနှိပ်စက်ခြင်းတို့ကြောင့် မိန်းမောတွေဝေနေသော မုစ္ဆာကာလ။

(၂) အလမ္ဗုသာနတ်သမီးအတွေ့ကြောင့် ဣသိသိင်္ဂရသေ့မေ့သကဲ့သို့ဖြစ်သောကာလ၊ နတ်ဘီလူး၊ ပြိတ္တာတို့ဖမ်းစားသဖြင့်မေ့နေရာအခါ၊ အရက်မူးလွန်၍ မေ့သောအခါဤသို့စသည်ဖြင့်ပကတိရိုးရာအမှတ်သညာမျိုးမှကင်းသော ဝိသညီဘူတကာလ။

(၃) အမိဝမ်း၌ကိန်းအောင်းစဉ်အခါနှင့် ဖွားပြီးစအခါဟူသောအလွန်နုနယ်သောအတိတရုဏကာလ စသည်တို့ကိုယူရပါမည်။

ဆိုလိုသည်မှာ မရဏာသန္နအခါ၌ဇော(၅)ကြိမ်စောသကဲ့သို့ဒုက္ခဝေဒနာနှိပ်စက်၍ တွေဝေမိန်းမောမေ့မျောသောအခါ၊ နှစ်သက်မှုပီတိအဟုန်ကြောင့်ဖြစ်စေ၊ နတ်ဘီလူးဖမ်းစားသောကြောင့်

ဖြစ်စေ၊ အရက်မူးလွန်သောကြောင့်ဖြစ်စေ၊ သတိလစ်၍မေ့နေသောအခါ၊ အိပ်မက်မက်သောအခါ၊ အမိဝမ်းတွင်းကိန်းအောင်းစဉ်အခါအမိဝမ်းတွင်းမှ မွေးဖွားစအခါမျိုးတို့၌လည်းဇော (၅)ကြိမ်စောသည်ဟုဆိုလိုပါသည်။[၁]

ထိုသို့ဇော(၅)ကြိမ်စောရာအခါတို့တွင် "အတိတရဏကာလေနာမ ဂဗ္ဘဂတဿဝါ"ဟူ၍ အမိဝမ်းတွင်းအောင်း သတ္တဝါအထင်အရှားပါဝင်နေကြောင်း ပြဆိုထား၍ အမိဝမ်းတွင်းအောင်းသတ္တဝါသည် အမိဝမ်းတွင်း၌ပင် ဇော(၅)ကြိမ်အထိစောနိုင်သောပဉ္စဒွါရ၊ မနောဒွါရဝီထိများ ဧကန်ဖြစ်၏။ ဟုအသေအချာမှတ်ယူသင့်ပါသည်။ ထို့ပြင် အမိဝမ်းတွင်း၌ပင် မဖွားမီသေဆုံးနိုင်သောကြောင့်ဇော(၅)ကြိမ်စောသောမရဏာသန္နဝီထိများလည်း အမိဝမ်းတွင်း၌ဧကန်ဖြစ်နိုင်ကြောင်းသိရပါသည်။

ယင်းသို့အမိဝမ်းတွင်းအောင်းသတ္တဝါသည် ဇော(၅)ကြိမ်အထိ စောနိုင်သော ပဉ္စဒွါရဝီထိ၊ မနောဒွါရဝီထိ၊ မရဏာသန္နဝီထိများဖြစ်နိုင်သောကြောင့် အမိဝမ်းတွင်းအောင်းသူငယ်သည် ကုသိုလ် စိတ်ဖြစ်နိုင်၏-ဟူ၍ ဖြေဆိုခဲ့ခြင်းဖြစ်ပါသည်။

မှန်ပါသည် ဇောစောသောဝီထိစိတ်များဖြစ်လျှင် ကုသိုလ်စိတ်ဖြစ်သည်ဟူ၍သာဆိုရပေမည်။ အဘယ့်ကြောင့်ဆိုသော် ဇောစိတ်၌ ကုသိုလ်စိတ်များပါဝင်နေသောကြောင့် ဖြစ်ပါသည်။

ဇောဟူသည် အဟုန်ပြင်းစွာပြေးသွားသူကဲ့သို့ ထိုထိုအမှုကိစ္စကိုပြီးမြောက်စေသောအားဖြင့် တစ်ကြိမ်သော်လည်းကောင်း၊ အကြိမ်များစွာသော်လည်းကောင်း၊ အဟုန်ပြင်းစွာဖြစ်တတ်သော

၁။ ပရမတ္ထဒီပနီ-၁၈၅၊ ဝိသုဒ္ဓိ-၂၊ ၁၈၁-၁၈၂။ဝိသုဒ္ဓိ- ၂၁၃၃၊ သင်္ဂဟ-၆၆၊ ဝိဘာဝိနီ-၁၅၅။ သင်္ဂြိုဟ်ဘာသာဋီကာ-၂၆၈။ အခြေပြုသင်္ဂြိုဟ်-၂၃၃-၂၃၄။

ကြောင့် အာဝဇ္ဇန်းဒွေးကြဉ်သောကုသိုလ်၊ အကုသိုလ်၊ ဖိုလ်၊ ကြိယာ စိတ်(၅၅)ပါးကို "ဇော"ဟု ခေါ်ဆိုပါသည်။[၁]

ထိုဇောစိတ်တို့တွင် ကာမဇောတစ်ခုယုတ် (၃၀)တို့သည် ကာမဇောဝီထိဝယ် ပကတိရိုးရာအခါ၌ (၇)ကြိမ်ဖြစ်စေ (၆)ကြိမ် ဖြစ်စေစောကြသည်။ သေခါနီးစသည်တို့၌ (၅)ကြိမ်စောကြသည်။ ရေ၊ မီးအစုံစသော တန်ခိုးပြာဋိဟာကိုပြသော အခါစသည်တို့၌ တိက္ခိန္ဒြိယပုဂ္ဂိုလ်အား (၄)ကြိမ်၊ မုဒိန္ဒြိယပုဂ္ဂိုလ်အား (၅)ကြိမ်စော ကြသည်။[၂]

အပ္ပနာဝီထိ၌ မဟာကုသိုလ်၊ ကြိယာဉာဏသမ္ပယုတ်ဇော တို့သည် ပရိကံ၊ ဥပစာ၊ အနုလုံ၊ ဂေါတြဘု (ဝေါဒါန်)ဟူသော အမည်ဖြင့် ခိပ္ပာဘိညပုဂ္ဂိုလ်အား (၃)ကြိမ် ဒန္ဓာဘိညပုဂ္ဂိုလ်အား (၄)ကြိမ်စောကြသည်။[၃]

အပ္ပနာဇောတို့တွင် ဖိုလ်ဇောတို့သည် မဂ္ဂဝီထိ၌ (၂)ကြိမ် (၃)ကြိမ်စောသည်။ နိရောဓသမာပတ်ဝင်စားခါနီးအခါ နေဝသညာ နာသညာယတနကုသိုလ်, ကြိယာဇောတို့သည် (၁)ကြိမ် (၂)ကြိမ် စောကြသည်။ ဈာန်ရခါစ အာဒိကမ္မိကပုဂ္ဂိုလ်၏ ဈာနဝီထိ၌ မဟဂ္ဂုတ်ဇောတို့သည်လည်းကောင်း၊ မဂ်ဇောတို့သည်လည်း ကောင်း၊ နိရောဓသမာပတ်မှထသောအခါ အနာဂါမိဖိုလ်ဇော၊ အရဟတ္တဖိုလ်ဇောတို့သည်လည်းကောင်း(၁) ကြိမ်သာ စောကြ သည်။ ဈာနသမာပတ္တိဝီထိ၌ မဟဂ္ဂုတ်ဇောတို့သည်လည်းကောင်း၊

၁။ ဝိဘာဝိနီ-၁၂၅။ မဏိမဥ္ဇူ-၁၊၃၈၅၊၃၉၀၊ သင်္ဂဟ၊ ၃၇။
၂။ ဝိသုဒ္ဓိ-၁၊ ၁၄၉၊ ဝိသုဒ္ဓိဋီ-၁၊ ၁၇၉၊သင်္ဂဟ-၆၆၊ဝိဘာဝိနီ-၁၅၅။
၃။ သင်္ဂဟ-၆၂၊ဝိဘာဝိနီ-၁၄၈။

ဖလသမာပတ္တိဝီထိ၌ ဖိုလ်ဇောတို့သည်လည်းကောင်း အကြိမ်များစွာစောကြသည်။[၁]

ယင်းသို့စောကြရာတွင် ကာမဇောဝီထိပုထုဇဉ်သေက္ခပုဂ္ဂိုလ်တို့၏သန္တာန်၌ အယောနိသောမနသိကာရရှိမှု အကုသိုလ်ဇောတစ်ပါးပါးစော၏။ ယောနိသောမနသိကာရရှိမှု ကုသိုလ်ဇောတစ်ပါးပါးစော၏။ ရဟန္တာပုဂ္ဂိုလ်တို့၏သန္တာန်၌မူ ကြိယာဇောတစ်ပါးပါးစော၏။ ထိုတွင် အမိဝမ်းတွင်းအောင်းပုဂ္ဂိုလ်သည် ရဟန္တာပုဂ္ဂိုလ်မဖြစ်သေး။ ပုထုဇဉ်နှင့်သေက္ခသာဖြစ်နိုင်သောကြောင့် ကုသိုလ်ဇောနှင့်အကုသိုလ်ဇောသာ စောနိုင်ပါသည်။ ထို့ကြောင့် အမိဝမ်းတွင်းအောင်း ပုဂ္ဂိုလ်သည် ကုသိုလ်စိတ်ဖြစ်သည်ဟူ၍ ဖြေဆိုခဲ့ခြင်းဖြစ်ပါသည်။

ထို့ပြင် သစ္စသံခိပ်၌-

"အပ္ပဟီနေဟိ သေသာနံ ဆာဒနံနာမနမ္ဟိစ၊
ခိပကာပနသင်္ခါရာ ကုသလာဝ ဘဝန္တိဟ။

အနက်။ ။သေသာနံ- သုဂတိသို့လားသည့်သူတို့အား၊ အပ္ပဟီနေဟိ-မဂ်ဖြင့်မပယ်ရသေးသော အဝိဇ္ဇာတဏှာတို့သည်၊ ဆာဒနံ- အာရုံ၏အပြစ်ကို ဖုံးလွှမ်းခြင်းသည်လည်းကောင်း၊ နာမနမ္ဟိစ-ညွတ်စေခြင်းသည်လည်းကောင်း၊ ဟောတိ- ဖြစ် ၏။ ခိပကာပနသင်္ခါရာ- ပစ်ချတတ်သောသင်္ခါရတို့သည်ကား၊ ဣဟ- ဤသုဂတိသို့လားရာ၌၊ ကုသလာဝ-မရဏာသန္နဇောနှင့်တကွဖြစ်သောကုသိုလ်ကံတို့သည်သာလျှင်၊ ဘဝန္တိ-ဖြစ်ကုန်၏။[၂]

---

၁။ ဝိသုဒ္ဓိ-၁၊ ၁၃၄-၁၃၅၊ ၃၈၂၊ သင်္ဂဟ ၆၇-၈၊ ၂။ သစ္စသံခိပ်-၄-၁၆၅။

-ဟူသော မိန့်ဆိုချက်အရ စုတေသောပုဂ္ဂိုလ်သည် သုဂတိသွားမည့်သူဖြစ်အံ့၊ မရဏာသန္နဇောသည် ကုသိုလ်ဇောစော၏။ ဒုဂ္ဂတိသွားမည့်သူဖြစ်အံ့၊ မရဏာသန္နဇောသည် အကုသိုလ်ဇောစော၏-ဟူ၍ သိရပါသည်။ သို့ဖြစ်၍ အမိဝမ်းတွင်း၌ စုတေသောပုဂ္ဂိုလ်သည်လည်း သုဂတိသွားမည့်သူဖြစ်လျှင် ကုသိုလ်ဇောစောကြောင်းမှာ ထင်ရှားပါသည်။ ထို့ကြောင့် အမိဝမ်းတွင်းအောင်းသူငယ်သည် ကုသိုလ်စိတ်ဖြစ်နိုင်ကြောင်းဖြေဆိုခဲ့ခြင်းဖြစ်ပါသည်။

ဎင်းပြင်အမိဝမ်းတွင်း သေဆုံးသူ၏မရဏာသန္နဝီထိကို အကြမ်းဖျဉ်းအားဖြင့် ချကြည့်လျှင် ဘဝင်္ဂလစန၊ ဘဝင်္ဂုပစ္ဆေဒ၊ မနောဒွါရာဝဇ္ဇန်း၊ ဇော(၅)ကြိမ်၊ တဒါရုံနှစ်ကြိမ်၊ ဘဝင်၊ စုတိဟူသော စိတ်အစဉ်ကို တွေ့ရပေမည်။ ယင်းစိတ်အစဉ် ဖြစ်ပုံကိုပဋ္ဌာန်း၊ ပစ္စယနိဒ္ဒေသပါဠိတော် အနန္တရပစ္စည်း၌ အပြည့်အစုံဟောတော်မူခဲ့ပါသည်။

ဟောတော်မူပုံမှာ -

(၁) ပုရိမာပုရိမာ ကုသလာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ ကုသလာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။

(၂) ပုရိမာပုရိမာ ကုသလာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ အဗျာကတာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။

(၃) ပုရိမာပုရိမာ အကုသလာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ အကုသလာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။

(၄) ပုရိမာပုရိမာ အကုသလာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ အဗျာကတာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။

(၅) ပုရိမာပုရိမာ အဗျာကတာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ အဗျာကတာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။
(၆) ပုရိမာပုရိမာ အဗျာကတာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ ကုသလာနံ ဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။
(၇) ပုရိမာပုရိမာ အဗျာကတာဓမ္မာ ပစ္ဆိမာနံ ပစ္ဆိမာနံ အကုသလာနံဓမ္မာနံ အနန္တရပစ္စယေနပစ္စယော။
- ဟူ၍ဖြစ်ပါသည်။

အဓိပ္ပါယ်ဆိုလိုချက်မှာ -

နံပါတ်(၁) ပါဠိတော်အရ မရဏာသန္နဝီထိစိတ်အစဉ်၌ မရဏာသန္နပဌမဇောကုသိုလ်က မရဏာသန္နဒုတိယဇောကုသိုလ်တရားဖြစ်ပေါ်အောင်ပြုလုပ်ပေး၏။ ဒုတိယဇောကုသိုလ်က တတိယဇောကုသိုလ်ဖြစ်ပေါ်အောင် ပြုလုပ်ပေး၏။ တတိယဇောကုသိုလ်ကစတုတ္ထဇောကုသိုလ် ဖြစ်ပေါ်အောင်ပြုလုပ်ပေး၏။ မရဏာသန္နစတုတ္ထဇောကုသိုလ်တရားက မရဏာသန္နပဥ္စမဇောကုသိုလ်တရားဖြစ်ပေါ်အောင် ပြုလုပ်ပေး၏ ယင်းသို့ပြုလုပ်ပေးခြင်းမျိုးကို ရှေးရှေးဖြစ်သောကုသိုလ်တရားက နောက်နောက်ဖြစ်သောကုသိုလ်တရားအား အနန္တရသတ္တိဖြင့် ကျေးဇူးပြုခြင်းဖြစ်သည်ဟုဆိုခြင်း ဖြစ်ပါသည်။

နံပါတ်(၂)ပါဠိတော်အရ မရဏာသန္နဝီထိစိတ်အစဉ်၌ ကုသိုလ်ဇောနောက်၌ တဒါရုံအဗျာကတတရားရှိ၏။ သို့ဖြစ်၍ မရဏာသန္နပဥ္စမဇော ကုသိုလ်တရားက တဒါရုံအဗျာကတ တရားဖြစ်ပေါ်အောင် ပြုလုပ်ပေး၏။ ယင်းကိုရှေးရှေးသော ကုသိုလ်

တရားက နောက်နောက်သော အဗျာကတတရားအား အနန္တရ သတ္တိဖြင့် ကျေးဇူးပြုသည်ဟုဆိုလိုပါသည်။

နံပါတ်(၃) နံပါတ်(၄) ပါဠိတော်အရလည်း ထို့နည်းတူပင် ဖြစ်ပါသည်-ကုသိုလ်ဇောနေရာမှာ အကုသိုလ်ဇောစိတ်ကို လဲလှယ် ထည့်ပေးရုံမျှသာ ထူးပါသည်။

နံပါတ်(၅)ပါဠိတော်အရ ယင်းဝီထိစိတ်အစဉ်၌ ဘဝင် စလနက ဘဝင်္ဂုပစ္ဆေဒကို၊ ဘဝင်္ဂုပစ္ဆေဒက မနောဒွါရာဝဇ္ဇန်းကို ဖြစ်ပေါ်လာအောင် အနန္တရသတ္တိဖြင့်ကျေးဇူးပြု၏။ ထို့ပြင် တဒါရုံက ဘဝင်ကို၊ ဘဝင်ကစုတိကို ဖြစ်ပေါ်လာအောင်အနန္တရ သတ္တိဖြင့်ကျေးဇူးပြုပါသည်။ ယင်းသို့ကျေးဇူးပြုသည်ကို ရှေးရှေး ဖြစ်သော အဗျာကတတရားကနောက်နောက်ဖြစ်သောအဗျာကတ တရားအား အနန္တရသတ္တိဖြင့် ကျေးဇူးပြုသည်ဟု ဆိုလိုပါသည်။

နံပါတ်(၆) ပါဠိတော်အရ မရဏာသန္နဝီထိစိတ်အစဉ်ဝယ် မနောဒွါရာဝဇ္ဇန်းနောက်၌ ပဉ္စမဇောရှိ၏။ သို့ဖြစ်၍ မနောဒွါရာ ဝဇ္ဇန်း အဗျာကတတရားက ပဉ္စမဇောကုသိုလ်အားဖြစ်ပေါ်လာ အောင်ပြုလုပ်ပေး၏။ ယင်းကို အဗျာကတတရားက ကုသိုလ်တရား အား အနန္တရသတ္တိဖြင့် ကျေးဇူးပြုခြင်းဖြစ်သည်ဟု ဆိုလိုပါသည်။

နံပါတ်(၇)ပါဠိတော်အရလည်း ထို့နည်းတူပင်ဖြစ်ပါသည်။ ကုသိုလ်နေရာ၌ အကုသိုလ်ကိုလဲလှယ်ထည့်ပေးရုံသာထူးပါသည်။

ဤသို့ဟောတော်မူသော အချက်များတွင် (၁)ရှေးရှေး သောကုသိုလ်တရားက နောက်နောက်သောကုသိုလ်တရားအား ကျေးဇူးပြုနိုင်ခြင်းတစ်ချက်။ (၂) ရှေးရှေးသော ကုသိုလ်တရားက

နောက်နောက်သောအဗျာကတတရားအား ကျေးဇူးပြုနိုင်ခြင်း တစ်ချက်။ (၃)ရှေးရှေးသောအဗျာကတတရားက နောက်နောက် သောကုသိုလ်တရားအား ကျေးဇူးပြုနိုင်ခြင်းတစ်ချက်။ ပေါင်း ကုသိုလ်(၃)ချက်ပါဝင်နေသည်ကို တွေ့ရပေမည်။ အခြားသော ပဉ္စဒွါရ၊ မနောဒွါရဝီထိစိတ်များ၌ ကုသိုလ်စိတ်ဖြစ်ပုံကိုလည်း ဤနည်း အတိုင်းပင်၊ အနန္တရသတ္တိဖြင့် ကျေးဇူးပြု၍ဖြစ်သည်ကို သိနိုင်ပါသည်။[၁]

ဤအချက်များသည် အမိဝမ်း၌မဖွားမီ စုတေရသော သူအား မရဏာသန္နဇောသည် ကုသိုလ်ဇောစိတ်ဖြစ်နိုင်ခြင်း၌ ခိုင်မာသော သာကေပြပါဠိ အထောက်အထားများပင် ဖြစ်ပါသည်။

သို့ဖြစ်၍ "ဝမ်း၌မဖွားမီ စုတေသူအား မရဏာသန္နဇော သည် ကုသိုလ်စိတ်သို့မဟုတ် အကုသိုလ်စိတ်ဖြစ်သင့်သော်လည်း ကျမ်းဂန်၌တိုက်ရိုက် မပြသောကြောင့် မုချမဆိုသာ"ဟူသော စကားကို မဆိုသင့်ပါ။ ပဋ္ဌာန်းကျမ်း ပစ္စယနိဒ္ဒေသ အနန္တရပစ္စည်း ၌ဘုရားရှင်တိုက်ရိုက်ဟောထား၍ ဝမ်း၌မဖွားမီစုတေသူအား မရဏာသန္နဇောသည် ကုသိုလ်ဇောစိတ် သို့မဟုတ် အကုသိုလ်ဇော စိတ်ဖြစ်သင့်၏ဟူ၍သာ မုချဆိုသင့်ပါသည်။ ဤစကားရပ်တို့ဖြင့် ဝမ်း၌ကိန်းအောင်းနေသူသည် ကုသိုလ်စိတ် ဖြစ်နိုင်သည်မှာ ထင်ရှား၏။ သို့ဖြစ်၍ "အမိဝမ်း၌ ကိန်းအောင်းသူတို့သည် ကုသိုလ် စိတ်ဖြစ်နိုင်၏"-ဟူ၍ ဖြေဆိုခဲ့ခြင်းဖြစ်ပါသည်။

သို့သော် အမိဝမ်းတွင်းအောင်းသောပုဂ္ဂိုလ်၏ ကုသိုလ် စိတ်သည် အလွန်အားနည်းသောကုသိုလ်စိတ်မျိုးဖြစ်သော

---

၁။ ဘိ၊ပါ-၈၊၃။ ဦးကျော်ထွတ်မဉ္ဇူသကပဋ္ဌာန်း၊စာ-နှာ-၈၆။

ကြောင့် အကျိုးမပေးနိုင်ပါ။ အမိဝမ်းတွင်း၌ဖြစ်သော ပဋ္ဌဒွါရဝီထိ၊ မနောဒွါရဝီထိ၊ မရဏာသန္နဝီထိစိတ်များသည် "မန္ဒပ္ပဝတ္တိယံ ပန မရဏာလာဝါဒီသု ပဉ္စဝါရမေဝ"-ဟူသော စကားအရ ဇော(၇)ကြိမ်တိုင်အောင် မဖြစ်နိုင်၊ ဇော(၅)ကြိမ်အထိသာ ဖြစ်နိုင်ကြ၏။ ထို့ကြောင့် အလွန်အားနည်းသည်ဟု ဆိုခြင်းဖြစ်ပါသည်။

ထိုသို့အားနည်းသောကုသိုလ်၊ အကုသိုလ်ကံသည် ပဋိသန္ဓေကျိုးကို မပေးနိုင်၊ အားကြီးသောကံမှသာ ပဋိသန္ဓေကျိုးကိုပေးနိုင်ပါသည်။ ဤအကြောင်းကို ကျမ်းဂန်တို့၌ ဖော်ပြကြသည်မှာ- ပရမတ္ထဒီပနီ၌ "ကမ္မံ သတ္တံ မာရေဿာမိ၊ ကမ္မံ ဘဏ္ဍံ အဒိန္နံ အာဒိယိဿာမိတိ အာဒိနာနယေန အာဒိတော ပဋ္ဌာယ ပဝတ္တာ ဗလဝပစ္စယေ လဒ္ဓါ ပဋိသန္ဓိံ အာကဍ္ဍန္တိ၊ အလဒ္ဓါနာကဍ္ဍန္တိယေဝတ္တာ" ဟူ၍ မိန့်ဆိုပါသည်။

အဓိပ္ပါယ်မှာ- "ဤသတ္တဝါကိုသတ်အံ့၊ အရှင်မပေးသော ဤဥစ္စာကို ခိုးယူအံ့ ဤသို့သောနည်းဖြင့် အစ၌ဖြစ်သော စေတနာသည် အားကြီးသောအကြောင်းကို ရအပ်သည်ရှိသော် ပဋိသန္ဓေကျိုးကိုပေးနိုင်၏။ မရအပ်သည်ရှိသော် (ဝါ) အားနည်းသည်ရှိသော် ပဋိသန္ဓေကျိုးကို မပေးနိုင်"ဟူ၍ ဆိုလိုပါသည်။[၁] ဤမိန့်ဆိုချက်အရ အမိဝမ်းတွင်း၌ ဖြစ်သောကုသိုလ်သည် အလွန်အားနည်း၍ ပဋိသန္ဓေကျိုးကို မပေးနိုင်ဟူ၍ ဆိုခြင်းဖြစ်၏။

ဝိဘာဝိနီဋီကာ၌လည်း "နဟိ တဒေဝ အာရမ္မဏံ ပဋ္ဌာယကံ တဒေဝ ပဋိသန္ဓိ ဇနကံ ဘဝေယျ ဥပစိတ ဘာဝါ ဘာဝတော အနုဿာဒိကတ္တာစ"[၂] -ဟူ၍ မိန့်ဆို၏။

---

၁။ ပရမတ္ထဒီပနီ၊ စာ-နှာ-၂၃၀။ ဗုဒ္ဓအဘိဓမ္မာ စေတသိက်များအဖွင့်၊ အတွဲ(၁)၊ စာ-နှာ-၂၀၂။ ၂။ ဝိဘာဝိနီ၊ စာ-နှာ-၁၇၈။

အနက်။ ။ ဟိ-မှန်လှစွာ၏။ တဒေဝ-ထိုမရဏာသန္နဇောသည်ပင်၊ အာရမ္မဏုပဋ္ဌာပကံ- အာရုံကိုထင်စေခြင်းသည်လည်းကောင်း၊ တဒေဝ- ထိုမရဏာသန္နဇောသည်သာလျှင်၊ ပဋိသန္ဓိဇနကံ- ပဋိသန္ဓေအကျိုးကိုဖြစ်စေခြင်းသည်လည်းကောင်း၊ နဘဝေယျ- မဖြစ်နိုင်ရာ၊ ကသ္မာ- အဘယ့်ကြောင့်နည်းဟူမူကား၊ ဥပစိတ ဘာဝါဘာဝတောစ- ဆည်းပူးသောအဖြစ်၏ မရှိသောကြောင့်လည်းကောင်း၊ အနုသာဒိကတ္တာစ- တဏှာဖြင့် မသာယာအပ်သည်၏ အဖြစ်ကြောင့်လည်းကောင်းတည်း။

ဆိုလိုသည်မှာ ဆည်းပူးမှုမရှိ၊ တဏှာဖြင့်သာယာမှုလည်းမရှိ၊ ဤအကြောင်းများကြောင့် မရဏာသန္နဇောသည် ပဋိသန္ဓေကျိုးကိုမဖြစ်စေနိုင်ဟု ဆိုလိုပါသည်။ ဤသို့ ပကတိသောလူပုဂ္ဂိုလ်တို့၏ မရဏာသန္နဇောသည် ပဋိသန္ဓေကျိုးကို မဖြစ်စေနိုင်လျှင် အမိဝမ်းတွင်း ပုဂ္ဂိုလ်၏ မရဏာသန္နဇောစသည်တို့သည် ပဋိသန္ဓေကျိုးမပေးနိုင်သည်ကိုကား ဆိုဖွယ်ပင် မရှိတော့ချေ။

ထို့ပြင်တစ်နည်းဆိုရသော် အမိဝမ်းတွင်း၌ဖြစ်သောကုသိုလ်သည် ကမ္မပထမြောက်သော ကုသိုလ်မျိုးမဟုတ်၍အကျိုးမပေးနိုင်ဟုဆိုရပေမည်။ မှန်ပါသည်။ အဋ္ဌသာလိနီ အဋ္ဌကထာ၌ "ကာယဝစီဒွါရေသု ဟိ စောပနံ ပတ္တာကမ္မပထံ အပ္ပတ္တိမ္ပိ အတ္ထိ၊ မနောဒွါရေစ သမုဒါစာရံ ပတ္တာ ကမ္မပထံ အပ္ပတ္တာမ္ပိ အတ္ထိ"ဟူ၍ဆို၏။

အဓိပ္ပါယ်မှာ- ကာယဒွါရဝစီဒွါရတို့၌ လှုပ်ရှားခြင်းသို့ရောက်ပါလျက် (ကိုယ်နှုတ် လှုပ်ရှားပါလျက်) အင်္ဂါမလုံလောက်၍ ကမ္မပထမမြောက်သောကံလည်းရှိ၏။ မနောဒွါရ၌ဖြစ်ခြင်းသို့ရောက်ပါလျှက် အင်္ဂါမလုံလောက်၍ ကမ္မပထမမြောက်သောကံလည်းရှိ၏။ ဟူ၍ဆိုလိုပါသည်။

ထိုသို့ ပကတိသောလူတို့၏ လှုပ်ရှားမှုရှိသော ကိုယ်မှု၊ နှုတ်မှု၊ စိတ်မှုတို့သော်မှ အင်္ဂါမညီ၍ ကမ္မပထမမြောက်သော အရာရှိခဲ့လျှင် အမိဝမ်းတွင်းသူငယ်၏ လှုပ်ရှားမှုမရှိသောကိုယ်မှု၊ နှုတ်မှု၊ စိတ်မှုတို့ အင်္ဂါမညီ၍ ကမ္မပထ မမြောက်ပုံကိုကား ဆိုဖွယ်ရာ ပင်ရှိမည်မဟုတ်ချေ။ ထိုသို့ အမိဝမ်းတွင်းဖြစ်သော ကုသိုလ်စိတ်သည် ကမ္မပထ မမြောက်သောကုသိုလ်မျိုးဖြစ်၍ အကျိုးမပေးနိုင်သောကုသိုလ်မျိုးဖြစ်သည်ဟု ဆိုခြင်းဖြစ်ပါသည်။

**နိဂုံး**

ဆိုအပ်ပြီးသော ဤစကားအစဉ်ဖြင့် ကျီးသဲလေးထပ်ဆရာတော်သည် သူ၏(၉၇၆)ပုစ္ဆာအဖြေအရ အမိဝမ်းတွင်းအောင်း ပုဂ္ဂိုလ်သည် ပဉ္စဒွါရဝီထိလည်းမဖြစ်၊ မနောဒွါရဝီထိလည်း မဖြစ်ဟု ခံယူထားကြောင်း တွေ့ရ၏။ ယင်းခံယူချက်အရ အမိဝမ်းတွင်း၌ ဝီထိစိတ်များမဖြစ်လျှင် ဇောစိတ်များလည်း မဖြစ်နိုင်၊ ဇောစိတ်မဖြစ်လျှင် ကုသိုလ်စိတ်လည်း မဖြစ်နိုင်၍ ဤ(၉၇၇) အဖြေ၌၊ အမိဝမ်းတွင်းအောင်းပုဂ္ဂိုလ်သည် ကုသိုလ်စိတ်မဖြစ်နိုင်ဟူ၍ ဖြေဆိုခြင်း ဖြစ်ပါသည်။ အမှန်စင်စစ်အမိဝမ်းတွင်း၌ ပဉ္စဒွါရဝီထိနှင့် မနောဒွါရဝီထိတို့လည်း ဖြစ်နိုင်၏။ ဝမ်းတွင်း သေဆုံးနိုင်၍ မရဏာသန္နဝီထိလည်း ဖြစ်နိုင်ပါသည်။ ယင်းဝီထိစိတ်များဖြစ်လျှင် ဇောစိတ်များလည်း ဧကန်ဖြစ်နိုင်ကြ၏။ ထိုဇောစိတ်တို့၌ ကုသိုလ်စိတ်ပါဝင်နိုင်သောကြောင့် အမိဝမ်းတွင်းသူငယ်သည် ကုသိုလ်စိတ်ဖြစ်နိုင်၏ဟူ၍သာ ဖြေဆိုသင့်ပါသည်။ သို့မှသာ အဘိဓမ္မာသဘောတရားနှင့်လည်း ညီညွတ်ပြီး ပုစ္ဆကအာဘော်လည်း ကျမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။ ။

# အခန်း (၁၅)

## သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးဘယ်မျှရှိသနည်း။ (၁၀၅၃)

### မူရင်းအဖြေ

"သုဒ္ဓဋ္ဌရေး၊ ခေါက်၍မေး၊ ရုပ်သေးဘယ်မျှရှိသနည်း" ဟူသောအမေးပုစ္ဆာ၌ အဖြေဝိသဇ္ဇနာကား "ခေါက်၍မေးက၊ ရုပ်သေးအရ၊ သုဒ္ဓဋ္ဌနှင့်၊ နဝကလာပ်၊ သတ္တရသ်တွင်၊ ပိုင်းဖြတ်ခြင်းငှါ၊ အာကာသဓာတ်၊ ဆဲ့ငါးရုပ်လောင်း၊ ချင့်ပေါင်းရှုပ၊ ဒွတ္တိံသမှာ၊ သတ္တိရှာ၍၊ တာ-သုံးခုမြောက်၊ ထပ်လှော့က်လက္ခဏာ၊ လေးပါးလာက၊ တစ်ရာပြည့်ရိုး၊ လှူထိပ်မိုး"-ဟူသော ကဗျာဖြင့် သိရာ၏။

အဓိပ္ပါယ်ကား- စည်မျက်နှာစသည်၌ အဋ္ဌကလာပ်ရုပ် ၈-ခုရသည်။ ခေါက်၍အသံဖြစ်လတ်သော်သဒ္ဒနဝကကလာပ်ရသည်၊ နှစ်ရုပ်ကိုပေါင်းသော် တစ်ဆဲ့ခုနစ်ခုဖြစ်၏။ ထိုရုပ်တို့အကြား တစ်ဆဲ့ငါးခုသည် အာကာသဓာတ်ဟုဆိုအပ်သော ပရိစ္ဆေဒရုပ်ဖြစ်၏။ နှစ်ခုကိုပေါင်းသော် သုံးဆဲ့နှစ်ပါးရ၏။ ထိုကို လဟုတာ၊ မုဒုတာ၊ ကမ္မညတာ-ဟူ၍ ဝိကာရရုပ်သုံးခုနှင့် မြှောက်သော် ကိုးဆဲ့ခြောက်ပါးရ၏။ ထိုတွင် လက္ခဏာရုပ်လေးခုနှောလျှင် ရုပ်ပေါင်းတစ်ရာ

ပြည့်၏ ဟူလိုသည်။

## ကျမ်းညွှန်းအဖြေ

ဤအဖြေကား စွယ်စုံကျော်ထင်ကျမ်း၌လာသော အဖြေဖြစ်၏။ ဤအဖြေ၌ ပြဿနာဖြစ်ရသည့်အချက်များနှင့် သဘာဝကျ ယုတ္တိရှိသည့်အဖြေများကိုအခန်း(၅)ပုဒ်စဉ်နံပါတ်(၃၅၂) "သက်ရှိ ချင်းခတ်၊ မည်တုံလတ်၊ ရမှတ်ရပ်သေးဘယ်မျှနည်း"-ဟူသော သတ်ပုံ သံပေါက် လင်္ကာအဖြေ၌ပြဆိုခဲ့ပေပြီ။ အဖြေမှန်ကို ၎င်းအဖြေ၌ ကြည့်ရှုနိုင်ပါသည်။

## နိဂုံး

ဤမျှသောပြဿနာတို့ကို ရှင်းလင်းရေးသား ဖြေဆိုခဲ့ရသောစကားအစဉ်ဖြင့် "စွယ်စုံကျော်ထင်ကျမ်းလာ အဘိဓမ္မာဆိုင်ရာ ပြဿနာများ"အမည်ရှိသည့် ဤကျမ်းသည် ပြီးဆုံးခြင်းသို့ ရောက်ခဲ့ပေပြီ။ ဤကျမ်းကိုလွယ်ကူစွာရေးသားခဲ့ရခြင်းမဟုတ်ပေ။ အခက်အခဲအမျိုးမျိုးကြားမှ ပေါ်ထွက်ခဲ့ရသော ကျမ်းဖြစ်ပါသည်။ ကျမ်းပြုသူသည် ဤကျမ်းကိုရေးသားနေချိန်တွင် နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ်(ရန်ကုန်)၌ နယဒေသကတာဝန်နှင့် အဆောင်မှူးတာဝန်များကိုပါ ထမ်းဆောင်နေဆဲဖြစ်ပါသည်။ သို့ဖြစ်၍အဆောင်မှူးကိစ္စများအပြင် သာသနတက္ကသီလမဟာဓမ္မာစရိယတန်းနှင့် သာသနတက္ကသီလဓမ္မာစရိယတန်းတို့၌ သက်ဆိုင်ရာဘာသာရပ်စာပေများကို မပြတ်ပို့ချနေရ၏။ ထို့ပြင်တရားဟောခြင်း၊ စာစောင်တို့၌ ဆောင်းပါးများရေးသားခြင်း-စသည့်သာသနာ့တာဝန်များကိုလည်း မလွဲမရှောင်သာဆောင်ရွက်ရ၏။ ဤလုပ်ငန်း

ကိစ္စများကြားမှကျမ်းပြီးမြောက်အောင် အချိန်ရလျှင်ရသလို လုံ့လ ဝီရိယစွမ်းအားထုတ်၍အားသွန်ခွန်စိုက်ကြိုးပမ်းစီရင်တီထွင်ရေး သားခဲ့ရပေ၏။ ယင်းသို့အားထုတ်ကြိုးပမ်းခဲ့သည့်အားလျော်စွာယခု အချိန်၌ ကျမ်းတစ်စောင် ပေတစ်ဖွဲ့အဖြစ် ပြီးမြောက်အောင် မြင်ခဲ့ ၍ ပင်ပန်းရကျိုးနပ်ပေပြီဟု ဆိုရပေမည်။ အခက်အခဲကြားမှ ကြိုးစားအားထုတ်မှုစွမ်းအားကြောင့် ပေါ်ထွက်လာသည့်ကျမ်း ဖြစ်၍လည်း ကျမ်းပြုသူအနေဖြင့် အဖိုးမဖြတ်နိုင်သည့် ရတနာ တစ်ပါးပင် ဖြစ်သည်ဟူ၍ လွန်စွာကြည်နူးဝမ်းမြောက်မိပါသည်။

အဘိဓမ္မာတရားတော်များသည် လွန်စွာကျယ်ဝန်းပြီး ခက်ခဲနက်နဲသည့် တရားတော်များဖြစ်သည်။ ကျမ်းပြုသူရေးသား ဖြေဆိုခဲ့သည့်အကြောင်းအရာများသည် စွယ်စုံကျော်ထင်ကျမ်း လာ၊ အဘိဓမ္မာ ဆိုင်ရာပြဿနာဖြစ်သည့် အနည်းငယ်မျှသော အကြောင်းအရာများသာဖြစ်ပါသည်။ သို့ဖြစ်၍ အဘိဓမ္မာဆိုင်ရာ သဘောတရားအားလုံးကို ပြည့်ပြည့်ဝဝရေးသားတင်ပြနိုင်သည် မဟုတ်ပေ။ သို့သော် သက်ဆိုင်ရာပြဿနာဖြစ်သည့် အဘိဓမ္မာ အကြောင်းအရာများကိုကား ဂဃနဏသိရှိနားလည်နိုင်ပေမည်။ ထိုသို့ သိရှိနားလည်သည်နှင့်အမျှ အမှားသိမှုများ၊ မပြည့်မစုံသိမှုများ၊ ဉာဏ်အမြင်မရှင်းလင်းဘဲ ဇဝေဇဝါဖြစ်နေမှုများ တစ်နည်းမဟုတ် တစ်နည်း ပပျောက်ပြီးအဘိဓမ္မာ အသိဉာဏ်များ သန့်ရှင်းစင်ကြယ် ၍အမှန်သိမှုများဖြစ်လာပေမည်၊ အမှန်သိရှိမှုသာဘဝ၏အနှစ် သာရကို ရနိုင်ပေမည်၊ ယင်းအမှန်သိဖြင့် ဘဝ၏အနှစ်သာရများ ကိုအရယူနိုင်ပြီး ဒုက္ခအားလုံးတို့၏ချုပ်ဆုံးရာ နိဗ္ဗာန်အထိ

အကျိုးရှိနိုင်ပါသည်။ အဘိဓမ္မာဆိုင်ရာ ဗဟုသုတများနှင့်လိုက်နာကျင့်သုံးဖွယ်ရာဥပဒေသများကိုလည်း အနည်းနှင့်အများဆိုသလိုလိုက်နာကျင့်သုံးလာနိုင်ပေမည်။ လိုက်နာကျင့်သုံးသည်နှင့်အမျှလောကီအကျိုး၊ လောကုတ္တရာအကျိုးများကိုလည်း ရရှိမည်ဖြစ်ပါသည်။ ဤမျှအကျိုးသက်ရောက်မှုရှိလျှင်ပင် ဤကျမ်းကို အပင်ပန်းခံရေးသားရကျိုးနပ်ပေပြီဟု ဆိုရပေမည်။

အဘိဓမ္မာသဘောတရားများကို ပြည့်ပြည့်ဝဝနားလည်နိုင်ရေးအတွက်ကား ဆက်လက်လေ့လာဖို့လိုပါသည်။ ဆက်လက်ပြီးခွဲခြမ်းစိတ်ဖြာ၍ လေ့လာရန်လည်း တိုက်တွန်းလိုပါသည်။ အဘယ့်ကြောင့်ဆိုသော် အဘိဓမ္မာသည်ဘဝလမ်းညွှန်မှုပဲ့ကိုင်ဒေသနာဖြစ်သောကြောင့်ပင် ဖြစ်ပါသည်။ မှန်ပါသည်၊ အဘိဓမ္မာလာ ရုပ်နာမ်တို့၏ ဖြစ်ပျက် သဘာဝအမှန်ကို သိရှိနားလည်လျှင်ရုပ်ဝါဒသမား၊ နာမ်ဝါဒသမား-ဟူသော အစွန်းမှလည်းကောင်း၊ ပြတ်စဲအယူ ဥစ္ဆေဒဒိဋ္ဌိနှင့် ရှိမြဲအယူသဿတဒိဋ္ဌိဟူသော အစွန်းမှလည်းကောင်း လွတ်မြောက်နိုင်ပြီး၊ မဇ္ဈိမပဋိပဒါလမ်းစဉ်ကိုလျှောက်လှမ်းနိုင်ပေမည်။ ထိုသို့အစွန်းလွတ်မဇ္ဈိမပဋိပဒါအကျင့်မြတ်ဖြင့် မှန်ကန်သောသစ္စာဉာဏ်များ ပေါ်ထွန်းနိုင်ပါသည်။ ၎င်းမှန်ကန်သောသစ္စာဉာဏ်ဖြင့်ဘဝလွတ်မြောက်ရေးပန်းတိုင်နိဗ္ဗာန်အထိ လှမ်းကိုင်နိုင် မည်မှာမလွဲပေ။ တစ်နည်းအားဖြင့် အဘိဓမ္မာလာရုပ်နာမ်တို့၏ ဖြစ်ပျက် သဘာဝအမှန်ကို သိရှိနားလည်ပြီးဖြစ်ပျက်ဒုက္ခသစ္စာကို မြင် အောင်ရှုမှတ်ပွားများနိုင်ခဲ့လျှင် ဘောဘစသောကိလေသာများနှင့်ရုပ်,နာမ်ဖြစ်ပျက်ဒုက္ခများပါငြိမ်းအေးပြီးနိရောဓသစ္စာ- နိဗ္ဗာန် အထိအကျိုးရှိနိုင်ပါသည်။ ဤသို့အကျိုးများ

လှ၍ အဘိဓမ္မာသဘောတရားများကို ပြည့်ပြည့်ဝဝနားလည် နိုင်ရေးအတွက် ဆက်လက် လေ့လာပါရန် တိုက်တွန်းအပ်ပါသည်။

သုတေသနဟူသည် ဆုံးခန်းတိုင်သည်ဟူ၍ မရှိပေ။ သို့ဖြစ်၍ ကျမ်းပြုသူ သုတေသနပြုပြီးရေးသားခဲ့သည့် ဤကျမ်း သည်လည်း ဖြည့်စွက်စရာမလို၊ အပြည့်စုံဆုံးဖြစ်နေပြီဟူ၍ကား မဆိုနိုင်ပေ။ ထို့ကြောင့် ဤကျမ်းကို ယခုထက်ပိုမိုပြည့်စုံမှန်ကန် ပြီး၊ ပိုမိုကောင်း မွန်းအောင် ရေးသားနိုင်မည်ဆိုလျှင် သုတေသန ဆက်လက်ပြု ပြီးရေးသားကြပါရန်နှင့်အခြားသုတေသနပြုရေးသားရန် ကျန်ရှိနေ သေးသည့် အကြောင်းအရာများကိုလည်း ဆက်လက်သုတေသန ပြုပြီးရေးသားကြရန်ဆန္ဒပြုအပ်ပါသတည်း။

**နိဂုံးနှင့်ဆုတောင်း (ဂါထာ)**

၁။ ဝိဟရန္တော ကတော ဂန္ထော၊ ကချင်ဝိဇ္ဇာလယေ အယံ၊
ရတနသာ နုဘာဝေန၊ အနာကုလော သုနိဋ္ဌိတော၊
(ပထျာဝတ္တ)

၂။ ဣမိနာဓမ္မဒါနေန၊ ဗောဓိဉာဏံ လဘာမဟံ၊
ပညံ့ဝ သံသရန္တောပိ၊ ပုရေယျာမိ ဘဝါဘဝေ။(ပထျာဝတ္တ)

၁။ (မယာ- ဣန္ဒောဘာသဟု နာမသမုတ်အကျွန်ုပ်သည်)၊ ကချင်ဝိဇ္ဇာလယေ- နိုင်ငံတော်ပရိယတ္တိသာသနာ့တက္ကသိုလ် (ရန်ကုန်) ကချင်ပြည်နယ်ဝိဇ္ဇာလယကျောင်းတော်ကြီး၌၊ ဝိဟရန္တော- သီတင်းသုံးနေစဉ်၊ ကတော-ပြုစီရင်အပ်သော၊ အယံ ဂန္ထော-“စွယ်စုံကျော်ထင်ကျမ်းလာ အဘိဓမ္မာဆိုင်ရာပြဿနာများ”

ဟူသော ဤကျမ်းစာသည်၊ ရတနသဿနူဘာဝေန-ရတနာသုံးပါး၏အာနုဘော်ကြောင့် (ဝါ) ဘုရားစသားရတနာများကို ဦးခိုက်ပူဇော်ဖူးလျှော်မာန်လျှော့ ကန်တော့ရသောပမာဏကုသိုလ်ကံစေတနာ၏ အာနုဘော်ကြောင့်၊ အနာကုလော- နှောက်ယှက်ဖျက်ဆီး ဘေးရန်အသီးသီးမှ လွတ်ကင်းသည်ဖြစ်၍၊ သုနိဋ္ဌိတော-၁၃၅၄-ခု၊ ဥတုဝသန္တ ဝါခေါင်လ၏လဆန်း(၁၁)ရက် တနင်္ဂနွေနေ့၌နှစ်သက်ရွှင်ပြုံး၊ အပြီးအဆုံးသို့ ကောင်းစွာမသွေရောက်ခဲ့ပေပြီ။

၂။ ဣမိနာဓမ္မဒါနေန- ဤသို့ကျမ်းဂန်ပြုစု ဓမ္မဒါနကုသိုလ်စုကြောင့်၊ အဟံ- အကျွန်ုပ်သည်၊ ဗောဓိဉာဏံ- ဗောဓိဉာဏ်ကို၊ လာဘာမိ- ရရပါလို၏၊ ဘဝါဘဝေ- ဘဝကြီး,ဘဝငယ်အသွယ်သွယ်၌၊ သံသရန္တောပိ- အလိုမရှိဘဲ ကျင်လည်ရသော်လည်း၊ ပညံဝ-ပညာပါရမီတော်ကိုသာလျှင်၊ ပူရေယျာမိ- တစ်ဆင့်ထက် တစ်ဆင့်မြင့်သထက်မြင့်အောင် လုံ့လကြိုးကုတ် စွမ်းအားထုတ်၍ မလင့်ပုံသေဖြည့်ကျင့်နိုင်ပါစေသတည်း။ ။



အများသိဖြင့် ဘဝအနှစ်သာရ၊ ဘဝတန်ဖိုးကိုမရနိုင်။
အမှန်သိရှိမှသာ ဘဝအနှစ်သာရ၊ ဘဝတန်ဖိုးကိုရရှိနိုင်ပေမည်။
သို့ဖြစ်၍ စွယ်စုံကျော်ထင်ကျမ်းကြီး၌
အဘိဓမ္မာဆိုင်ရာ အဖြေများနှင့် စပ်လျဉ်း၍
လေ့လာသူ သုတေသီပုဂ္ဂိုလ်တိုင်း အများသိမှ အမှန်သိဖြစ်ပြီး
ဘဝအနှစ်သာရ၊ ဘဝတန်ဖိုးကို ရရှိနိုင်ရေးအတွက်
ဤကျမ်းစာအုပ်ကို ထုတ်ဝေပါသည်။

GRAPHIC
NAY WINN AUNG